learn the truth about this incident due to censorship, misinformation and disinformation.[23] Rather than focusing on the mismanagement and strict orders of the military officers running the school, the article reflects on those officers' mental states and grudges.

The journal is proud to present an interview with Hla Shwe, which includes a record of ABFSU activities from 1950-1960. Readers learn about the union's work representing students, and its mobilizations on campus, within the nation, and abroad during the height of the Cold War. Like Sai Kyaw Nyunt, Hla Shwe also suffered under interrogation after he was captured in battle fighting for the Communist Party of Burma. However, Hla Shwe's interrogation experiences were not as harsh as Sai Kyaw Nyunt's. This suggests the question of why the treatment of political detainees has worsened after the 1988 uprising. It is also noteworthy how 'student union spirit' and examples of justice and morality have been passed down from generation to generation among students.

Phyoe Phyoe Aung's article discusses the secret reorganization of the ABFSU in 2007 and its relationships with other university student unions; with proxy unions organized by university authorities; and with the ruling government. She also notes how union members strived to keep the ABFSU relevant among the public.

Lay Lay Mon's account of participating in the Dagon University strikes during what came to be known as the 1996 student movement is unique in that it focuses on the generational gap between students of different ages. Therefore, it provides an opportunity to learn about the situation of students around 2016 when the NLD government came to power.

Two interviews round out the special issue. The first, with Soe Tun, also vividly sketches the conditions and causes that led to the 1996 student movement. Soe Tun describes how the military junta diverted university students' attention away from politics, how it spread fear among the students, and how the

[23] However, one journalist wrote about the incident in 2016, following the student activism workshop (Kyaw Phone Kyaw, 2016).

students of the 1996 generation mobilized. The second interview is with Min Han Htet, who was President of the Dagon University Student Union during the nationwide uprising after the 2021 military coup. He covers his role in mass protest, contextualized by his personal background. He explains how his famous speech, “We must instill fear in the military”, came about. The reverse strategy of instilling the fear that previous military regimes generated in students back into the military and its regime is powerful. That speech gained a reputation as an inaugural slogan of those fighting against the State Administration Council since the 2021 coup, inspiring anti-coup resistance so that the military still, at the time of printing, cannot effectively govern the entire country.

## Closing Remarks

Political events are dynamic and there are many known and unknown factors to consider when analyzing them. Therefore, just as it is hard to interpret and draw conclusions from the past, it is also not easy to make accurate predictions about the future. In one survey conducted during the mass protests and uprisings after the 2021 coup in Myanmar, it was observed that students were an important group among the protesters (some of whom were student union members). In an interview conducted in August 2021, a female student answered, “I am a student union member. I have an obligation to fight against injustice, which is the union’s historical responsibility”.[24] According to these responses, it is likely more student movements will continue to emerge, as long as the student union spirit remains strong and oppressions and injustices continue.

## Acknowledgments

First, we would like to express our sincere thanks to everyone who participated in the 2016 workshop in which this special

[24] Su Mon Thant, 2021.

issue was conceived. Second, we would like to show our gratitude to all the student activists of old and new generations that contributed their manuscripts and interviews. Last but not least, thanks to Sa Waw Thang, who assisted with research for this introduction and copyedited the original Burmese manuscripts. We would also like to thank the three unnamed artists who contributed the cover artwork and illustrations for the special issue.

## References

Altbach, P. G. (1974). *Student Politics in America: A Historical Analysis*. McGraw-Hill Book Co.

Altbach, P. G. (1987). *Higher Education in the Third World: Themes and Variations*. Stosius Inc.

Aspinall, E. (2012). Indonesia: Moral Force Politics and the Struggle Against Authoritarianism. In M. L. Weiss, & E. Aspinall (Eds.), *Student Activism in Asia: Between Protest and Powerlessness* (pp. 153-180). University of Minnesota Press.

Independent Research Network. (2022). *The Internal Struggle: The Fight for an Inclusive National Identity in Myanmar*.

Jordt, I., Tharaphi Than, & Sue Ye Lin. (2021). How Generation Z Galvanized a Revolutionary Movement Against Myanmar's 2021 Military Coup. *Trends in Southeast Asia*. https://www.iseas.edu.sg/wp-content/uploads/2021/04/TRS7_21.pdf

Kyaw Phone Kyaw. (2016, December 19). The Forgotten Mutiny at Pyin Oo Lwin. *Frontier Myanmar.* https://www.frontiermyanmar.net/en/the-forgotten-mutiny-at-pyin-oo-lwin/

Lipset, S. M. (1967). University Students and Politics in Underdeveloped Countries. In S. M. Lipset (Ed.), *Student Politics* (pp. 3-53). Basic Books.

Lipset, S. M. (1971). *Rebellion in the University*. Little, Brown and Co.

Lipset, S. M., & Altbach, P. G. (Eds.). (1969). *Students in Revolt*. Houghton Mifflin.

Metro, R. (2016). The University Student Protests in Burma/Myanmar, 2014–2016. In J. Millican (Ed.), *Universities and Conflict: The Role of Higher Education in Peacebuilding and Resistance* (pp. 205-218). Routledge.

Pinner, F. A. (1971). Students: A Marginal Elite in Politics. *The ANNALS of the American Academy of Political and Social Science*, *395*(1), 127–138.

Quinn, E., Lilienfeld, R., & Hill, R. (Eds.). (1972). *Interdiscipline: A Reader in Psychology, Sociology, and Literature*. Free Press.

Rives, N. M. L. (2014). *University Student Activism in Burma/Myanmar During the 1980s* [Unpublished doctoral dissertation]. University of Kansas.

Rootes, C. A. (1980). Student Radicalism: Politics of Moral Protest and Legitimation Problems of the Modern Capitalist State. *Theory and Society, 9*(3), 473-502. http://www.jstor.org/stable/656878

Schubert, G., Tetzlaff, R., & Vennewald, W. (Eds.). (1994). *Demokratisierung und Politischer Wandel. Theorie und Anwendung des Konzeptes der strategischen und konfliktfähigen Gruppen [Democratization and Political Change. Theory and Application of the Concept of Strategic and Conflict-capable Groups]*. LIT.

Silverstein, J. (1968). Burmese Student Politics in a Changing Society. *Daedalus, 97*(1), 274-292. http://www.jstor.org/stable/20023809

Silverstein, J. (1970). Burmese and Malaysian Student Politics: A Preliminary Comparative Inquiry. *Journal of Southeast Asian Studies, 1*(1), 3-22. http://www.jstor.org/stable/20069843

Su Mon Thant. (2021). *In the Wake of the Coup: How Myanmar Youth Arose to Fight for the Nation*. https://eu.boell.org/en/young-voices-myanmar

Turner, A. (2014). *Saving Buddhism: The Impermanence of Religion in Colonial Burma*. University of Hawaii Press.

Weiss, M. L., & Aspinall, E. (Eds.). (2012). *Student Activism in Asia: Between Protest and Powerlessness*. University of Minnesota Press.

Win Min. (2012). Burma: A Historic Force, Forcefully Met. In M. L. Weiss & E. Aspinall (Eds.), *Student Activism in Asia: Between Protest and Powerlessness* (pp. 181-204). University of Minnesota Press.

*ဗမာနိုင်ငံလုံးဆိုင်ရာကျောင်းသားသမဂ္ဂများအဖွဲ့ချုပ် (တရားဝင်)ဖြစ်မြောက်ရေးကော်မတီ၏ပထမအကြိမ်ညီလာခံ ၂၈.၈.၈၈*၊ (၂၀၁၆)၊ ယဥ္ဇမျိုးစာအုပ်တိုက်။

၇၄-၇၅-၇၆ နိုင်ငံရေးအင်အားစု၊ (၂၀၁၃)၊ *၇၄-၇၅-၇၆ မ.ဆ.လ အာဏာရှင်ဆန့်ကျင်ရေးအံတုလှုပ်ရှားမှုများ*၊ ရွှေပြည်တန် စာအုပ်တိုက်။

ကျော်သူစိုး(ကလေး)၊ (၂၀၁၆)၊ *ကောလိပ်သူပုန်-စစ်အာဏာရှင်လက်ထက်တွင်ပထမဆုံးနှင့် နောက်ဆုံးသောတပ်တွင်း ကောလိပ်တော်လှန်ရေး*၊ မြန်မာ့ခေတ်စာပေ။

ခင်မောင်ကြီး၊ (၂၀၁၃)၊ *မေ့ပျောက်နိုင်စရာမရှိတဲ့ အမျိုးသားနိုင်ငံရေးနှင့် ကျောင်းသားလှုပ်ရှားမှု*၊ ယဥ္ဇမျိုးစာအုပ်တိုက်။

ဇနိယ၊ မောင်၊ (၂၀၁၅)၊ *ဗိုလ်အောင်ကျော် (၁၉၃၈-၃၉ ကျောင်းသားလှုပ်ရှားမှုသမိုင်း)*၊ ယဥ္ဇမျိုးစာအုပ်တိုက်။

ဉာဏ်မောင်ချစ်၊ (၂၀၁၄)၊ *ရန်ကုန်တက္ကသိုလ်ကျောင်းသားများသမဂ္ဂ သမိုင်းအစ*၊ မလိခစာပေ။

တက္ကသိုလ်ကျောင်းသားသမဂ္ဂများ (ရန်ကုန်)၊(၂၀၂၀)၊ *ပထမကျောင်းသားသပိတ်သို့ ဦးညွတ်ခြင်း*၊ ရန်ကုန်လမ်းမများစာပေ။

သံချောင်း၊ဖိုး၊ ရဲဘော်၊ (၂၀၁၃)၊ *ကျောင်းသား၊ထောင်၊တော်လှန်ရေးသမား*၊ ယဥ္ဇမျိုးစာအုပ်တိုက်။

ဘိုးသိမ်း၊ (၂၀၁၆)၊ *တက္ကသိုလ်များဗဟိုချုပ်ကိုင်မှုလျှော့ချရေးနှင့် တခြားတက္ကသိုလ်ရေးရာ၊ကျောင်းသားသမဂ္ဂရေးရာဆောင်းပါးများ*၊ ကေရာဇ်စာပေ။

မင်းသိမ်း၊ ဒေါက်တာ၊ (၂၀၁၃)၊ *ကျောင်းသားသမဂ္ဂအဆောက်အအုံဖောက်ခွဲဖျက်ဆီးမှုတရားခံဘယ်သူလဲ*၊ အောင်ပင်လယ် စာပေတိုက်။

မင်းသိမ်း၊ ဒေါက်တာ၊ (၂၀၂၀)၊ *ကံ့ကော်တောမှ ဒေါင်းပျံ့ခွပ်သံ (ရန်ကုန်တက္ကသိုလ်ကျောင်းသားလှုပ်ရှားမှုသမိုင်း)*၊ လွင်ဦးစာပေ။

ထက်အောင်ကျော်၊ (၂၀၁၃)၊ *သူပုန်ကျောင်းသားတစ်ဦးရဲ့ မာရသွန်ခရီး*၊ Dawei Watch စာပေ။

ထိန်ဝင်း (ခာတ်ပုံ)၊ (၂၀၁၄)၊ *၁၉၇၄ ဦးသန့်အရေးအခင်း*၊ ထိန်ဝင်းစာပေ။

ယဉ်ထွန်း၊ (၂၀၁၃)၊ *7th July အရေးတော်ပုံမှတ်တမ်း*၊ ယဉ်မျိုးစာပေ။

လှကွန့် (စုစည်းတင်ပြ)၊ (၂၀၁၃)၊ *အရိုးတွန်တဲ့ဇူလိုင် (၇)*၊ ဇင်ရတနာစာပေ။

ဝင်းမောင်သန်း၊ မောင်၊ (၂၀၁၂)၊ *ကျောင်းသားအရေးတော်ပုံ (၁၉၅၃-၅၄)*၊ သံလွင်ငြိမ်းချမ်းစာပေ။

အောင်ထွန်း၊ (၂၀၁၂)၊ *မြန်မာနိုင်ငံကျောင်းသားလှုပ်ရှားမှုသမိုင်း (၁၉၀၃-၁၉၆၂)*၊ ပဒ္မဂံစာပေ။

အောင်ဒင်၊ (၂၀၁၄)၊ *နွေတစ်ညမှ အစပြု၍*၊ ခေတ်ပြတိုက်စာပေ။

အောင်ဝေး၊ (၂၀၁၃)၊ *ကိုဗဟိန်းမှသည်ကျော်ကိုကိုအထိ မြန်မာနိုင်ငံကျောင်းသားလှုပ်ရှားမှုသမိုင်းအကျဉ်း (၁၉၀၃-၂၀၀၇)*၊ မြန်မာ့ခေတ်စာအုပ်တိုက်။

အောင်သာ (PPP)၊ (၂၀၁၆)၊ *ခေတ်ပြိုင်မြန်မာ့နိုင်ငံရေးနှင့် ကျောင်းသားလှုပ်ရှားမှုအဆင့်နေရာ*၊ ယဉ်မျိုးစာအုပ်တိုက်။

# မြန်မာနိုင်ငံခေတ်အဆက်ဆက် ကျောင်းသားလှုပ်ရှားမှု – မျှော်လင့်ချက်၊ မျှော်မှန်းချက်နှင့် ကိုယ်စားပြုမှု

အေ့ဆင်မ်[1]

မြန်မာနိုင်ငံ၏ လွတ်လပ်ရေးကြိုးပမ်းမှု၊ ဒီမိုကရေစီရေးနှင့် အာဏာရှင်စနစ်တိုက်ဖျက်ရေးသမိုင်းတွင် ခေတ်အဆက်ဆက် ပေါ်ထွန်းခဲ့သော ကျောင်းသားလှုပ်ရှားမှုများ၏ အခန်းကဏ္ဍသည် ပဓာနကျကာ အရေးပါလှသည်။ ကျောင်းသားဘဝသည် လူ့ဘဝတွင် ဖြတ်သန်းရသော အခိုက်အတန့်ကာလမျှသာ ဖြစ်သည်။ သို့ရာတွင် ကျောင်းသားလှုပ်ရှားမှုများသည် အများအားဖြင့် အုပ်ချုပ်သူအစိုးရ၊ အာဏာပိုင်များနှင့်ပတ်သက်၍ လှုပ်ရှားအရေးဆိုသော ဖွဲ့စည်းတည်ဆောက်ပုံ (structure) ကို စိန်ခေါ်သည့် စုပေါင်းလှုပ်ရှားမှုများ (collective action) ဖြစ်လေသည်။

ကျောင်းသားလှုပ်ရှားမှုများတွင် ဦးဆောင်ပါဝင်ခဲ့၊ ပါဝင်နေသူများ အနေဖြင့် “ကျောင်းသား” ဟူသည့် စုပေါင်းသရုပ်လက္ခဏာ (collective identity) နှင့် ကျောင်းသားသမဂ္ဂများ၏ အခန်းကဏ္ဍကို မည်ကဲ့သို့ ရှုမြင်သုံးသပ်ပါသနည်း။ မည်သို့သော အခြေအနေတွင် ကျောင်းသားများသည် အခြားသော လူထုလူတန်းစားများ၊ အရပ်ဘက်နှင့် နိုင်ငံရေး အဖွဲ့အစည်းများ၊ လှုပ်ရှားမှုများနှင့် ပူးပေါင်းဆောင်ရွက်ပါသနည်း။ အာဏာရအစိုးရတစ်ရပ်၏ ဖိနှိပ်မှု၊ လိုက်လျောမှုနှင့် လွှမ်းမိုးဆဲနိုင်ငံရေး စနစ်အပေါ်လိုက်၍ ကျောင်းသားလှုပ်ရှားမှုများ၏ နယ်ပယ်နှင့် အသွင်သဏ္ဌာန်သည် ပြောင်းလဲနေပါသလား။

---

[1] ကလောင်အမည်။ “မြန်မာနိုင်ငံခေတ်အဆက်ဆက် ကျောင်းသားလှုပ်ရှားမှု – မျှော်လင့်ချက်၊ မျှော်မှန်းချက်နှင့် ကိုယ်စားပြုမှု” မြန်မာဘာသာအဖွင့်ဆောင်းပါးသည် Student Movements in Myanmar Over the Ages: Aspiration, Expectation and Representation အင်္ဂလိပ်ဘာသာ ဆောင်းပါးကို တိုက်ရိုက်ဘာသာပြန်ဆိုထားခြင်း မဟုတ်ပဲ၊ မတူညီသော ဘာသာစကားများ၏ သဘောသဘာဝနှင့် ယဉ်ကျေးမှုနောက်ခံကွာခြားမှုများအပေါ်မူတည်၍ တူညီသောအခြေခံအကြောင်းအရာများကိုပင် မြန်မာဘာသာနှင့် အင်္ဂလိပ်ဘာသာ သီးသန့်စီရေးသားထားခြင်းဖြစ်သည့်အတွက် ဤဆောင်းပါးနှစ်စောင်မှာ ရာနှုန်းပြည့်ထပ်တူညီနေခြင်းမရှိပါ။

မည်သို့သော နိုင်ငံတကာဖြစ်စဥ်များနှင့် ကမ္ဘာ့ကျောင်းသား လှုပ်ရှားမှုများသည် မြန်မာ့ကျောင်းသား တက်ကြွလှုပ်ရှားသူများအပေါ် စေ့ဆော် အကျိုးသက်ရောက်မှု ရှိစေပါသနည်း။ လူမှုစီးပွားဖွံ့ဖြိုး တိုးတက်မှုသည် ကျောင်းသားလှုပ်ရှားမှုများကို အားကောင်းစေမည်လား သို့မဟုတ် အားလျော့စေမည်လား။ လွတ်လပ်သော မြန်မာ့ သုတေသနဂျာနယ် - သိစပ်မြင်နှံ့ (Independent Journal of Burmese Scholarship) ၏ "ကျောင်းသားလှုပ်ရှားမှုများ" အကြောင်း ဤအထူးစာစောင်တွင် အဆိုပါမေးခွန်းများအပါအဝင် အခြားဆက်စပ် မေးခွန်းများကို မြန်မာနိုင်ငံကျောင်းသားလှုပ်ရှားမှုများတွင် တက်ကြွစွာ ပါဝင်ခဲ့သူများက ဆွေးနွေးရေးသား ဖြေဆိုထားကြပါသည်။

## မြန်မာနိုင်ငံ ကျောင်းသားလှုပ်ရှားမှုဆိုင်ရာ ပညာရပ်စာပေ

အမှန်စင်စစ် ကျောင်းသားလှုပ်ရှားမှုများ၊ ကျောင်းသားတော်လှန်ရေးများ (student resistance) နှင့်ပတ်သက်၍ သမိုင်း၊ နိုင်ငံရေးသိပ္ပံ၊ မနုဿဗေဒ အစရှိသည့် ပညာရပ်ပိုင်းဆိုင်ရာရှုထောင့်များမှ ချဉ်းကပ် သုံးသပ်ချက်များသည် မြန်မာနှင့် နိုင်ငံတကာပညာရပ်အသိုက်အဝန်းတွင် နည်းပါးနေဆဲဖြစ်ပါသည်။ ဆေးလ်ဗားစတိုင်း၏ မြန်မာနိုင်ငံ ကျောင်းသားလှုပ်ရှားမှုများကို သုံးသပ်ချက်၊ မြန်မာနှင့် မလေးရှား ကျောင်းသားနိုင်ငံရေးတို့ကို နှိုင်းယှဥ်လေ့လာချက်များမှာ ၁၉၇၀ ပြည့်နှစ်ဝန်းကျင်အထိသာ မှတ်တမ်းရှိပါသည်။[2] ဝိုက်စ်နှင့် အက်စ်ပီနော က ၂၀၁၂ ခုနှစ်တွင် တည်းဖြတ်ထုတ်ဝေခဲ့သော အာရှတိုက်ရှိ ကျောင်းသားလှုပ်ရှားမှုများအကြောင်း စာအုပ်တွင် မြန်မာကျောင်းသားတက်ကြွလှုပ်ရှားသူတစ်ဦးဖြစ်ခဲ့သည့် ကိုဝင်းမင်း၏ ၂၀၀၈ ခုနှစ်အထိ မြန်မာနိုင်ငံနှင့် ပတ်သက်သည့် အခန်းတစ်ခန်း ပါဝင်ခဲ့ပါသည်။[3] အုပ်ချုပ်မှုသဏ္ဌာန် (regime type) အပေါ်လိုက်၍ ကျောင်းသား လှုပ်ရှားမှုများ၏ သွင်ပြင်လက္ခဏာ၊ ကျင်လည်ရာနယ်ပယ်နှင့် သက်ရောက်မှု ကွာခြားသွားပုံကို ၎င်းက ထောက်ပြခဲ့သည်။

မြန်မာနိုင်ငံဖွား နန်းမိုလောဝ် ရိဗ်စ် (Nang Mao Lao Rives) သည် ကင်းဆပ်တက္ကသိုလ်သို့ ၎င်း၏ ပါရဂူဘွဲ့အတွက် ၂၀၁၄ ခုနှစ်၌ တင်သွင်းသော

[2] Silverstein, 1968; Silverstein, 1970.
[3] Weiss & Aspinall, 2012; Win Min, 2012.

ကျမ်းတွင် ၁၉၈၀ ဝန်းကျင်နှစ်များအတွင်း မြန်မာနိုင်ငံရှိ တက္ကသိုလ်ကျောင်းသားများ၏ နိုင်ငံရေးလှုပ်ရှားမှုများအကြောင်းကို သုတေသနပြုရေးသားခဲ့သည်။[4] နန်းမိုလောင် ရိဗ်စ်က "သားသုံးသား" ဟူ၍ မြန်မာတို့ ညွှန်းဆိုလေ့ရှိကြသည့် စစ်သား၊ ဘုရားသား (သံဃာ) နှင့် ကျောင်းသားတို့၏ ပါဝါအထက်လွှာ (power elites) ဆိုင်ရာ အားပြိုင်မှုကို လေ့လာပြီး မြန်မာနိုင်ငံတွင် ကျောင်းသားလှုပ်ရှားမှုများအား ပေါက်ဖွားစေသော၊ ပုံဖော်ပေးသော အချက်သုံးချက်ရှိကြောင်း ထောက်ပြခဲ့သည်။[5] ပထမအချက်မှာ မြန်မာ့လူ့အဖွဲ့အစည်းရှိ ထင်ရှားသူများသည် အာဏာရှင်အစိုးရ ဆန့်ကျင်ရေးလှုပ်ရှားမှုကို ခေါင်းမဆောင်နိုင်သည့် (သို့မဟုတ်) အစမပျိုးနိုင်သည့် "နိုင်ငံရေးကွက်လပ်" ရှိနေခြင်းဖြစ်သည်။ ဒုတိယအချက်မှာ လွတ်လပ်ရေး ကြိုးပမ်းမှုကာလ "သခင်" ကျောင်းသားတက်ကြွလှုပ်ရှားသူများ၏ သမိုင်းအမွေက နောက်မျိုးဆက်များအပေါ် နှိုးဆော်အားပေးမှုရှိနေခြင်း ဖြစ်သည်။ တတိယအချက်အနေဖြင့် ဘဝတူကျောင်းသားများအပေါ် အာဏာရှင်အစိုးရတို့၏ အကြမ်းဖက်သော၊ တရားမျှတမှုကင်းမဲ့သော ဖိနှိပ်ချုပ်ချယ်မှုများ ကျရောက်ချိန်တွင် ရိုင်းပင်းကူညီရန်အတွက် ခိုင်မာအားကောင်းသော ကျောင်းသားဟူသည့် စုပေါင်းသရုပ်လက္ခဏာ ပေါ်ပေါက်လာရခြင်းဖြစ်သည်။[6]

နိုင်ငံရေး အကူးအပြောင်းကာလတွင် ပညာရေးစနစ်ကို ပြုပြင်ပြောင်းလဲရန် အစိုးရက အမျိုးသားပညာရေးဥပဒေ (National Education Law) ကို ပြဋ္ဌာန်းရန် ကြိုးစားရာက ၂၀၁၄ ခုနှစ်မှ ၂၀၁၆ ခုနှစ်အတွင်း ဖြစ်ပေါ်လာသော တက္ကသိုလ်ကျောင်းသားများ၏ ဒီမိုကရေစီပညာရေးလှုပ်ရှားမှုအကြောင်းကို မေထရိုက သုံးသပ် ရေးသားခဲ့သည်။[7] အာဏာပိုင်များနှင့် ကျောင်းသားထုအကြား ဒီမိုကရေစီနှင့် ဒီမိုကရေစီပညာရေးကို အဓိပ္ပာယ်ဖွင့်ဆိုမှု ကွာခြားရာမှ နိုင်ငံရေးပဋိပက္ခဆန်သော ကျောင်းသားလှုပ်ရှားမှုတစ်ရပ် ပေါက်ဖွားလာရပုံကို ၎င်းက ထောက်ပြခဲ့သည်။

---

[4] Rives, 2014.
[5] Ibid.
[6] Win Min, 2012.
[7] Metro, 2017.

## နိုင်ငံရေးနောက်ခံနှင့် ကျောင်းသားလှုပ်ရှားမှုသမိုင်း

မြန်မာနိုင်ငံတွင် ကျောင်းသားလှုပ်ရှားမှုများသည် လွတ်လပ်ရေး ကြိုးပမ်းမှု၊ စစ်အာဏာရှင် ဆန့်ကျင်ရေး၊ ဒီမိုကရေစီရေးနှင့် လူ့အခွင့်အရေးကြိုးပမ်းမှုတွင် မရှိမဖြစ် အရေးအကြီးဆုံး အခန်းကဏ္ဍမှ ပါဝင်လျက်ရှိသည်။ သို့သော် လွတ်လပ်ရေးရရှိပြီးသည့်နောက် ပေါ်ပေါက်ခဲ့သည့် ကျောင်းသားလှုပ်ရှားမှု များနှင့် ပတ်သက်ပြီး မြန်မာနိုင်ငံတွင်း တိုက်ရိုက်ပါဝင်ခဲ့သူများအနေဖြင့် စနစ်တကျ လေ့လာမှတ်တမ်းတင်နိုင်မှုမှာ နည်းပါးခဲ့သည်။ အထူးသဖြင့် ၁၉၆၂ ခုနှစ် စစ်တပ်အာဏာသိမ်းမှုနောက်ပိုင်းမှစ၍ ၂၀၁၂ ခုနှစ်အထိကာလအတွင်း မြန်မာနိုင်ငံသည် တစ်ကိုယ်တည်း သီးခြားရပ်တည်ရမှု(isolationism) ကြောင့် ပြင်ပကမ္ဘာရှိ အသိပညာဆိုင်ရာ ဖြစ်ပေါ်တိုးတက်မှုများနှင့် အတိုင်းအတာ တစ်ခုအထိ အဆက်အသွယ်ပြတ်တောက်ခဲ့ရသည်။ ထို့ပြင် ပြည်တွင်း၌လည်း လွတ်လပ်စွာ ပြောဆိုရေးသားထုတ်ဝေခွင့် မရှိသည့်အတွက် တက်ကြွလှုပ်ရှား သူ ကျောင်းသားမျိုးဆက် တစ်ဆက်နှင့် တစ်ဆက်အကြား "သက်ကြီးစကား သက်ငယ်ကြား" ရန် ခက်ခဲသွားခဲ့ရသည်။

ထိုကဲ့သို့သော နောက်ခံအခြေအနေတွင် ဤစာစောင်ကို စီစဥ်တည်းဖြတ် ရာ၌ အယ်ဒီတာအဖွဲ့၏ ရည်ရွယ်ချက်မှာ ပညာရှင်အချင်းချင်း နှီးနှောဖလှယ်မှု (academic-to-academic) အဖြစ် ဖတ်ရှုရမည့် သီးသန့်ပညာရပ်ဆိုင်ရာ ဆောင်းပါးများကိုသာ ထုတ်ဝေရန် မဟုတ်ချေ။ ရည်ရွယ်ချက်မှာ အာဏာရှင် အစိုးရများ အုပ်စိုးမှုကာလအတွင်း ဖြစ်ပေါ်ခဲ့သော ပြည်တွင်းနှင့် ပြည်ပ အကြား၊ မျိုးဆက်ဟောင်းနှင့် မျိုးဆက်သစ်တို့အကြား သိမြင်မှုကွာဟချက်များ (knowledge gaps) ကို ပေါင်းကူးချိတ်ဆက်ပေးရန်နှင့် ဖြည့်ဆည်းပေးရန် ဖြစ်သည်။ ထို့ပြင် ဤစုစည်းတင်ပြမှုအပေါ် အခြေခံပြီး နောင်ကာလတွင် ပညာရပ်ဆိုင်ရာစာပေ (academic literature)၊ သဘောတရားရေးရာစာပေ (theoretical literature) နှင့် ကိုယ်တိုင်ပါဝင်လှုပ်ရှားသူများအကြား ခေတ်အဆက်ဆက် ကျောင်းသားလှုပ်ရှားမှုများနှင့် ပတ်သက်၍ နားလည် သဘောပေါက်ပုံ ကွာဟချက်ရှိခဲ့လျှင် ညှိနှိုင်းချိတ်ဆက် ပေးသွားနိုင်ရန်လည်း ရည်ရွယ်ပါသည်။

သို့ဖြစ်၍ ဤစာစောင်ပါ ဆောင်းပါးနှင့် အင်တာဗျူးများမှာ ပညာရပ် ဆိုင်ရာ သုတေသန (academic research) သဘောထက် ကိုယ်တွေ့မှတ်တမ်း

(memoirs) သဘောပိုဆန်နေမည်ဖြစ်သည်။ သို့သော် ဆောင်းပါးရှင်များ၊ အင်တာဗျူးဖြေကြားထားသူများမှာ ကျောင်းသားလှုပ်ရှားမှုများတွင် ဦးဆောင် အခန်းကဏ္ဍမှ တက်ကြွစွာ ပါဝင်ခဲ့သူများဖြစ်သဖြင့် ၎င်းတို့၏ ရေးသား ပြောဆိုချက်များသည် ကျောင်းသားလှုပ်ရှားမှုများအကြောင်းကို ဆက်လက် လေ့လာလိုသူများအတွက် မူရင်းအထောက်အထားများ (primary sources) အဖြစ် အသုံးဝင်မည်ဖြစ်ပါသည်။

ဤစာစောင်ရှိ ဆောင်းပါးများအများစုသည် ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ (၁၉) ရက်နေ့တွင် ရန်ကုန်မြို့၌ လွတ်လပ်သော မြန်မာ့ သုတေသနဂျာနယ် (Independent Journal of Burmese Scholarship) က စီစဉ်ကျင်းပခဲ့သည့် စာတမ်းဖတ်ပွဲနှင့် အလုပ်ရုံဆွေးနွေးပွဲမှ ထွက်ပေါ်လာခဲ့ခြင်း ဖြစ်သည်။ ဆွေးနွေးပွဲတွင် မြန်မာနိုင်ငံ ခေတ်အဆက်ဆက် ကျောင်းသားလှုပ်ရှားမှုများ တွင် ပါဝင်လှုပ်ရှားခဲ့ကြသူ ရှစ်ဦးက သူတို့၏ အတွေ့အကြုံနှင့် အတွေးအမြင် များကို အဓိက ဟောပြောဆွေးနွေးကြပြီး တက်ရောက်သူ ကျောင်းသား မျိုးဆက်ဟောင်းနှင့် မျိုးဆက်သစ် (၄၀) ဦးခန့်က ဝိုင်းဝန်းဆွေးနွေးအကြံပြု ပေးခဲ့ကြသည်။ ဆွေးနွေးပွဲကို စီစဉ်ရာ၌ ၉၆-၉၈ ကျောင်းသားလှုပ်ရှားမှုတွင် တက်ကြွလှုပ်ရှားခဲ့သူများဖြင့် ဖွဲ့စည်းတည်ထောင်ထားသော Myanmar Institute for Democracy (MID) အဖွဲ့ကလည်း ကူညီပေးခဲ့သည်။ အကြီးဆုံး အသက်ရှစ်ဆယ်ကျော် ကျောင်းသား ခေါင်းဆောင်ဟောင်းများမှသည် အငယ်ဆုံး အသက်နှစ်ဆယ်ကျော် ကျောင်းသားလူငယ်မျိုးဆက်သစ်များအထိ ပါဝင်တက်ရောက်ခဲ့ကြသည့် အလုပ်ရုံဆွေးနွေးပွဲလည်း ဖြစ်ပါသည်။

## ကိုယ်စားပြုမှုနှင့် "မျိုးဆက်" ပြဿနာ

အလုပ်ရုံဆွေးနွေးပွဲကို စီစဉ်သည့်အချိန်၌ပင် ပါဝင်ဆွေးနွေးသူများကို အယ်ဒီတာအဖွဲ့က ကနဦး မေးမြန်းလိုသော သုတေသနမေးခွန်းများထက် ပိုမို များပြားကျယ်ပြန့်သည့် မေးခွန်းများ ထပ်ဆင့်ထွက်ပေါ်လာခဲ့သည်။ ကျောင်းသားများအနေဖြင့် ကျောင်းသားလှုပ်ရှားမှုတစ်ရပ်တွင် ပါဝင်ခဲ့ရခြင်း ၏ "မျှော်လင့်ချက်"၊ "မျှော်မှန်းချက်" နှင့် "ကိုယ်စားပြုမှု" ဟူ၍ အဓိကအချက် ရှုထောင့်သုံးခုကို မူတည်ဆွေးနွေးရာတွင် ၎င်းတို့ ဖြတ်သန်းခဲ့ရသည့် ခေတ်နှင့်

မျိုးဆက်အပေါ်မူတည်၍ ခံယူနားလည်ပုံ အမျိုးမျိုးကွာခြားသွားကြောင်း တွေ့ရှိရပေသည်။

ဥပမာအားဖြင့် ကျောင်းသားထု၏ ရွေးကောက်ခြင်းကို ခံရ၍ တရားဝင် ကျောင်းသားသမဂ္ဂများတွင် ကျောင်းသားခေါင်းဆောင်ဖြစ်လာခဲ့သည့် ၁၉၆၂ မျိုးဆက်မှ ဦးလှရွှေကဲ့သို့သော ပုဂ္ဂိုလ်များအတွက် နောက်မျိုးဆက် ကျောင်းသားခေါင်းဆောင်ဆိုသူ အများစုသည် မိမိဘာသာ ခေါင်းဆောင်နေရာ တင်မြှောက်ထားသူများအဖြစ်သာ ယူဆစရာဖြစ်နေပေသည်။ ထို့ပြင် အစိုးရ များသည် ၎င်းတို့အား လိုလားသည့် ကျောင်းသားသမဂ္ဂနှင့် ကျောင်းသား ခေါင်းဆောင်များကို အားပေးချီးမြှောက်ပြီး ၎င်းတို့အား ဆန့်ကျင်သည့် ခေါင်းဆောင်နှင့် သမဂ္ဂများကို ထိန်းညှိရန် ကြိုးစားလေ့ရှိသည့်အချက်ကို ဤစာစောင်ပါ မဖြိုးဖြိုးအောင်၏ ဆောင်းပါးတွင် ထောက်ပြထားပါသည်။ သို့သော် ဖိနှိပ်မှုပြင်းထန်၍ ခက်ခဲကြမ်းတမ်းသော ခေတ်အခါ၊ နိုင်ငံရေး ပတ်ဝန်းကျင်၌ ကျင်လည်လှုပ်ရှားခဲ့ရသည့် ကျောင်းသားများနှင့် ကျောင်းသား သမဂ္ဂများအတွက်မူ ခေါင်းဆောင်ဟု အမည်တပ်ခြင်းသည် ကိုယ်စားပြုမှုနှင့် မဖြစ်မနေ ဆက်စပ်စဉ်းစားရန် လိုအပ်သော ကိစ္စမဟုတ်ပေ။ လက်တွေ့ အားဖြင့် ခေါင်းဆောင်မှုအရည်အချင်းနှင့် အမြော်အမြင်ရှိရန်က ပိုမိုအရေးကြီး ပေလိမ့်မည်။

ကျောင်းသားလှုပ်ရှားမှုတွင် မထင်မရှားနေရာကသာ ပါဝင်ပတ်သက်ခဲ့ ပြီး မိမိမှာ မည်သည့် "မျိုးဆက်" ကပါဟု ပြောဆိုရေးသားသူ ကျောင်းသားများ ကိုလည်း ၆၂ ကျောင်းသားခေါင်းဆောင် ဦးလှရွှေက ဝေဖန်ခဲ့သည်။ သို့ရာတွင် ကျောင်းသားလှုပ်ရှားမှုများတွင် မျိုးဆက်အလိုက် သတ်မှတ်မှု၊ ပါဝင်လှုပ်ရှားမှု များမှာ ပုံသေကားကျ မရှိချေ။ "၈၈ မျိုးဆက်ကျောင်းသားများ" ဟုဆိုရာတွင် ၁၉၈၈ ခုနှစ်၊ ရှစ်လေးလုံးအရေးတော်ပုံကာလ၌ ပါဝင်ခဲ့ကြသော ကျောင်းသား များ သာမက ၁၉၉၆ နှင့် ၂၀၀၇ ခုနှစ်တို့တွင် ဆန္ဒပြအုံကြွခဲ့ကြသော ကျောင်းသားအချို့ပါ ပါဝင်နေလေသည်။ မိမိကိုယ်ကို ၁၉၈၈ ခုနှစ်က အခြေခံပညာကျောင်းသားသမဂ္ဂဝင်အဖြစ် ခံယူသလော၊ ၁၉၉၆ ခုနှစ်က တက္ကသိုလ်ကျောင်းသား တက်ကြွလှုပ်ရှားသူအဖြစ် ခံယူသလောဟူသည့် အချက်တွင် မူတည်ပေသည်။ ကျောင်းသား မဟုတ်တော့သော်လည်း ကျောင်းသားခေါင်းစဉ်အောက်မှ လူထုလှုပ်ရှားမှုများတွင် ပါဝင်လိုသူများနှင့်

ကျောင်းသားဖြစ်သော်လည်း ကျောင်းသားအမည် မခံပဲ တက်ကြွလှုပ်ရှားလို သူများလည်း ရှိကြသည်။

ဆွေးနွေးပွဲသို့ ကျောင်းသားခေါင်းဆောင်များအား ဖိတ်ကြားရာတွင် ကျောင်းသားလှုပ်ရှားမှုမျိုးဆက်အလိုက် (၁၉၆၂ ၊ ၁၉၇၄-၇၅-၇၆ ၊ ၁၉၈၈၊ ၁၉၉၆၊ ၂၀၀၇ စသဖြင့်) ဖိတ်ကြားခဲ့သော်လည်း မျိုးဆက်တစ်ခုတည်း၌ ပင်လျှင် အသင်းအဖွဲ့ပါဝင်မှု ကွဲပြားခြင်း၊ နိုင်ငံရေး အယူဝါဒ ကွဲပြားခြင်းတို့ ရှိနေခဲ့သည်။ ထို့ကြောင့် တစ်ဦးဦးကို မျိုးဆက်ကိုယ်စားပြု တက်ရောက်သူဟု ဆိုရန် အခက်အခဲရှိခဲ့ပါသည်။ အထူးသဖြင့် တရားဝင်ကျောင်းသားသမဂ္ဂများ မရှိတော့သည့် ၁၉၆၂ ခုနှစ်နောက်ပိုင်း ကျောင်းသားမျိုးဆက်များ၌ ဤ ပြဿနာကို ကျယ်ပြန့်စွာ တွေ့ရှိရသည်။ ဥပမာ၊ “၈၈ မျိုးဆက်” သည် အာဏာရှင်စနစ်တိုက်ဖျက်ရေးတွင် အလွန်အရေးပါသည့် မျိုးဆက် ဖြစ်သော် လည်း ယင်းမျိုးဆက်၏ လူသိအများဆုံး ခေါင်းဆောင်နှစ်ဦးဖြစ်သော မင်းကိုနိုင်နှင့် ကိုကိုကြီး နှစ်ဦးလုံးသည် ဆွေးနွေးပွဲသို့ “၈၈ မျိုးဆက်” ကို ကိုယ်စားပြုတက်ရောက်ခြင်း မရှိခဲ့ကြချေ။[8]

## မျှော်မှန်းချက်နှင့် သရုပ်လက္ခဏာ

ဤနေရာ၌ မျှော်လင့်ချက်နှင့် မျှော်မှန်းချက်အပေါ် မူတည်၍လည်း ကျောင်းသားသရုပ်လက္ခဏာ (student identity) ကို ဆက်လက် ကိုယ်စားပြု လိုခြင်း ရှိ၊ မရှိ ကွဲပြားသွားရပုံကို သတိပြုရန် လိုပေသည်။ ၂၀၁၆ ခုနှစ်၊ အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ် (NLD) အစိုးရ အာဏာရလာသည့်အချိန်တွင် အချို့သော ကျောင်းသားမျိုးဆက်သစ်၊ မျိုးဆက်ဟောင်းမှ ပုဂ္ဂိုလ်များ အနေဖြင့် အမျိုးသားပညာရေးဥပဒေပြင်ဆင်ရေး၊ တက္ကသိုလ်များ ဗဟိုချုပ်

---

[8] မင်းကိုနိုင်အနေဖြင့် အကြောင်းတစ်စုံတစ်ရာမပေးဘဲ ပျက်ကွက်ခဲ့သော်လည်း ကိုကိုကြီးကမူ နိုင်ငံရေးသမားအဖြစ် ၂၀၂၀ တွင် ရွေးကောက်ပွဲဝင်ရန် အစီအစဉ် ရှိနေသဖြင့် ဆွေးနွေးပွဲစသည်တို့တွင် စကားများများ မပြောချင်ကြောင်း အကြောင်းပြခဲ့ သည်။ “(၈၈) မျိုးဆက်” ကိုယ်စား အမေရိကန်နိုင်ငံ၌ ရောက်ရှိနေထိုင်လျက်ရှိသော ကျောင်းသားခေါင်းဆောင်ဟောင်း ကိုသက်ထွန်းက တက်ရောက်ဆွေးနွေးခဲ့သော် လည်း ယင်းမျိုးဆက်အတွက် စာမူဆောင်းပါးတစ်ပုဒ်မျှ မရရှိခဲ့ပေ။ (Issue editor ၏ မှတ်ချက်)

ကိုင်မှု လျှော့ချရေးတို့အတွက် ကျောင်းသားသပိတ်များ၊ National Network for Education Reform (NNER) ကဲ့သို့သော စုပေါင်းလှုပ်ရှားမှုများတွင် ပါဝင်နေကြပြီးဖြစ်သည်။ တိုင်းရင်းဘာသာစကားသင်ကြားရေး ကိစ္စရပ်ကဲ့သို့သော ဖက်ဒရယ်ရေးဆန်သည့် ကိစ္စရပ်များတွင် ပြည်နယ်နှင့် တိုင်းဒေသကြီး အသီးသီးမှ ကိုယ်စားလှယ်များ တွေ့ဆုံစည်းဝေးကာ ဖက်ဒရယ်နှင့် ဒီမိုကရေစီ မျိုးစေ့များ ချနိုင်ခဲ့ကြောင်း တွေ့ရသည်။ ဤဂျာနယ် အထူးစာစောင်တွင် ပါဝင်ရေးသားသူများအနက် ကိုစိုးထွန်း၊ မဖြိုးဖြိုးအောင်နှင့် ဘိုးသိမ်း (ဒေါက်တာမင်းသိမ်း) တို့မှာ NNER စတင်တည်ထောင်စ ကတည်းကပင် တက်ကြွစွာ ပါဝင်ဆောင်ရွက်ခဲ့သူများဖြစ်ကြသည်။

ထိုကဲ့သို့ ပညာရေးပြုပြင်ပြောင်းလဲမှုနှင့် နိုင်ငံရေးဖြစ်စဉ်များတွင် ပါဝင်ဆောင်ရွက်ရခြင်းသည် ကျောင်းသားတက်ကြွလှုပ်ရှားသူများနှင့် ကျောင်းသားလှုပ်ရှားမှုများ၏ အသွင်သဏ္ဌာန်နှင့် နယ်ပယ်ကို ပုံဖော်ပေးခဲ့သည့်အပြင် ဦးတည်ချက်လားရာကိုပါ ချမှတ်ပေးခဲ့လေသည်။ ယင်းအနေအထားတွင် ကျောင်းသားသည် လွတ်လပ်ရေးရပြီးစ ကျောင်းသားမျိုးဆက်များမှာကဲ့သို့ အယူဝါဒ (ideology) တစ်ခုခုကို ယုံကြည်ဆုပ်ကိုင်ထားရန် မလိုအပ်ပဲ ပေါ်ပေါက်လာသည့်ကိစ္စရပ် (issue) အပေါ်တွင် မူတည်ကာ အာဏာပိုင်များအား တွန်းတိုက်အရေးဆိုရခြင်းဖြစ်သည်။ တစ်ချိန်တည်းမှာပင် ကျောင်းသား၏ အာဏာရအသိုင်းအဝိုင်းကို ဆန့်ကျင်တော်လှန်သော သဘောထားကို ဆက်လက်ထိန်းသိမ်းထားနိုင်လေသည်။

အမှန်စင်စစ် ကျောင်းသားသမဂ္ဂများနှင့် ဒေါ်အောင်ဆန်းစုကြည်/ အဲန်အယ်လ်ဒီတို့အကြားရှိ ဆက်ဆံရေးသည် အဲန်အယ်လ်ဒီအစိုးရ အာဏာမရသေးမီအချိန်ကပင် ကောင်းမွန်လှသည် မဟုတ်ချေ။ မြန်မာနိုင်ငံ ကျောင်းသားလှုပ်ရှားမှုများတွင် ၁၉၈၈ မျိုးဆက်တိုင်အောင် လက်ဝဲနိုင်ငံရေးနှင့် ကွန်မြူနစ်အတွေးအခေါ် လွှမ်းမိုးမှုကြီးမားခဲ့သည်။ သို့သော် "နွေဦးတော်လှန်ရေး" ဟုခေါ်ဝေါ်ကြသည့် ၂၀၂၁ ခုနှစ်၊ စစ်အာဏာသိမ်းမှုဆန့်ကျင်ရေး လူထုလှုပ်ရှားမှုတွင်မူ အယူဝါဒသည် အရေးကြီးသည့် အခန်းကဏ္ဍ၌ မပါဝင်တော့သည့်အပြင် ကျောင်းသား၏ သရုပ်လက္ခဏာ (identity) သည်လည်း အခြားသော အသက်အရွယ်အပိုင်းအခြားနှင့် ပညာရေးနောက်ခံအခြေပြု သရုပ်လက္ခဏာ အများအပြားထဲတွင်မှ ထူးထူးခြားခြားထိုးထွက်ပြီး ထင်ရှားနေခြင်းမျိုး မဟုတ်တော့ပေ။ လှုပ်ရှားမှု (movement/activism) အပေါ် အခြေ

မခံပဲ အသက်အရွယ် အပိုင်းအခြားအပေါ် အခြေခံထားသည့် "ဂျန်ဇီး" (Gen Z) ဟူသည့် သရုပ်လက္ခဏာသစ်လောက် ရေပန်းမစားပဲ ဖြစ်ခဲ့ရသည်။

သို့သော် ကျောင်းသားဟူသည့် သရုပ်လက္ခဏာသည် လွတ်လပ်မှု၊ တရားမျှတမှုတို့အတွက် တိုက်ပွဲဝင်ရာတွင် အလွန် အင်အားကောင်းသော အစဉ်အလာရှိသည့် သရုပ်လက္ခဏာဖြစ်ရာ မြန်မာ့နိုင်ငံရေးမှ ဖယ်ရှား၍ မရနိုင်သော အခန်းကဏ္ဍမှ ပါဝင်နေသည်။ ဒီမိုကရေစီစနစ် အမြစ်တွယ်ပြီး ဖြစ်သော ဥရောပနိုင်ငံ အတော်များများတွင် ကျောင်းသားသမဂ္ဂများ၊ ကျောင်းသားပါလီမန်များနှင့် နိုင်ငံရေးပါတီများ၏ နွေရာသီ လူငယ် လေ့ကျင့်ရေးစခန်းများ (youth summer camps) သည် ၎င်းနိုင်ငံများရှိ အနာဂတ်နိုင်ငံခေါင်းဆောင်မျိုးဆက်များကို မွေးထုတ်ပေးရာ၌ အရေးပါလှသည်။ စစ်တပ်၏ ရာစုနှစ် ထက်ဝက်ကျော် အုပ်စိုးမှုအောက် အစိုးရ၊ လွှတ်တော်စသည့် နိုင်ငံတော်ယန္တရားများ၌ နိုင်ငံရေးအလုပ်သင်ခွင့် (apprenticeship) ကို မရရှိနိုင်သည့် အခြေအနေတွင် မြန်မာနိုင်ငံရှိ ကျောင်းသားလူငယ်များအဖို့ မည်သည့် ပညာသင်ယူမှုလမ်းကြောင်းဖြင့် အနာဂတ်ခေါင်းဆောင်များအဖြစ် ပြောင်းလဲကြမည်နည်းဆိုသည့် အချက်မှာလည်း စူးစမ်းသင့်သည့် မေးခွန်းတစ်ခုဖြစ်လေသည်။

ကျောင်းသားသရုပ်လက္ခဏာသည် အစိုးရတို့၏ ရည်ရွယ်ချက်ရှိရှိ အားနည်းချည့်နဲ့အောင် ပြုလုပ်ခြင်းနှင့် ဖြိုခွဲခြင်းတို့ကိုလည်း ခံရတတ်လေသည်။ ဥပမာအားဖြင့် မြန်မာနိုင်ငံတွင် ၁၉၈၈ ခုနှစ် ကျောင်းသား လှုပ်ရှားမှု ပေါ်ပေါက်ပြီးသည့်နောက် အရပ်ဘက်တက္ကသိုလ်များတွင် ဘွဲ့ကြို သင်တန်းများ ရပ်တန့်ပစ်ခြင်း၊ ဘွဲ့လွန်သင်တန်းများတွင် စစ်တက္ကသိုလ်ဆင်း အရာရှိများအား ထိုအချိန် စစ်အစိုးရက ထည့်သွင်း တက်ရောက်စေခဲ့ခြင်း တို့ဖြစ်သည်။ ယင်းလုပ်ရပ်ကြောင့် တက္ကသိုလ် ပင်မနယ်မြေတွင် ကျောင်းသား များ နေရာတစ်နေရာတည်း၌ စုစည်းရန် ခက်ခဲသွားခြင်း၊ စစ်တက္ကသိုလ် များတွင် သင်ကြားပေးမည့် စစ်ဘက်ဆရာများ သီးသန့်မွေးထုတ်ပေးခြင်းနှင့် ကျောင်းသားသရုပ်လက္ခဏာ အားပျော့မှေးမှိန်သွားခြင်းဟူသည့် စစ်အစိုးရ အတွက် "တစ်ချက်ခုတ်၍ သုံးချက်ပြတ်" သော အကျိုးရလဒ်မျိုး ထွက်ပေါ် လာသည်။

ထို့ပြင် အာဏာရအစိုးရတစ်ရပ်သည် ဒီမိုကရေစီလိုလားသော အစိုးရပင် ဖြစ်စေကာမူ ကျောင်းသားများကို သင့်တော်သည့်နေရာ၌ အသုံးမချနိုင်သည့်

အခါ ကျောင်းသားခေါင်းဆောင်များအနေဖြင့် "ကျောင်းသား" ခေါင်းစဉ်အောက်မှသည် အခြားသရုပ်လက္ခဏာတစ်ခုခုအောက်သို့ ရောက်ရှိသွားတတ်သည့် သဘောကိုလည်း သတိပြုရန် လိုအပ်ပေသည်။ နေ့စဉ်လူမှုဘဝတွင် စားဝတ်နေရေးအတွက် လှုပ်ရှားရုန်းကန်နေရသော သက်လတ်နှင့် သက်ကြီးအရွယ် ကျောင်းသားမျိုးဆက်ဟောင်းများအနေဖြင့် လူငယ်ကျောင်းသားတို့ကဲ့သို့ ထာဝစဉ်ပြုမူနေထိုင်နိုင်မည် မဟုတ်ပေ။ ၁၉၈၈ ခုနှစ် အရေးတော်ပုံတွင် ဦးဆောင်ပါဝင်ခဲ့သော ကျောင်းသားများအနက် အချို့မှာ နိုင်ငံရေးပါတီတည်ထောင်သူများ၊ တတ်သိပညာရှင်များ၊ သတင်းစာဆရာများ၊ စီးပွားရေးလုပ်ငန်းရှင်များအဖြစ် ပြောင်းလဲ ရပ်တည်လာကြသည်။ ကျောင်းသားခေါင်းဆောင်ဟောင်း တချို့မှာမူ ၂၀၂၁ ခုနှစ် အာဏာသိမ်းမှုအပြီးတွင် နိုင်ငံရေးပွဲကြည့်သူများအဆင့်အထိ မိမိကိုယ်ကို နှိမ့်ချလိုက်ကြသည်။ အနည်းငယ်သော လူဟောင်း ကျောင်းသားလှုပ်ရှားသူများမှာမူကားဘက်ပြောင်းကာ စစ်တပ်ကို ထောက်ခံသော စစ်လော်ဘီ (military lobby) များအဖြစ် ပေါ်ထွက်လာသည်ကိုလည်း စိတ်ဝင်စားဖွယ် တွေ့ရှိရသည်။

ထို့ပြင် ကျောင်းသားဟူသည့် သရုပ်လက္ခဏာသည် လူပုဂ္ဂိုလ်တစ်ဦးတွင်ရှိသော အမျိုးသားရေး၊ ကျား/မ ဖြစ်မှု၊ လူမျိုးရေး ဘာသာရေးနည်းစုဖြစ်မှု၊ လူထုလူတန်းစား စသည့် အခြားလက္ခဏာများနှင့်လည်း ထွေးရောယှက်တင်ဖြစ်နေတတ်သည်။ ဤစာစောင်တွင် ပါရှိသော စိုင်းကျော်ညွန့်၏ ဆောင်းပါးသည် "ကျောင်းသားနှင့် ရှမ်းအမျိုးသား" သရုပ်လက္ခဏာများ ဆုံစည်းရာကိုလည်းကောင်း၊ ကိုဇေယျာဦး၏ ဆောင်းပါးသည် "ကျောင်းသားနှင့် စစ်သားဘဝ" သရုပ်လက္ခဏာများ ပွတ်တိုက်မိရာကိုလည်းကောင်း အသီးသီးဖော်ပြထားကြသည်။ မလေးလေးမွန်နှင့် မဖြိုးဖြိုးအောင်တို့၏ ဆောင်းပါးများမှာလည်း ကျောင်းသားလှုပ်ရှားမှုနှင့်ပတ်သက်၍ အမျိုးသမီးကျောင်းသူများအနေဖြင့် တွေးခေါ်ရှုမြင်ပုံရှုထောင့်ကို ထင်ဟပ်စေသည်။

သို့ရာတွင် ကျောင်းသားဘဝမှ လက်နက်ကိုင်တော်လှန်ရေး ဆင်နွှဲရန် "ကျောင်းသားတပ်မတော်" ဟု ရည်ညွှန်းကြသည့် မြန်မာနိုင်ငံလုံးဆိုင်ရာကျောင်းသားများဒီမိုကရက်တစ်တပ်ဦး (ABSDF) သို့ ဝင်ရောက်ခဲ့ကြသည့် ကျောင်းသားများ၏ အတွေ့အကြုံနှင့်ပတ်သက်၍မူ ဤစာစောင်တွင် ဖော်ပြနိုင်ခြင်း မရှိခဲ့ချေ။ ၂၀၂၁ ခုနှစ်၊ စစ်အာဏာသိမ်းမှု နောက်ပိုင်းတွင်လည်း ကျောင်းသားလူငယ်အချို့အနေဖြင့် စစ်ကောင်စီကို ခုခံတွန်းလှန်ရန်

လက်နက်ကိုင်လမ်းစဉ်ကို ရွေးချယ်ခဲ့ကြရာ မျိုးဆက်သစ် ကျောင်းသား တပ်မတော်ဟု ညွှန်းဆိုနိုင်သည့် "ကျောင်းသားလက်ရုံးတပ်တော်" (Student Armed Force) ကို တည်ထောင်ကြောင်း သိရှိရသည်။ သို့သော် လက်နက်ကိုင်တပ်ဖွဲ့ အမျိုးမျိုးအပြားပြားရှိနေကြသော မြန်မာနိုင်ငံ၏ လက်ရှိ အခင်းအကျင်းတွင် ကျောင်းသားတပ်အသစ်အနေဖြင့် ထူးခြားပေါ်လွင်အောင် ရေရှည်ရပ်တည်နိုင်မည်လောဟု မေးခွန်းထုတ်စရာလည်း ရှိနေသည်။

ဒေါ်အောင်ဆန်းစုကြည်သည် ၂၀၁၂ ခုနှစ်၊ ကြားဖြတ်ရွေးကောက်ပွဲ၌ ဝင်ရောက်ယှဉ်ပြိုင်၍ အတိုက်အခံ ဒီမိုကရေစီခေါင်းဆောင်အဖြစ်မှ အာဏာရ နိုင်ငံရေးသမားအဖြစ်သို့ အသွင်ကူးပြောင်းခဲ့သည်။ သို့ရာတွင် ၂၀၁၅ ခုနှစ် အထွေထွေရွေးကောက်ပွဲ၌ အဲန်အယ်လ်ဒီပါတီ၏ အလံအောက်မှ ဝင်ရောက် ယှဉ်ပြိုင်ရန် ကမ်းလှမ်းအဆိုပြုခဲ့သော "၈၈ မျိုးဆက်" ကျောင်းသူ ကျောင်းသား အယောက်နှစ်ဆယ်ကျော်အား ပါတီက ပယ်ချခြင်းကို မသိ ကျိုးကျွံပြုခဲ့သည်။ ဤသို့ဖြင့် ဒေါ်အောင်ဆန်းစုကြည်၏ ဒီမိုကရေစီ အစိုးရသည် ၈၈ မျိုးဆက်ကျောင်းသားများ၏ ကျောင်းသားသရုပ်လက္ခဏာ အား အကျပ်ရိုက်စေခဲ့ပြီး နိုင်ငံရေးမျှော်လင့်ချက်၊ မျှော်မှန်းချက်များကို မှေးမှိန် စေခဲ့သည်။ အဲန်အယ်လ်ဒီသည် ကျောင်းသားတို့၏ အစဉ်အလာသင်္ကေတ ဖြစ်သည့် "ခွပ်ဒေါင်း" (fighting peacock) ကို ၎င်း၏ ပါတီအမှတ်တံဆိပ် သင်္ကေတအဖြစ် အသွင်ပြောင်းရယူခဲ့သော်လည်း ကျောင်းသားထု၏ မျှော်မှန်းချက်ဖြစ်သည့် ဒီမိုကရေစီပညာရေးကိစ္စရပ်များကိုမူ အများအားဖြင့် လျစ်လျူရှုခဲ့သည်။ အဲန်အယ်လ်ဒီအစိုးရလက်ထက်တွင် အရပ်ဘက်အဖွဲ့ အစည်းများ၊ အခြားနိုင်ငံရေးပါတီများနှင့် ပူးပေါင်းဆောင်ရွက်မှု အားနည်းခဲ့ သည့်နည်းတူ နိုင်ငံ/အစိုးရနှင့် ကျောင်းသားဆက်ဆံရေး (state-student relations) သည်လည်း ဆုတ်ယုတ်ခဲ့သည်။

ဤစာစောင်ကို စီစဉ်ရာတွင် ပါဝင်ရေးသားသူ၊ ဖြေဆိုသူများအား ကျောင်းသားဆိုသည်မှာ အဘယ်နည်း၊ ကျောင်းသားလှုပ်ရှားမှု ဆိုသည်မှာ အဘယ်နည်း၊ အဘယ်ကြောင့် ကျောင်းသားလှုပ်ရှားမှုများ ပေါ်ပေါက်လာရ သနည်း၊ လူထုလှုပ်ရှားမှုတစ်ရပ်တွင် အဘယ်ကြောင့် ကျောင်းသားသည် ဆောလျင်စွာ လှုပ်ရှားပါဝင်လာလေ့ရှိသနည်း၊ ဤမည်သော ကျောင်းသား လှုပ်ရှားမှု၏ အကျိုးသက်ရောက်မှုသည် အဘယ်တို့နည်း စသော အခြေခံကျ ပြီး အတွေးအခေါ်ဆန်သော မေးခွန်းများဖြင့် စူးစမ်းမေးမြန်းခဲ့ပါသည်။

ငင်းတို့၏ ကိုယ်တွေ့နိုင်ငံရေးအတွေ့အကြုံ၊ ဖြတ်သန်းမှုများအကြောင်းကို ဖတ်ရှုခြင်းဖြင့် အထက်ပါမေးခွန်းများ၏ အဖြေ တစ်စိတ်တစ်ဒေသကို သော်လည်းကောင်း၊ ကျောင်းသားနိုင်ငံရေး အတွေးအခေါ်ရှုထောင့်ကို သော်လည်းကောင်း ရရှိကြမည်ဟု မျှော်လင့်ပါသည်။ ဆင့်ကဲပြောင်းလဲလာသော မိမိ၏သရုပ်လက္ခဏာ၊ လာရာနှင့် လားရာတို့အကြောင်းကို နားလည်သဘောပေါက်မှသာလျှင် ကျောင်းသားထုသည် ပိုမိုကောင်းမွန်သော အနာဂတ်မျှော်လင့်ချက်၊ မျှော်မှန်းချက်နှင့် ကိုယ်စားပြုမှုတို့ကို ပြင်ဆင်ကြံဆနိုင်ပေလိမ့်မည်။

## မြန်မာနိုင်ငံ ကျောင်းသားလှုပ်ရှားမှု ဆင့်ကဲပြောင်းလဲလာပုံ

ဗြိတိသျှအင်ပါယာ၏ ကိုလိုနီနယ်တစ်ခုအဖြစ် သတ်မှတ်ခံခဲ့ရသည့် ၁၈၈၆ ခုနှစ်၊ ဇန်နဝါရီလ (၁) ရက်နေ့မှစ၍ မြန်မာနိုင်ငံသည် ရိုးရာအစဉ်အလာ ဘုန်းတော်ကြီးကျောင်း ပညာရေးစနစ်ထက် ခေတ်ပေါ် အနောက်တိုင်း ပညာရေးစနစ်နှင့် နိုင်ငံတစ်ဝန်းတွင် စတင်တွေ့ထိလာခဲ့ရသည်။ စင်စစ်အားဖြင့် ၁၈၂၄ ခုနှစ်၊ အင်္ဂလိပ်-မြန်မာ ပထမ(ကျူးကျော်)စစ်ပြီးကတည်းက အောက်မြန်မာနိုင်ငံသည် ဗြိတိသျှကိုလိုနီအုပ်ချုပ်ရေး၏ တစ်စိတ်တစ်ပိုင်းဖြစ်သော အိန္ဒိယအုပ်ချုပ်ရေးစနစ်အတွင်း ထည့်သွင်းခံခဲ့ရသည်။ ဆယ့်ကိုးရာစုအလယ်ခန့်ကတည်း ကပင်လျှင် အနောက်တိုင်းပညာရေးစနစ်သည် မြန်မာပြည်သို့ စတင် နိဒါန်းပျိုးရောက်ရှိခဲ့ပြီး ၁၉ ရာစုကုန်ဆုံးလုချိန်တွင် အောက်မြန်မာနိုင်ငံ၊ မော်လမြိုင်မြို့တွင် ကောလိပ်ကျောင်းပင် ပေါ်ပေါက်ခဲ့ပြီးဖြစ်သည်။ နှစ်ဆယ်ရာစုဦးပိုင်းတွင် အနောက်တိုင်းပညာရေးစနစ်သည် မြန်မာနိုင်ငံ၌ ကိုလိုနီအုပ်ချုပ်ရေးယန္တရားနှင့်အတူ အခြေတကျ ဖြစ်လာခဲ့ပေသည်။

သို့ရာတွင် ကိုလိုနီပြုသူ ဗြိတိသျှအစိုးရသည် ငြိမ်းချမ်း၍ အမိန့်မသွေဖီသော ပညာရေးစနစ်ကို ကောင်းစွာ တည်ဆောက်နိုင်ပြီဟုကား မဆိုနိုင်ချေ။ ကိုလိုနီပြုသူနှင့် ကိုလိုနီအပြုခံတို့ကြား ဆက်ဆံရေးတွင် မညီမျှမှု၊ ဖိနှိပ်မှု၊ ခွဲခြားမှု၊ မတော်လှန်နိုင်စေရန် (ဝါ) သစ္စာခံနေစေရန် စီမံမှုများ ရှိစမြဲဖြစ်သည်။ ထိုစီမံမှုများအနက်တစ်ခုမှာ ၁၉၀၃ တွင် ပညာဝန် (Director of Public Instruction) ဖြစ်သော ဂျွန် ဗင် ဆိုမရင် ပုပ် (John Van Someren Pope)

ထုတ်ပြန်ခဲ့သည့် ဟိုက်စကူး ကျောင်းသားများသည် ဆရာများနှင့် ပညာရေး ဌာနအရာရှိများအား "ရှိခိုး" ၍ အရိုအသေ ပြုရမည်ဟူသည့် အမိန့်ဖြစ်သည်။[9] ပုပ်၏ "ရှိခိုးအမိန့်" ကို ဟိုက်စကူးကျောင်းသားများ၊ ကျောင်းသားမိဘများနှင့် ရန်ကုန်ကောလိပ်ကျောင်းသားများက မကျေနပ်ရာမှ အစပြု၍ ထိုစဥ်က ဗိတိုရိယဟောလ် (Victoria Hall) ဟုခေါ်သည့် နေရာရှေ့တွင် လူစုကာ အစည်းအဝေးကျင်းပပြီး ထိုအမိန့်ကို ကန့်ကွက်ကြောင်း ဆုံးဖြတ်ခဲ့ကြသည်။ ယင်းဖြစ်ရပ်သည် မြန်မာနိုင်ငံကျောင်းသားလှုပ်ရှားမှုသမိုင်းတွင် "ပထမဆုံး လှုပ်ရှားမှုဖြစ်သည်" ဟုဆိုသည်။[10] ဤသို့ဆိုလျှင် ၁၉၁၃ ခုနှစ်မတိုင်မီ ကာလတစ်လျှောက်လုံး၌ မြန်မာနိုင်ငံတွင် "ကျောင်းသား လှုပ်ရှားမှု" မရှိခဲ့ဟု ဆိုလိုရာရောက်ပြီး လက်တွေ့အားဖြင့်လည်း "ကျောင်းသားလှုပ်ရှားမှု" ဟူ၍ မရှိခဲ့သလောဟု မေးခွန်းထုတ်စရာ ဖြစ်စေသည်။

အနောက်တိုင်းပညာရေးနှင့် မတွေ့ကြုံရသေးမီ မြန်မာဘုရင်တို့ အုပ်ချုပ်သော ဘုရင်စနစ် (monarchy) ခေတ်တစ်လျှောက်တွင် အနောက်တိုင်းစံနှုန်းနှင့် ကိုက်ညီသောကျောင်းဟူ၍ ဗုဒ္ဓစာပေကို လေ့လာ ဖြန့်ဖြူးသည့် လောကုတ္တရာသင်ကြားရေးဆိုင်ရာ ဘုန်းတော်ကြီးကျောင်း များသာ ရှိခဲ့ကြသည်။ သင်ကြားသူဆရာများမှာ ဘုန်းတော်ကြီးများဖြစ်ပြီး လေ့လာသင်ယူကြသော ကျောင်းသားများမှာလည်း ရဟန်းများ၊ ကိုရင်များ၊ လူဝတ်ကြောင် ကလေးသူငယ်များသာ အများစုဖြစ်လေရာ ၎င်းတို့ကို "ဝိနည်း" ဟူသော စည်းကမ်းပြဋ္ဌာန်းချက်များက စည်းနှောင်ထားလေသည်။ တစ်နည်းဆိုရလျှင် သံဃာ့အဖွဲ့အစည်းမှာ ဗုဒ္ဓပြဋ္ဌာန်းခဲ့သည့် ဝိနည်းစည်းကမ်း များအောက်တွင် မသွေမဖီရအောင် လည်ပတ်နေရသည်ဖြစ်၍ "ကျောင်းသား လှုပ်ရှားမှု" ဟူ၍ မပေါ်ပေါက်ခဲ့ခြင်း ဖြစ်နိုင်လေသည်။ လောကီစာပေဟု ခေါ်သော "အရေး၊ အဖတ်၊ အတွက်အချက်" ဟူသည့် အခြေခံ စာတတ်မြောက်အောင် သင်ကြားပေးခြင်းသည်လည်း ဘုန်းတော်ကြီးကျောင်း များတွင်သာ ရှိခဲ့ရာ "အခြေခံစာတတ်မြောက်ရေး" ကို သင်ယူကြသူများမှာ မူလတန်းအရွယ် ကလေးသူငယ်များဖြစ်၍ "ကျောင်းသားလှုပ်ရှားမှု" ပေါ်ပေါက်ရန် အကြောင်းမရှိခဲ့ပေ။

[9] Turner, 2014, p. 115.
[10] အောင်ထွန်း၊ ၂၀၁၂၊ စာ-၄၀။

## ကိုလိုနီဆန့်ကျင်ရေး ကျောင်းသားလှုပ်ရှားမှုများ

“ပထမကျောင်းသားသပိတ်” ဟု ထင်ရှားလာသည့် မြန်မာနိုင်ငံ၏ ပထမဦးဆုံးသော ကျောင်းသားလှုပ်ရှားမှုသည် ရန်ကုန်ကောလိပ်နှင့် ယုဒသန်ကောလိပ် (Judson College) တို့မှ ကျောင်းအိပ်ကျောင်းစားနေ ကျောင်းသား (၅၀) ကျော်တို့ကြောင့် ၁၉၂၀ ခုနှစ်၊ ဒီဇင်ဘာလ (၅) ရက် နေ့တွင် ပေါ်ပေါက်ခဲ့သည်။ ပေါ်ပေါက်ရသော အကြောင်းရင်းမှာ ရန်ကုန်ကောလိပ်ကို ရန်ကုန်တက္ကသိုလ်ဟူ၍ အဆင့်တိုးမြှင့်ရန် စီစဥ်ရာတွင် ရန်ကုန်တက္ကသိုလ်ဥပဒေ (University of Rangoon Act) မူကြမ်း၌ ကျောင်းသားများ မကျေနပ်သည့်အချက်များ ပါဝင်နေသောကြောင့် ဖြစ်သည်။ ရန်ကုန်တက္ကသိုလ်ကို ၁၉၂၀ ခုနှစ်၊ ဒီဇင်ဘာလ (၇) ရက်နေ့တွင် ဖွင့်လှစ်ရန် စီစဥ်ထားရာတွင် ဗြိတိသျှအစိုးရက ရန်ကုန်တက္ကသိုလ်ဥပဒေမူကြမ်းကို ကျောင်းသားများ ကန့်ကွက်ထားသည့် အချက်များအား ပြုပြင်ရန် မလိုက်လျောပဲ ဒီဇင်ဘာလ (၁) ရက်နေ့၌ အတည်ပြုပြဋ္ဌာန်းခဲ့သောကြောင့် ကောလိပ်ကျောင်းသားများက ကျောင်းမဖွင့်မီ နှစ်ရက်ကြိုတင်ပြီး သပိတ်မှောက်ကြခြင်း ဖြစ်သည်။

မြန်မာနိုင်ငံ၏ နိုင်ငံရေးနှင့် ပညာရေးတို့တွင် “ပထမကျောင်းသားသပိတ်” ၏ အကျိုးသက်ရောက်မှုသည် အလွန်ကြီးမားခဲ့သည်။ ထိုသပိတ်ကြောင့် မြန်မာနိုင်ငံတွင် “အမျိုးသားရေးဝါဒ” (nationalism) ပေါ်ပေါက်လာခဲ့ရုံမျှမက ဗြိတိသျှအစိုးရကျောင်းများနှင့်အပြိုင် “အမျိုးသားရေးဝါဒ” ကို အဓိကလေ့ကျင့်ပျိုးထောင်ပေးသော အမျိုးသားကျောင်းများ (national schools) ပေါ်ပေါက်လာခဲ့ကြသည်။ ထို့နောက် ဒုတိယနှင့် တတိယ ကျောင်းသားသပိတ်များသည် ရန်ကုန်တက္ကသိုလ်ပရဝုဏ်အတွင်းမှပင် ပေါ်ပေါက်လာခဲ့ကြပြီး တတိယကျောင်းသားသပိတ်က ကိုလိုနီစနစ်ကို ဆန့်ကျင်သော အမျိုးသားနိုင်ငံရေးခေါင်းဆောင်များနှင့် ဂျပန်နှင့်ပူးပေါင်းကာ ဗြိတိသျှကိုလိုနီစနစ်အားလက်နက်ကိုင်တော်လှန်သော ဗိုလ်ချုပ်အောင်ဆန်းနှင့် ရဲဘော်သုံးကျိပ်ဝင်အများစုကို မွေးထုတ်ပေးခဲ့လေသည်။

ယင်း “ပထမ၊ ဒုတိယ၊ တတိယ ကျောင်းသားသပိတ်များ” သို့မဟုတ် “ကိုလိုနီခေတ် ကျောင်းသားလှုပ်ရှားမှုများ”သည် ကိုလိုနီပြု အုပ်ချုပ်ခဲ့သည့် ဗြိတိသျှအစိုးရကို ဆန့်ကျင်တော်လှန်မှုများဖြစ်၍ မြန်မာနိုင်ငံ လွတ်လပ်ရေးရလာပြီးသည့်နောက် ထိုလှုပ်ရှားမှုများအကြောင်းကို အလေးထားနှင့်

အထက်တန်း သမိုင်းပြဋ္ဌာန်းစာအုပ်များတွင် ပါဝင်ဖော်ပြထားသည်။ ထို့ကြောင့်လည်း မြန်မာနိုင်ငံသားတိုင်းသည် ကိုလိုနီခေတ် ကျောင်းသား လှုပ်ရှားမှုများအကြောင်းကို အကြမ်းဖျဉ်းမျှ အနည်းဆုံး သိရှိထားလေသည်။ ထိုကျောင်းသား လှုပ်ရှားမှုသုံးခုသည် မြန်မာနိုင်ငံ လွတ်လပ်ရေးကြိုးပမ်းမှု သမိုင်းနှင့် သွယ်ဝိုက်၍သော်လည်းကောင်း၊ တိုက်ရိုက်သော်လည်းကောင်း ဆက်စပ်ပတ်သက်နေပြီး နိုင်ငံခြားကိုလိုနီ ဗြိတိသျှအစိုးရကို ဆန့်ကျင်ခြင်း ဖြစ်၍ ပြဋ္ဌာန်းဖတ်စာအုပ်များတွင် မဖြစ်မနေလေ့လာကြစေရန် ထည့်သွင်းထားခြင်း ဖြစ်သည်။

## ကျောင်းသား၊ လူထုလှုပ်ရှားမှုနှင့် တော်လှန်ရေး

မြန်မာနိုင်ငံသမိုင်းတစ်လျှောက် အစိုးရတစ်ရပ်သည် မည်သည့်အယူဝါဒကို ကိုင်စွဲသည်ဖြစ်စေ၊ မည်သည့်စနစ်ဖြင့် အုပ်ချုပ်သည်ဖြစ်စေ အာဏာရှင်ဆန်စွာ ပြုမူကျင့်ကြံလာလျှင် စတင်တော်လှန်ဆန့်ကျင်ကြသူများမှာ အမြဲလိုလို ကျောင်းသားများဖြစ်ကြသည်။ အနာဂတ်အတွက် မျှော်လင့်ချက်၊ မျှော်မှန်းချက်နှင့် အလားအလာ မြင့်မားကြသူများဖြစ်၍ သာမန်ပြည်သူအနေဖြင့် အုပ်ချုပ်သူအစိုးရ၏ မတရားသော မူဝါဒကို လူစုဝေးပြီး ဆန့်ကျင်ရန် ခက်ခဲနေဆဲအချိန်တွင်ပင် ကျောင်းသားထုသည် အလွယ်တကူ လျင်မြန်စွာ လှုပ်ရှားလေ့ရှိသည်။ အများအားဖြင့် မတရားသော အခြေအနေကို အာဏာရှင်တို့က ဖန်တီးလေ့ရှိရာ အာဏာရှင်နိုင်ငံများတွင် ကျောင်းသားလှုပ်ရှားမှုများ မကြာခဏ ပေါ်ပေါက်လေ့ရှိသည်။ ဒီမိုကရေစီနိုင်ငံများတွင်ပင်လျှင် မတရားမှုများ ရံဖန်ရံခါ ပေါ်ပေါက်တတ်ပေရာ ယင်းအချိန်အခါမျိုး၌ ကျောင်းသားလှုပ်ရှားမှုများ နိုးကြွလာလေ့ရှိသည်။

တက္ကသိုလ်ကျောင်းသား (တစ်ခါတစ်ရံ အထက်တန်းကျောင်းသား) တို့သည် တိုးတက်သော ခေတ်ပေါ်အတွေးအခေါ် အယူအဆများ၏ ဆွဲဆောင်ခြင်းကို ထူးခြားစွာ ခံရသူများဖြစ်သည်။[11] အသိဉာဏ်ဖွံ့ဖြိုးမှုအတွက် လတ်တလော လေ့လာသင်ယူနေသူများဖြစ်၍ ခေတ်ပြိုင်အတွေးအခေါ် အယူအဆများကို ထိတွေ့လွယ်၊ လက်ခံလွယ်တတ်ကြသည်။ ကျောင်းသားများသည် ကိုလိုနီခေတ်လွန် ဖွံ့ဖြိုးမှုကာလတွင် တည်ဆောက်ပုံအရ

---

[11] Altbach, 1982, p.174.

အခြေခံကျသော အနာဂတ်၏ အသိပညာဆိုင်ရာနှင့် အလုပ်အကိုင်ဆိုင်ရာ အထက်လွှာဝင်များ ဖြစ်ကြသည်။[12] ၎င်းတို့သည် အခြားသူများနှင့် နှိုင်းယှဉ်လျှင် အသက်မွေးဝမ်းကျောင်းလုပ်ငန်းတစ်ခုခုကို လုပ်ကိုင်ရခြင်းမှ ကင်းလွတ်ကြသည်။ မိသားစုတာဝန်များကိုလည်း အဓိကနေရာမှ မထမ်းဆောင်ကြရချေ။ ဤအချက်နှစ်ချက်က လူမှုလှုပ်ရှားမှုတစ်ရပ်ဖြစ်ပေါ်လာအောင် ဖန်တီးရာတွင် ပံ့ပိုးပေးသည်ဟူ၍ ပညာရှင်အချို့က ယူဆကြသည်။[13] ထို့မျှသာမက ကျောင်းသားများသည် ကျောင်း၊ တက္ကသိုလ်၊ အဆောင် စသည့် နေရာတစ်နေရာ၌ လွတ်လပ်စွာ စုဝေးမိလျက်သား ဖြစ်လေ့ရှိသည်။

အမေရိကန်နှင့် ဥရောပနိုင်ငံများတွင် ၁၉၆၀ ပြည့်လွန်ကာလ တက္ကသိုလ်ဝန်းကျင် ကျောင်းသားလှုပ်ရှားမှုများ၏ နောက်ဆက်တွဲ အဖြစ် “ကျောင်းသား” ဟူသည့် ဝေါဟာရနှင့် “သူပုန်” ဟူသည့် ဝေါဟာရတို့ကို ချိတ်ဆက်၍ အဓိပ္ပာယ်ဆင်တူနီးပါး ဖော်ပြခဲ့ကြသည်။[14] “ကျောင်းသားနိုင်ငံရေး”၊[15] “တော်လှန်သော ကျောင်းသားများ”၊[16] “တက္ကသိုလ်၌ သူပုန်ထခြင်း”[17] စသော “ကျောင်းသား” သည် “သူပုန်” ဟူသည့် အယူအဆမျိုးဖြင့် ရေးသားခဲ့ခြင်းများလည်း ရှိသည်။

မြန်မာနိုင်ငံတွင် ကိုလိုနီခေတ်မှစ၍ ဖြစ်ပေါ်ခဲ့သည့် လူထုလှုပ်ရှားမှု (popular movements) အများစုကို “ကျောင်းသား” များက စတင်ခြင်း၊ ဦးဆောင်ခြင်းများပြုခဲ့ကာ လှုပ်ရှားမှုအချို့ကိုသာ အခြားလူတန်းစားများဖြစ်သည့် အလုပ်သမား၊ လယ်သမားတို့က စတင်ခဲ့ကြခြင်း ဖြစ်သည်။ သို့သော် ထိုအလုပ်သမား၊ လယ်သမားတို့၏ လှုပ်ရှားမှုများတွင်လည်း ကျောင်းသားများက ဝန်းရံအားဖြည့် ပါဝင်ကြမြဲဖြစ်သည်။ ၂၀၂၁ ခုနှစ်၊ အာဏာသိမ်းမှုဆန့်ကျင်ရေး လူထုလှုပ်ရှားမှုသည် ကျောင်းသားကစတင်သည့် ဦးဆောင်သော လှုပ်ရှားမှုမဟုတ်ပဲ တစ်နိုင်ငံလုံးရှိ လူထုလူတန်းစားအသီးသီးက လှုပ်ရှားအုံကြွခဲ့ခြင်း ဖြစ်သည့်တိုင် ကျောင်းသားများသည် အရေးပါသော အခန်းကဏ္ဍမှ ပါဝင်လှုပ်ရှားခဲ့ကြောင်း တွေ့ရှိရသည်။ အချို့လူငယ်များသည်

---

[12] Pinner, 1971; Rootes, 1980, pp. 475-476; Schubert, Tetzlaff and Vennewald, 1994.
[13] Weiss & Aspinall, 2012, p.5
[14] Quinn et al., 1972.
[15] Lipset, 1967.
[16] Lipset, 1969.
[17] Lipset, 1971.

ကျောင်းသားသမဂ္ဂအသီးသီး၏ အလံအောက်မှ လှုပ်ရှားခြင်း မဟုတ်သော်လည်း ပြည်သူလူထုအဖြစ် ပါဝင်ခဲ့ကြသည်။ အာဏာသိမ်းမှုကို ထိပ်ဆုံးက အံတုလျက်ရှိသည့် မျိုးဆက်တွင် အများစုမှာ "ဂျန်ဇီး" (Gen Z) ဟု ထင်ရှားလာသော ကျောင်းသားများပင်ဖြစ်ကြောင်း တွေ့ရလေသည်။

## ကျောင်းသားနိုင်ငံရေး၏ မူလအစ ပညာရေး

မြန်မာနိုင်ငံပညာရေးတွင် ကမ္ဘာနှင့် ရင်ပေါင်တန်းနိုင်သော ပညာရေးစနစ်မျိုး ဖြစ်ပေါ်လာစေရန် လွတ်လပ်ရေးရပြီးသည်မှစ၍ မြန်မာကျောင်းသားတို့ မျှော်လင့်တောင့်တခဲ့ကြသည်။ သို့ရာတွင် ယင်းအချက်ကို အုပ်ချုပ်သူ အစိုးရအဆက်ဆက်က မျက်ကွယ်ပြုကာ ခေတ်နောက်ပြန်ဆွဲ ယဥ်ကျေးမှုကို ပုံဖော်ရန် ကြိုးစားသောအခါ ကျောင်းသားတို့သည် အစိုးရအပေါ်တွင် မကျေမနပ် ဖြစ်တတ်ကြသည်။ ဤသည်မှာ နောက်ခံအကြောင်းတရားဖြစ်ပြီး ၎င်းအပေါ်တွင် ထပ်ဆင့်၍ အစိုးရက ကန့်သတ်ချက်များ တစ်ရစ်ပြီးတစ်ရစ် တင်းကျပ်လာခြင်း၊ ကျောင်းသား၏ သီးခြားထင်ရှားသော စုပေါင်းသရုပ်လက္ခဏာကို ထိပါးနှိပ်ကွပ်ခြင်းများ ပြုလုပ်လာသောအခါ မြန်မာနိုင်ငံတွင် ကျောင်းသားလှုပ်ရှားမှုများ ခေတ်အဆက်ဆက် ပေါ်ပေါက်ခဲ့ရလေသည်။

ကျောင်းသားလှုပ်ရှားမှုဟူသမျှ၏ အဓိကနောက်ခံမှာ ပညာရေးစနစ်ကို မကျေနပ်ခြင်း ဖြစ်လေ့ရှိသည်။ ပညာရေးစနစ်ကို မြှင့်တင်ပေးရမည့်အစား ဖိနှိပ်ချုပ်ချယ်မှုနှင့် အမိန့်နာခံမှုကို ကျောင်းအာဏာပိုင်များနှင့် အစိုးရတို့က ဇွတ်အတင်း သွတ်သွင်းလာသောအခါ ကျောင်းသားလှုပ်ရှားမှု ဖြစ်ပေါ်ရကြောင်း ယေဘုယျအားဖြင့် ယူဆနိုင်သည်။ မြန်မာနိုင်ငံ၏ အနေအထားတွင် အဆိုးဝါးဆုံးလုပ်ရပ်တစ်ခုမှာ စစ်အစိုးရသည် ၁၉၉၆ ခုနှစ်နောက်ပိုင်းတွင် "အဝေးသင်တက္ကသိုလ် ပညာရေး" ဟူ၍ ဖွင့်လှစ်ကာ လွယ်ကူစွာ ဘွဲ့ရနိုင်သော "စာမတတ်သည့် ဘွဲ့ရများ" မွေးထုတ်ပြီး အရပ်ဘက် အဆင့်မြင့်ပညာရေးကို ဖျက်ဆီးခဲ့ခြင်းဖြစ်သည်။ ထို့ပြင် မြန်မာနိုင်ငံတစ်ဝန်း မြို့ကြီးများ၏ အစွန်အဖျားတွင် တက္ကသိုလ်သစ်များဖွင့်ကာ ကျောင်းသားစုဖွဲ့လှုပ်ရှားမှု မဖြစ်ပေါ်နိုင်အောင် စနစ်တကျ စီစဥ်ခဲ့သည်။ တက္ကသိုလ်ပညာရေးကို ဒေသန္တရအဆင့်၌သာ သင်ယူကြရအောင် ကန့်သတ်လိုက်ခြင်းဖြင့် ပြည်နယ်

နှင့် တိုင်းအနှံ့အပြားမှ တိုင်းရင်းသားအချင်းချင်း တွေ့ဆုံရင်းနှီးခွင့်မှာလည်း ပျက်ပြယ်သွားရသည်။

လွတ်လပ်ရေးရရှိခဲ့သည့် ၁၉၄၈ ခုနှစ်မှစ၍ ယနေ့ ၂၀၂၃ ခုနှစ်အထိ (၇၅) နှစ်တာကာလအတွင်း မြန်မာနိုင်ငံ၌ ပထမဆယ်စုနှစ်တစ်ခု ၁၉၄၈-၅၈၊ ဒုတိယဆယ်စုနှစ်တစ်ခု ၂၀၁၀-၂၀၂၀ အချိန်ကာလနှစ်ခုတွင်သာ ဒီမိုကရေစီစနစ် ပေါ်ပေါက်လာရန် စတင် နိဒါန်းပျိုးခွင့်ရခဲ့သည်။ သို့ရာတွင် ထိုကာလနှစ်ခု၌ပင်လျှင် စစ်တပ်၏ ဝင်ရောက်စွက်ဖက်မှုမှ လုံးဝကင်းလွတ်နိုင်ခဲ့သည် မဟုတ်ချေ။ ဒီမိုကရေစီစနစ်ကိုလည်းကောင်း၊ ဒီမိုကရေစီစနစ်နှင့် သင့်လျော်သော လူ့အဖွဲ့အစည်းကို လည်းကောင်း၊ အသိပညာဆိုင်ရာ ဖွံ့ဖြိုးတိုးတက်မှုကိုလည်းကောင်း ပုံဖော်ရာတွင် ထိုနိုင်ငံရေးစွက်ဖက်မှုကြောင့် အဟန့်အတားဖြစ်ခဲ့ရသည်။

ကျန်ရာစုနှစ်ထက်ဝက်ကျော်ကာလမှာမူ စစ်တပ်၏ တိုက်ရိုက် အုပ်စိုးမှုအောက် ကျရောက်နေသောကြောင့် လွတ်လပ်ရေးဗိသုကာများကို မွေးထုတ်ပေးခဲ့သည့် “ရန်ကုန်တက္ကသိုလ် ကျောင်းသားသမဂ္ဂ အဆောက်အအုံ” ကိုပင် ၁၉၆၂ ခုနှစ်၊ ဇူလိုင်လတွင် ထိုအချိန် အာဏာသိမ်းစစ်အစိုးရက ဒိုင်းနမိုက်ဖြင့် ခွဲကာ ဖျက်ဆီးပစ်ခဲ့သည်။ ကျောင်းသားသမဂ္ဂဟူ၍ မဖွဲ့စည်းနိုင်အောင် နည်းမျိုးစုံဖြင့် တားဆီး ပိတ်ပင်ခဲ့သည်။ သို့သော် ကျောင်းသားတို့သည် သမဂ္ဂစိတ်ဓာတ်ကို မျိုးဆက်အလိုက် လက်ဆင့်ကမ်း သယ်ဆောင်ခဲ့ကြသည်ဖြစ်ရာ နိုင်ငံရေးပွင့်လင်းလာသည့် ၂၀၁၁-၂၀၁၂ ခုနှစ်ဝန်းကျင်၌ ကျောင်းသား သမဂ္ဂအများအပြား ပြန်လည်ပေါ်ပေါက်လာခဲ့ကြသည်။

## နိုင်ငံတော်မေ့လျော့ခံ ကျောင်းသားလှုပ်ရှားမှုများ

ဖိနှိပ်မှုများစွာ ခံနေရသည့်ကြားက ကျောင်းသားမျိုးဆက်များသည် အခွင့်အခါသင့်တိုင်း ကျောင်းသားလှုပ်ရှားမှုများကို ဦးဆောင်ခဲ့ကြသည်။ သို့ရာတွင် မြန်မာနိုင်ငံ လွတ်လပ်ရေးရရှိပြီးသည့်နောက် ပေါ်ပေါက်ခဲ့သော မည်သည့် ကျောင်းသားလှုပ်ရှားမှုကိုမျှ နိုင်ငံတော်၏ သင်ရိုးညွှန်းတမ်း ပြဋ္ဌာန်းစာအုပ်များတွင် ဖော်ပြခံရခြင်း မရှိသည်မှာ မှတ်သားဖွယ် ဖြစ်သည်။ ယင်းကဲ့သို့ ဖော်ပြမခံရသည့် အကြောင်းရင်း တစ်ခုမှာ ထိုလှုပ်ရှားမှုများသည် လွတ်လပ်ရေးရပြီး မြန်မာနိုင်ငံ အစိုးရအဆက်ဆက်၏ မူဝါဒနှင့် ရပ်တည်ချက်တို့ကို ဆန့်ကျင်

လျက် ပေါ်ထွက်လာခဲ့သောကြောင့် ဖြစ်သည်။ စစ်အစိုးရများလက်အောက်တွင် လွတ်လပ်ရေးရပြီးနောက် ပေါ်ပေါက်ခဲ့သော ကျောင်းသား လှုပ်ရှားမှုများနှင့် တိုက်ရိုက်သက်ဆိုင်သည့် ဆောင်းပါး၊ စာအုပ်များမှာလည်း ထုတ်ဝေခွင့်မရရှိခဲ့ချေ။ ထိုလှုပ်ရှားမှုများနှင့် သွယ်ဝိုက်သက်ဆိုင်သည်ဟု ယူဆရသော ကဗျာဝတ္ထုများသည်ပင်လျှင် အစိုးရ၏ စာပေစိစစ်ရေး၌ ဆင်ဆာထိကာ ဖြုတ်ချခံခဲ့ရသည်။

မြန်မာနိုင်ငံတွင် စစ်တပ်၏ တိုက်ရိုက်အုပ်ချုပ်ရေးအလွန် နိုင်ငံရေးပွင့်လင်းမှု အနည်းငယ်ရှိလာသည့်ကာလဖြစ်သော ၂၀၁၁ ခုနှစ်၊ ဇွန်လတွင် စာပေစိစစ်ရေးဌာနကို အပြီးတိုင် ဖျက်သိမ်းကြောင်း ကြေညာခဲ့သည်။ ထိုအချိန်မှစ၍ ရာစုနှစ်ထက်ဝက်ကျော်မျှ ထုတ်ဝေခွင့်မရခဲ့ကြသော၊ လွတ်လပ်ရေးရရှိပြီးသည့်နောက် ပေါ်ပေါက်ခဲ့သည့် ကျောင်းသားလှုပ်ရှားမှုအမျိုးမျိုးနှင့် စပ်လျဉ်းသော ပုံနှိပ်စာအုပ်၊ စာတမ်း၊ စာစောင်များကို လွတ်လွတ်လပ်လပ် ထုတ်ဝေခွင့်ရခဲ့ကြသည်။ ကျောင်းသားလှုပ်ရှားမှုများအကြောင်းကို ၂၀၁၁-၂၀၁၂ ခုနှစ်နောက်ပိုင်းတွင် အပြိုင်းအရိုင်း ထုတ်ဝေဖြန့်ချိခဲ့ကြသည်။ ထုတ်ဝေဖြန့်ချိပြီး စာအုပ်စာတမ်းများတွင် အများစုမှာ ယခင်ဖြစ်ပေါ်ခဲ့သော ကျောင်းသားလှုပ်ရှားမှုများကို ခုနှစ်အလိုက် စီစဥ်ဖော်ပြခြင်း၊ ၎င်းတို့ကို ပြန်လည်သုံးသပ်ခြင်း၊ ကျောင်းသားလှုပ်ရှားမှုတစ်ရပ်၏ ကိုယ်တွေ့အမှတ်တရများ၊ ပါဝင်ခဲ့သူများ၏ ကိုယ်တိုင်ရေးအတ္ထုပ္ပတ္တိပုံစံများ၊ မျက်မြင်တွေ့ကြုံခဲ့ရသူတို့၏ မှတ်တမ်းများ၊ လေ့လာသူများ၏ မှတ်တမ်းများ၊ ကိုယ်တိုင်ပါဝင်ခဲ့သူတို့နှင့် အင်တာဗျူးများ စသဖြင့် စုံလင်လှသည်။[18]

## လိုအပ်နေဆဲ ကျောင်းသားလှုပ်ရှားမှု သုတေသန

ဖြစ်စဥ်ကို မှတ်တမ်းတင်ရေးသားသော "ကျောင်းသားလှုပ်ရှားမှုသမိုင်းများ" ပေါများပြီး "ကျောင်းသားလှုပ်ရှားမှုဆိုင်ရာ သုတေသနများ" ရှားပါးခြင်းကို မြန်မာနိုင်ငံ၌သာမဟုတ်၊ ကမ္ဘာအဝန်း၌ပင် တွေ့ရှိရဆဲဖြစ်သည်။ ကျောင်းသားလှုပ်ရှားမှုများကို စဥ်ဆက်မပြတ် တွေ့မြင်နေကြရသော်လည်း ၎င်းတို့အကြောင်းတရားနှင့် အကျိုးသက်ရောက်မှုများကို သီအိုရီအရ တည်ဆောက်၍

[18] ဤကာလအတွင်း ပုံနှိပ်ထုတ်ဝေခဲ့သော စာအုပ်အချို့ကို ကျမ်းကိုးစာရင်းတွင် တွေ့နိုင်ပါသည်။

သို့မဟုတ် နိုင်ငံတော်ယုဉ်လှေ့လာ၍ သုတေသနပြုမှုများမှာ ပေါ်ပေါက်ခဲ့သော လှုပ်ရှားမှုများနှင့် နိုင်ငံယှဉ်လျှင် နည်းပါးလှပေသည်။ ၁၉၈၈ ပြည့်လွန်နှင့် ၁၉၉၀ ပြည့်လွန် နှစ်ကာလများတွင် ကျောင်းသားလှုပ်ရှားမှုများသည် နိုင်ငံရေး ပြောင်းလဲမှုများအတွက် ချိန်ခွင်လျှာအနေအထားသို့ ဆိုက်ရောက်ခဲ့ပြီးမှ အကြီးအကျယ်ကျရှုံးရခြင်းကို မြင်တွေ့ကြသည်မှအစပြု၍ ပညာရပ်ဆိုင်ရာ နယ်ပယ်များက ကျောင်းသားလှုပ်ရှားမှုများကို လေ့လာရန် စိတ်ဝင်စားမှု နိုးထလာခဲ့ရသည်။[19]

ကျောင်းသားလှုပ်ရှားမှုကို သမိုင်းပညာရပ် သုတေသနရှုထောင့်မှ လေ့လာမှုရှားပါးသည့်နည်းတူ လူမှုဗေဒ၊ မနုဿဗေဒ ရှုထောင့်တို့မှ လူမှုဆိုင်ရာလှုပ်ရှားမှု (social movement) တစ်ရပ်အဖြစ် လေ့လာမှုမျိုးလည်း မများလှပေ။ ထို့ပြင် ကျောင်းသားအရွယ်သည် လူငယ်လူရွယ်၊ ကြီးကောင်ဝင်စ အရွယ်၊ လူကြီးငယ် (young adult) အရွယ်မျိုး ဖြစ်ရာ ထိုအရွယ်လူများ၏ စိတ်အခြေအနေကို စိတ်ပညာနယ်ပယ်မှ လေ့လာခြင်းမျိုးလည်း နည်းပါးလေသည်။ ကျောင်းသားလှုပ်ရှားမှုများသည် ကျောင်းပရဝုဏ်တွင်း ကိစ္စရပ်များ ဖြစ်သော နေထိုင်စားသောက်ရေး၊ စာသင်ကြားရေး၊ ဆရာ-ကျောင်းသား ဆက်ဆံရေးတို့နှင့်သာ သက်ဆိုင်နေသည် မဟုတ်ပေ။ ကျောင်းသားလှုပ်ရှားမှုကို ကျောင်းသားကိစ္စရပ်တို့ဖြင့်သာ ကြာရှည်ကန့်သတ်ချုပ်ချယ်ထား၍လည်း မရချေ။

ကျောင်းသားသည် အစိုးရမူဝါဒတစ်ရပ်ရပ်အား ပြင်ဆင်ပြောင်းလဲလိုသောအခါ ကျောင်းသားလှုပ်ရှားမှု၏ အစဉ်အလာ၊ အရှိန်အဟုန်၊ ကျယ်ပြန့်မှု အပေါ်မူတည်၍ နိုင်ငံနှင့်ချီသော နိုင်ငံရေးပြဿနာ ဖြစ်သွားလေ့ရှိသည်။ ထို့ပြင် ကျောင်းသားလှုပ်ရှားမှုသည် လူတစ်ဦးချင်း၏ စိတ်ခံစားမှု (emotion)၊ ခံယူချက်၊ စေ့ဆော်မှုများ ပေါင်းစုံရာမှ ထွက်ပေါ်လာသော စုပေါင်းလှုပ်ရှားမှု သဘောဆောင်သည့် တွန်းတွန်းတိုက်တိုက် နိုင်ငံရေး (contentious politics) လည်း ဖြစ်သည်။ သို့ဖြစ်၍ အများအားဖြင့် စာရင်းဇယား၊ သင်္ချာဖြစ်နိုင်ခြေနှင့် ရေတွက်မှုကိုဦးစားပေးပြီး လူ့အဖွဲ့အစည်းတစ်ခုလုံး၏ အပြုအမူကို ယေဘုယျ ကောက်ချက်ချလိုသည့် ဘောဂဗေဒနှင့် နိုင်ငံရေးသိပ္ပံ ပညာရပ်တို့တွင်လည်း ကျောင်းသားလှုပ်ရှားမှုများအပေါ် စိတ်ဝင်စားမှု နည်းပါးနေခြင်း ဖြစ်သည်။

---

[19] Weiss & Aspinall, 2012.

## ကျောင်းသားရေးသည့် ကျောင်းသားလှုပ်ရှားမှုအတွေးအခေါ်

မိမိတို့၏ အတွေ့အကြုံနှင့် အတွေးအမြင်များကို မှတ်တမ်းတင်ကြရာတွင် ကျောင်းသားတက်ကြွလှုပ်ရှားသူ အများစုသည် ပညာရေးလောကမှ သုတေသနပညာရှင်များ မဟုတ်ကြချေ။ ထို့ကြောင့် ပညာရပ်ဆိုင်ရာ သီအိုရီ၊ စာပေများနှင့် တိုက်ဆိုင်ကိုးကား ပြောဆိုရေးသားကြမည်ဟု မမျှော်လင့်နိုင်ပေ။ အမှန်စင်စစ် ၁၉၆၂ ခုနှစ် စစ်အာဏာသိမ်းချိန်မှစ၍ မြန်မာနိုင်ငံသည် အထီးကျန်ဝါဒကျင့်သုံးပြီး နယ်ပယ်ပေါင်းစုံ၌ နိုင်ငံတကာရှိ ဖြစ်ပေါ်တိုးတက်မှုများနှင့် အဆက်အသွယ်ဖြတ်တောက်ခံခဲ့ရကာ ပညာရေးစနစ်ပါ ချို့တဲ့နိမ့်ကျသွားခဲ့ရသည်။ ထိုမျှသာမက အချို့ကျောင်းသားခေါင်းဆောင်များသည် နိုင်ငံရေးအကျဉ်းသားများအဖြစ် ဆယ်စုနှစ်တစ်ခုကျော် ပြင်ပကမ္ဘာနှင့် ကင်းကွာခဲ့ရသူများ ဖြစ်သည်။ ဤသို့သော အခြေအနေတွင် ကျောင်းသားလှုပ်ရှားမှုများအကြောင်းကို မှတ်တမ်းတင် ရေးသား ပြောဆိုသူအများစုထံမှ ပညာရပ်ဆန်သော လက်ရာမျိုးကို မျှော်လင့်နိုင်မည် မဟုတ်ချေ။

ပညာရပ်မဆန်ဟုဆိုရခြင်းမှာ ယုတ္တိဗေဒအရ စနစ်တကျ တည်ဆောက်ထားပြီး ရှေ့နောက်ဆီလျော်သည့် စောဒနာများ (arguments) ကို မသုံးခြင်း၊ စိတ်ခံစားမှုကို ဦးစားပေးကာ ယထာဘူတကျမှုကို အလေးမထားခြင်း၊ မြန်မာအချင်းချင်း သိရှိပြီးဖြစ်သည်ဟု ယူဆသော အသေးစိတ်အချက်အလက်များနှင့် အနေအထား (context) တို့ကို ချန်လှပ်ခဲ့ခြင်း၊ ပြောဆိုရေးသားပြီးသော အကြောင်းအရာတစ်ခုကို ထပ်တလဲလဲ ပြန်လည်ဖော်ပြပြီး ရှည်လျားစွာ ရေးသားခြင်း စသည်တို့ကို ဆိုလိုခြင်းဖြစ်သည်။ သို့ရာတွင် ပညာရှင်လက်ရာ မဟုတ်သည့်တိုင် ၎င်းတို့ကိုယ်တွေ့ ဖြတ်သန်းခဲ့ရသည့် အတွေ့အကြုံများ (expériences vécues) မှ ပေါက်ဖွားလာသည့် ကိုယ်ပိုင် အတွေးအခေါ်၊ အယူအဆများဖြစ်သည့်အတွက် နောင်ကာလတွင် ပညာရှင်များ ဆက်လက်သုတေသနပြုရာ၌ အထောက်အကူဖြစ်စေပေလိမ့်မည်။

ဤစာစောင်ကို တည်းဖြတ်သော အယ်ဒီတာများ၏ တာဝန်မှာ ဆောင်းပါးရှင်တစ်ဦးစီ၏ အတွေးအမြင်၊ အယူအဆကို ဝင်ရောက် စွက်ဖက်ပြင်ဆင်ရန် မဟုတ်ချေ။ ထို့ကြောင့် ၎င်းတို့၏ ပြောဆိုရေးသားမှုနှင့် သုံးသပ်ချက်များကို မူရင်းအာဘော်အတိုင်းပင် ဖော်ပြထားပါသည်။ ဆောင်းပါးရှင်အချို့အနေဖြင့် မိမိတို့၏ အတွေ့အကြုံနှင့် အတွေးအခေါ်ကို

ဆွေးနွေးရေးသားရာ၌ ရှေ့နောက်မညီညွတ်သောအချက်၊ အငြင်းပွားဖွယ် အချက် အနည်းငယ်ရှိသည်ကိုလည်း တွေ့နိုင်သည်။ ဥပမာ၊ ဦးတင်အေးကြူ၏ ဆောင်းပါးတွင် လူမှုရေး၊ စီးပွားရေး အခြေအနေနှင့် ကျောင်းသားလှုပ်ရှား မှုများ ဆက်စပ်နေကြောင်း ဆောင်းပါး စာကိုယ်တွင် သာဓကများဖြင့် ရှင်းပြ ထားသော်လည်း နိဂုံးပိုင်းတွင်မူ ကျောင်းသားလှုပ်ရှားမှုများ ပေါ်ပေါက်ရခြင်း မှာ အာဏာရအစိုးရ၏ စီမံခန့်ခွဲမှုနှင့် ဉာဏ်အမြော်အမြင်နှင့်သာ သက်ဆိုင် ကြောင်း ကောက်ချက်ဆွဲရေးသားထားလေသည်။

နောက်ထပ် ဥပမာအနေဖြင့် အငြင်းပွားဖွယ်ဖြစ်နိုင်သည့် ကိစ္စရပ်တစ်ခု မှာ မလေးလေးမွန်၏ ဆောင်းပါးတွင် ပါဝင်သော "Z မျိုးဆက်" (Generation Z) သတ်မှတ်ချက်ဖြစ်သည်။ ထိုဆောင်းပါးကို ရေးသားဖတ်ကြားသော အချိန် သည် လွန်ခဲ့သည့်ခြောက်နှစ်၊ ၂၀၁၆ ခုနှစ်ကဖြစ်ပြီး ဒေါ်အောင်ဆန်းစုကြည်နှင့် အဲန်အယ်လ်ဒီပါတီတို့ ၂၀၁၅ အထွေထွေရွေးကောက်ပွဲတွင် ပြတ်ပြတ်သား သား အနိုင်ရကာ အစိုးရဖွဲ့၊ လွှတ်တော်တက်ခဲ့သည့်အချိန်လည်း ဖြစ်သည်။ မလေးလေးမွန်က "Z မျိုးဆက်" ဟု ၎င်းယူဆသည့် ခေတ်ပြိုင်မျိုးဆက်ကို ဝေဖန်ရာတွင် ကွန်ပျူတာ၊ စမတ်ဖုန်း စသည့် ဒစ်ဂျစ်တယ်ပစ္စည်းများ၊ အိုင်တီ နည်းပညာများမရှိပဲ မရပ်တည်နိုင်သော၊ နိုင်ငံရေးအရ တော်လှန်ရေး ပုံတူကူး ချသော ဗလာမျိုးဆက် "Zero generation" သာဖြစ်သည်ဟု ထောက်ပြခဲ့ သည်။

စင်စစ်အားဖြင့် ၂၀၂၂ ခုနှစ် စစ်အာဏာသိမ်းချိန်မှ လွန်ခဲ့သည့် ခြောက်နှစ် တာကာလကို ပြန်ပြောင်းရှုမြင်ပါက ထိုအချိန်သည် ယော့ထ်၊ သရဖီသန်းနှင့် စူးရဲလင်း တို့ညွှန်းဆိုထားသော "လစ်ဘရယ်လိုက်ဇေးရှင်းနှင့် အင်တာနက်၊ ဆိုရှယ်မီဒီယာများကို ရရှိသည့် ဆယ်စုနှစ်" လည်း ဖြစ်ခဲ့လေသည်။[20] ယနေ့ခေတ် မြန်မာနိုင်ငံ၏အနေအထားတွင် Z မျိုးဆက်၏အဓိပ္ပာယ်မှာ ၂၀၂၂ အာဏာသိမ်းစစ်ကောင်စီကို ဆန့်ထုတ်ဖော်ပြသခြင်း၊ အာဏာဖီဆန်ခြင်း၊ တော်လှန်ခြင်းတို့၌ ဦးဆောင်သော မျိုးဆက် "ဂျန်ဇီး" (Gen Z) အဖြစ် ပြောင်းလဲသွားခဲ့သည်။[21] ဂျန်ဇီးတို့သည် အစဥ်အမြဲ တော်လှန်ရေး ပုံတူကူးချ နေသည်ဟု မဆိုနိုင်ပဲ နည်းပညာနှင့် တီထွင်ဖန်တီးနိုင်စွမ်းကို အသုံးချလျက် ရှိကြောင်းလည်း တွေ့ရှိရသည်။ သို့ရာတွင် ပြောင်းလဲသွားသော နိုင်ငံရေး

[20] Jordt et al. 2021.
[21] Independent Research Network, 2022; Jordt et al. 2021; Su Mon Thant, 2021.

အခြေအနေနှင့် လုပ်ကိုင်ဆောင်ရွက်သူ(agent)၏ အခန်းကဏ္ဍကို ထောက်ဆ စဥ်းစားမှလည်း မလေးလေးမွန်၏ သုံးသပ်ချက်ကို နားလည်သဘောပေါက်နိုင်မည် ဖြစ်လေသည်။

## စာစောင်တွင် ပါဝင်သည့် ဆောင်းပါးနှင့် အင်တာဗျူးများ

ဤအထူးစာစောင်တွင် ၁၉၆၂ ခုနှစ်မှသည် ယနေ့ခေတ်အထိ မြန်မာနိုင်ငံခေတ်အဆက်ဆက် ကျောင်းသားတက်ကြွလှုပ်ရှားသူများက ရေးသားပြောဆိုကြသော ကိုယ်တွေ့ဖြတ်သန်းမှု အတွေ့အကြုံများ၊ ယင်းအတွေ့အကြုံများမှ ပေါက်ဖွားလာသည့် သုံးသပ်ချက် အတွေးအခေါ်များကို ဖတ်ရှုကြရမည် ဖြစ်သည်။

ဘိုးသိမ်း(ဒေါက်တာမင်းသိမ်း)၏ "ကျောင်းသားလှုပ်ရှားမှုနှင့် ပညာရေးစနစ် ပြုပြင်ပြောင်းလဲရေး" ဆောင်းပါးတွင် ပညာရေးစနစ်၏ မလိုလားအပ်သော ဖိနှိပ်ခွဲခြား ကန့်သတ်ထားမှုများအား ဖယ်ရှားရန် ကျောင်းသားများလှုပ်ရှားကြိုးပမ်းခဲ့သည့် သမိုင်းစဥ်၊ နှစ်အလိုက် မှတ်တမ်းကို ဖော်ပြထားသည်။

ဦးတင်အေးကြူ၏ "၇၄-၇၅-၇၆ ကျောင်းသားလှုပ်ရှားမှုနှင့် ရည်ရွယ်ချက်" ဆောင်းပါးတွင် အာဏာရှင်အစိုးရ၏ ဖိနှိပ်မှုများ အကြောင်းကိုလည်းကောင်း၊ ၁၉၇၀ ပြည့်လွန်ကာလ ကျောင်းသားလှုပ်ရှားမှုများ အကြောင်းကိုလည်းကောင်း ဖော်ပြထားပြီး အဘယ်ကြောင့် ယင်းလှုပ်ရှားမှုများ ပေါ်ပေါက်ရကြောင်းကိုလည်း သုံးသပ်တင်ပြထားသည်။

စိုင်းကျော်ညွန့်၏ "ကျောင်းသားနိုင်ငံရေးမှ မြန်မာနိုင်ငံပဋိပက္ခဖြေရှင်းရေးသို့" ဆောင်းပါးတွင် "၁၉၉၆ ကျောင်းသားအရေးအခင်း" ၌ ၎င်းကိုယ်တိုင် တက်ကြွလှုပ်ရှားခဲ့သည့် အတွေ့အကြုံနှင့် ကျောင်းသားလှုပ်ရှားမှုမှသည် နိုင်ငံရေးအဆင့် ပဋိပက္ခဖြေရှင်းရေးအထိ ပါဝင်ဆောင်ရွက်ခဲ့ရသော ကိုယ်တိုင်ရေးအတ္ထုပ္ပတ္တိ တစ်စိတ်တစ်ပိုင်းကို တွေ့ရမည်ဖြစ်သည်။

ကိုဇေယျာဦး၏ "ပထမဆုံးနှင့် နောက်ဆုံး ကျောင်းသားအခွင့်အရေးလှုပ်ရှားမှုတစ်ရပ်" မှာ ထူးခြားသော စိတ်ဝင်စားဖွယ် ဆောင်းပါးတစ်ပုဒ်ဖြစ်သည်။ စစ်အစိုးရလက်ထက် (၁၉၈၈-၂၀၁၀) ကာလတွင် ပထမဆုံးနှင့် နောက်ဆုံး စစ်ကောလိပ်ကျောင်းဟု ဆိုရမည့် "တပ်မတော်နည်းပညာကောလိပ်" (Military Technological College) ၌ ဖြစ်ပျက်ခဲ့သော

ကျောင်းသားလှုပ်ရှားမှုအကြောင်း ကိုယ်တွေ့မှတ်တမ်းတင်ထားသည့် ဆောင်းပါးဖြစ်သည်။ ထိုလှုပ်ရှားမှုတွင် ဆောင်းပါးရှင်ကိုယ်တိုင်သည် ဦးဆောင်မှုအခန်းကဏ္ဍမှ ပါဝင်ခဲ့ပြီး တက်ကြွလှုပ်ရှားမှုအတွက် ထောင်ချ အပြစ်ပေးခြင်း ခံခဲ့ရသည်။ ဆောင်းပါးရှင်သည် ထိုစဥ်က ကျောင်းသား တစ်ပိုင်း၊ စစ်သားတစ်ပိုင်း ဖြစ်သောကြောင့် စစ်သားတစ်ဦးအတွက် မိမိ ပညာသင်ယူနေရာ စစ်ကောလိပ်ကျောင်းကို ပြန်လှန်သပိတ်မှောက်ရန်မှာ မြန်မာ့သမိုင်းတွင် မဖြစ်ခဲ့ဖူးသော ဖြစ်ရပ်လည်း ဖြစ်သည်။ အရပ်သား ကျောင်းသားက အရပ်ဘက်တက္ကသိုလ်ကို တော်လှန်သပိတ်မှောက်ရန်ထက် များစွာ ပိုမိုခက်ခဲသော ဖြစ်စဥ်လည်းဖြစ်သည်။ အကျိုးဆက်အားဖြင့် ထိုအချိန်က စစ်အစိုးရအနေဖြင့် နောက်ဆုံးတွင် တပ်မတော်နည်းပညာကောလိပ်ကိုပါ ဖျက်သိမ်းပစ်လိုက်ရသည်အထိ ပြင်းထန်စွာ တုံ့ပြန်ခဲ့ရသည်။

စစ်ကောလိပ်ကျောင်းတစ်ကျောင်း၌ ဖြစ်ပွားခဲ့သော ကျောင်းသား လှုပ်ရှားမှုဖြစ်သဖြင့် အများပြည်သူတို့အနေဖြင့် သတင်းသဲ့သဲ့သာ ကြားခဲ့ရပြီး သတင်းမီဒီယာများတွင်လည်း ပြည့်စုံတိကျစွာ မဖော်ပြနိုင်ခဲ့ပေ။[22] ကိုဇေယျာဦး၏ ဆောင်းပါးတွင် ယင်းကျောင်းသားလှုပ်ရှားမှု ဖြစ်စဥ်ကို အသေးစိတ်ဖော်ပြထားရာ ထိုစဥ်က အသက်ငယ်ရွယ်သော စစ်ကောလိပ် ကျောင်းသားတစ်ဦး၏ စိတ်အခြေအနေကိုပါ မြင်တွေ့ရမည်ဖြစ်သည်။ ထို့ပြင် ကျောင်းကို စီမံကွပ်ကဲခဲ့သော စစ်အရာရှိများ၏ စီမံခန့်ခွဲမှုအလွဲအမှားများနှင့် အထက်အောက်တင်းကျပ်သော အမိန့် ဆိုသည်ထက် ထိုအရာရှိတို့၏ စိတ်အခြေအနေ အာဃာတများကိုပါ ထင်ဟပ်ပေါ်လွင်စေသည့် ဆောင်းပါး ဖြစ်သည်။

ဦးလှရွှေနှင့် အင်တာဗျူးသည် ၁၉၅၀ မှ ၁၉၆၀ ဆယ်စုနှစ် တစ်လျှောက် ဗမာနိုင်ငံလုံးဆိုင်ရာ ကျောင်းသားသမဂ္ဂများအဖွဲ့ချုပ် (ဗကသ) ၏ ဆောင်ရွက် ခဲ့ပုံများကို အသေးစိတ်မှတ်တမ်းရယူထားခြင်း ဖြစ်သည်။ ထိုကာလရှိ ကျောင်းသားသမဂ္ဂ၏ ကျောင်းသားကို ကိုယ်စားပြုမှု၊ ကျောင်းပရဝုဏ်တွင်း နှင့် ပြည်တွင်းပြည်ပ စုစည်းလှုပ်ရှားမှုအမျိုးမျိုးတို့အကြောင်းကို လေ့လာခွင့် ရပြီး ကျောင်းသားမျိုးဆက်တို့တွင် သမဂ္ဂစိတ်ဓါတ် တရားမျှတမှုနှင့် ကျင့်ဝတ်

---

[22] ၂၀၁၆ ခုနှစ်၊ ကျောင်းသားလှုပ်ရှားမှုဆွေးနွေးပွဲ ကျင်းပပြီးသည့် အချိန်တွင်မှ ဤဖြစ်စဉ်အကြောင်းကို ပြည်တွင်းသတင်းစာဆရာ တစ်ဦးက သိရှိပြီး အကျယ်တဝင့် ရေးသား ဖော်ပြခဲ့သည်၊ Kyaw Phone Kyaw, 2016။

စောင့်ထိန်းမှုဆိုင်ရာ နမူနာများကို ကျောင်းသားအချင်းချင်းကြား လက်ဆင့်ကမ်း သယ်ဆောင်ကြပုံကိုလည်း မှတ်သားဖွယ် တွေ့ရသည်။

မဖြိုးဖြိုးအောင်၏ ဆောင်းပါးသည် ၂၀၀၇ ခုနှစ်တွင် ဗကသကို စုပေါင်း လျှို့ဝှက်၍ ပြန်လည်ဖွဲ့စည်းခဲ့ရသည့်အခြေအနေမှ ၂၀၁၂ ခုနှစ်၊ လှုပ်ရှားခွင့် ပိုမိုရရှိလာသည့်အခါ ဗကသများအဖွဲ့ချုပ်နှင့် အခြားတက္ကသိုလ်သမဂ္ဂများ ကြားရှိ ဆက်ဆံရေးနှင့် ဆောင်ရွက်ပုံ၊ ပြည်သူများအကြား ကျောင်းသားသမဂ္ဂ ၏ ပုံရိပ်ပျောက်ကွယ်မသွားရအောင် ကြိုးပမ်းအားထုတ်ကြပုံ၊ ကျောင်းသား သမဂ္ဂ အစစ်နှင့် ကျောင်းအာဏာပိုင်တို့အလိုကျ ဖွဲ့စည်းထားသော သမဂ္ဂ (proxy) ကြားရှိ အနေအထားအပြင် အစိုးရနှင့် သမဂ္ဂကြားရှိ အခြေအနေ များကိုပါ ဖော်ပြထားသည်။

မလေးလေးမွန်၏ ဆောင်းပါးသည် "၁၉၉၆ ကျောင်းသား လှုပ်ရှားမှု" ၏ တစ်စိတ်တစ်ဒေသဖြစ်သည့် ဒဂုံတက္ကသိုလ်ကျောင်းသား ဆန္ဒပြမှုများတွင် အခြေခံထားသော ၎င်း၏အတွေ့အကြုံနှင့် အတွေးအမြင်ကို ပွင့်လင်းစွာ တင်ပြထားခြင်းဖြစ်သည်။ ဤဆောင်းပါးသည် ခေတ်အဆက်ဆက် ကျောင်းသားလူငယ်များကြားရှိ မျိုးဆက်ကွာဟမှုကို အဓိက ထောက်ပြဝေဖန် ထားသဖြင့် ထူးခြားသည်။ အဲန်အယ်လ်ဒီ အစိုးရအာဏာရခါစ ၂၀၁၆ ခုနှစ် ဝန်းကျင်ခန့်တွင် ၎င်းသုံးသပ်မိသော ကျောင်းသားမျိုးဆက်၏ အခြေအနေကို သိရှိခွင့်ရစေသည်။

ကိုစိုးထွန်းနှင့် အင်တာဗျူးသည်လည်း ၁၉၉၆ ကျောင်းသားလှုပ်ရှားမှုကို ဖြစ်ပေါ်စေသည့် အခြေအနေနှင့် အကြောင်းတရားများကို ကောင်းစွာ ဖော်ညွှန်းနိုင်သည်။ တက္ကသိုလ်ကျောင်းသားများကို နိုင်ငံရေး စိတ်မဝင်စားစေ ရန် အစိုးရက အားထုတ်ခဲ့ပုံ၊ ကျောင်းသားထုအကြား အကြောက်တရား ပျံ့နှံ့ စေပုံနှင့် ၁၉၉၆ မျိုးဆက်ကျောင်းသားတို့ မည်ကဲ့သို့ စုဖွဲ့လှုပ်ရှားခဲ့ကြပုံတို့အား တွေ့မြင်နိုင်သည်။

ကိုမင်းဟန်ထက်နှင့် အင်တာဗျူးတွင် ၂၀၂၁ ခုနှစ်၊ စစ်ကောင်စီ အာဏာသိမ်းမှုကြောင့် ပေါ်ထွက်လာသော နိုင်ငံအနှံ့ ပြည်သူ့အုံကြွမှုတွင် ဒဂုံတက္ကသိုလ်ကျောင်းသားသမဂ္ဂ ခေါင်းဆောင်တစ်ဦးအနေဖြင့် ပါဝင်လှုပ်ရှား ခဲ့ပုံနှင့် အဘယ်ကြောင့် ပါဝင်ခဲ့ပုံကို ပုဂ္ဂိုလ်ရေးနောက်ခံ အချက်အလက်များ ဖြင့် ရှင်းပြထားသည်ကို တွေ့ရှိရသည်။ ထူးခြားသည်မှာ "စစ်တပ်ကို အကြောက်တရားသွင်းပေးရမယ်" ဟူသော လူထုကြားတွင် ၎င်းပြောခဲ့သော

မိန့်ခွန်းနှင့် ပတ်သက်၍ ထိုအယူအဆ မည်သို့ဖြစ်ပေါ်လာကြောင်း ရှင်းလင်းချက်ဖြစ်သည်။ ယခင်စစ်အစိုးရ အသီးသီး၏ ဖိနှိပ်မှုကို ကျောင်းသားတို့ ကြောက်ခဲ့ရသော အကြောက်တရားအား စစ်တပ် (သို့မဟုတ်) အာဏာသိမ်းအစိုးရထံသို့ ပြန်သွင်းပေးကာ ကြောက်စေရမည်ဟူသော ပြောင်းပြန်ဗျူဟာမှာ စိတ်ဝင်စားဖွယ်ဖြစ်သည်။ ထိုမိန့်ခွန်းသည် ယနေ့အချိန်ထိ စစ်ကောင်စီအနေဖြင့် နိုင်ငံကို မအုပ်ချုပ်နိုင်စေရန် နည်းအမျိုးမျိုးဖြင့် ဆန့်ကျင်တော်လှန်နေသူများ၏ ပွဲဦးထွက်ကြွေးကြော်သံဟုလည်း ဆိုနိုင်သည်။

## နိဂုံးချုပ် မှတ်ချက်များ

နိုင်ငံရေးဖြစ်စဉ်တို့သည် ပြောင်းလဲမှု အလွန်မြန်ဆန်ပြီး ထည့်သွင်း စဉ်းစားရန် သိပြီးသော အချက်များ၊ မသိသေးသော အချက်များ ရှိနေတတ်မြဲဖြစ်သည်။ ထို့ကြောင့် အတိတ်ကို အဓိပ္ပာယ်ဖွင့် ကောက်ချက်ချရသည်မှာ မလွယ်ကူလှသကဲ့သို့ အနာဂတ်သို့ လှမ်းမျှော်၍ မှန်းဆပြောဆိုရသည်မှာလည်း မှန်ကန်တိကျရန်မလွယ်ကူလှချေ။ ဤစာစောင်ပါ စာမူနှင့် အင်တာဗျူးအများစုအား ၂၀၁၆ နှစ်ကုန်ပိုင်းမှ ၂၀၁၇ နှစ်လယ်ပိုင်းအတွင်း လက်ခံရရှိခဲ့ပြီး ၎င်းတို့ကို ယင်းကာလနှင့် ယင်းကာလနောက် ဖြစ်ပေါ်ပြောင်းလဲလာသည့် နိုင်ငံရေးအခြေအနေများနှင့်ပါ ချိန်ထိုးတိုက်ဆိုင်၍ ဖတ်ရှုရမည်ဖြစ်သည်။ ၂၀၂၁ ခုနှစ်၊ မြန်မာနိုင်ငံတွင် အာဏာသိမ်းမှုဖြစ်ပေါ်လာပြီးနောက် လူထုဆန္ဒပြအုံကြွမှုများအတွင်း ကွင်းဆင်းမေးမြန်းခဲ့သည့် လေ့လာမှုစစ်တမ်းတစ်ခု၌ ဆန္ဒပြသူများတွင် ကျောင်းသားများမှာ အရေးပါသော အစုအဖွဲ့ဖြစ်ကြောင်း၊ ၎င်းတို့အနက် အချို့မှာ ကျောင်းသားသမဂ္ဂဝင်များဖြစ်ကြကြောင်း ဖော်ပြထားသည်။ တစ်ဖန် ၂၀၂၁ ခုနှစ်၊ ဩဂုတ်လအတွင်း မေးမြန်းထားသော အင်တာဗျူးတစ်ခုတွင်လည်း ဖြေဆိုသူကျောင်းသူတစ်ဦးက “ကျွန်မက ကျောင်းသားသမဂ္ဂအဖွဲ့ဝင်တစ်ယောက်ပါ။ သမဂ္ဂရဲ့ သမိုင်းပေးတာဝန်ဖြစ်တဲ့ မတရားမှုကို တိုက်ဖျက်ရမယ်ဆိုတဲ့ ဝတ္တရား ကျွန်မမှာ ရှိပါတယ်” ဟု ဖြေကြားထားသည်ကို တွေ့ရသည်။ ဤဖြေဆိုချက်များကို ထောက်ဆခြင်းအားဖြင့် ဖိနှိပ်မှုနှင့် မတရားမှုတို့ ရှိနေသမျှ မြန်မာကျောင်းသားတို့၏ သမဂ္ဂစိတ်ဓာတ်သည်လည်း မတိမ်ကော

သကဲ့သို့ ကျောင်းသားလှုပ်ရှားမှုများသည်လည်း ဆက်လက်ပေါ်ပေါက်နေဦးမည်ဟု ယူဆရန် ရှိသည်။[23]

## ကျေးဇူးတင်လွှာ

ဤအထူးစာစောင်၏ စတင်သန္ဓေတည်ရာ ၂၀၁၆ ခုနှစ်၊ အလုပ်ရုံ ဆွေးနွေးပွဲသို့ တက်ရောက်ဟောပြောဆွေးနွေးခဲ့ကြသည့် ပုဂ္ဂိုလ်အားလုံးနှင့်တကွ စာမူ၊ အင်တာဗျူး တို့ဖြင့် စာစောင်ကို ထည့်ဝင်ကူညီပေးကြသည့် မျိုးဆက်ဟောင်း၊ မျိုးဆက်သစ် ကျောင်းသားခေါင်းဆောင်များအား ကျေးဇူးတင်ရှိပါသည်။ ကူညီပေးခဲ့သော စာမူများကို အချောသတ်ဖတ်ရှုတည်းဖြတ်ရေးသားရာတွင် ကူညီပေးခဲ့သော စဝေါထန်နှင့် မျက်နှာဖုံးပန်းချီနှင့် အတွင်းပန်းချီများကို ရေးဆွဲပေးခဲ့ကြသော အနုပညာရှင် သုံးဦးတို့အား ဂျာနယ်အယ်ဒီတာအဖွဲ့က ကျေးဇူးအထူးတင်ရှိကြောင်း မှတ်တမ်းတင် ဖော်ပြအပ်ပါသည်။

## ကိုးကားချက်များ

Altbach, P. G. (1974). *Student Politics in America: A Historical Analysis*. McGraw-Hill Book Co.

Altbach, P. G. (1987). *Higher Education in the Third World: Themes and Variations*. Stosius Inc.

Aspinall, E. (2012). Indonesia: Moral Force Politics and the Struggle Against Authoritarianism. In M. L. Weiss, & E. Aspinall (Eds.), *Student Activism in Asia: Between Protest and Powerlessness* (pp. 153-180). University of Minnesota Press.

Independent Research Network. (2022). *The Internal Struggle: The Fight for an Inclusive National Identity in Myanmar*.

Jordt, I., Tharaphi Than, & Sue Ye Lin. (2021). How Generation Z Galvanized a Revolutionary Movement Against Myanmar's 2021 Military Coup. *Trends in Southeast Asia*. https://www.iseas.edu.sg/wp-content/uploads/2021/04/TRS7_21.pdf

[23] Su Mon Thant, 2021.

Kyaw Phone Kyaw. (2016, December 19). The Forgotten Mutiny at Pyin Oo Lwin. *Frontier Myanmar.* https://www.frontiermyanmar.net/en/the-forgotten-mutiny-at-pyin-oo-lwin/

Lipset, S. M. (1967). University Students and Politics in Underdeveloped Countries. In S. M. Lipset (Ed.), *Student Politics* (pp. 3-53). Basic Books.

Lipset, S. M. (1971). *Rebellion in the University*. Little, Brown and Co.

Lipset, S. M., & Altbach, P. G. (Eds.). (1969). *Students in Revolt*. Houghton Mifflin.

Metro, R. (2016). The University Student Protests in Burma/Myanmar, 2014–2016. In J. Millican (Ed.), *Universities and Conflict: The Role of Higher Education in Peacebuilding and Resistance* (pp. 205-218). Routledge.

Pinner, F. A. (1971). Students: A Marginal Elite in Politics. *The ANNALS of the American Academy of Political and Social Science*, *395*(1), 127–138.

Quinn, E., Lilienfeld, R., & Hill, R. (Eds.). (1972). *Interdiscipline: A Reader in Psychology, Sociology, and Literature*. Free Press.

Rives, N. M. L. (2014). *University Student Activism in Burma/Myanmar During the 1980s* [Unpublished doctoral dissertation]. University of Kansas.

Rootes, C. A. (1980). Student Radicalism: Politics of Moral Protest and Legitimation Problems of the Modern Capitalist State. *Theory and Society, 9*(3), 473-502. http://www.jstor.org/stable/656878

Schubert, G., Tetzlaff, R., & Vennewald, W. (Eds.). (1994). *Demokratisierung und Politischer Wandel. Theorie und Anwendung des Konzeptes der strategischen und konfliktfähigen Gruppen [Democratization and Political Change. Theory and Application of the Concept of Strategic and Conflict-capable Groups]*. LIT.

Silverstein, J. (1968). Burmese Student Politics in a Changing Society. *Daedalus, 97*(1), 274-292. http://www.jstor.org/stable/20023809

Silverstein, J. (1970). Burmese and Malaysian Student Politics: A Preliminary Comparative Inquiry. *Journal of Southeast Asian Studies, 1*(1), 3-22. http://www.jstor.org/stable/20069843

Su Mon Thant. (2021). *In the Wake of the Coup: How Myanmar Youth Arose to Fight for the Nation.* https://eu.boell.org/en/young-voices-myanmar

Turner, A. (2014). *Saving Buddhism: The Impermanence of Religion in Colonial Burma.* University of Hawaii Press.

Weiss, M. L., & Aspinall, E. (Eds.). (2012). *Student Activism in Asia: Between Protest and Powerlessness.* University of Minnesota Press.

Win Min. (2012). Burma: A Historic Force, Forcefully Met. In M. L. Weiss & E. Aspinall (Eds.), *Student Activism in Asia: Between Protest and Powerlessness* (pp. 181-204). University of Minnesota Press.

*ဗမာနိုင်ငံလုံးဆိုင်ရာကျောင်းသားသမဂ္ဂများအဖွဲ့ချုပ် (တရားဝင်)ဖြစ်မြောက်ရေးကော်မတီ၏ပထမအကြိမ်ညီလာခံ ၂၈.၈.၈၈၊* (၂၀၁၆)၊ ယဥ်မျိုးစာအုပ်တိုက်။

၇၄-၇၅-၇၆ နိုင်ငံရေးအင်အားစု၊ (၂၀၁၃)၊ *၇၄-၇၅-၇၆ မ.ဆ.လ အာဏာရှင်ဆန့်ကျင်ရေးအံတုလှုပ်ရှားမှုများ*၊ ရွှေပြည်တန် စာအုပ်တိုက်။

ကျော်သူစိုး(ကလေး)၊ (၂၀၁၆)၊ *ကောလိပ်သူပုန်-စစ်အာဏာရှင်လက်ထက်တွင်ပထမဆုံးနှင့် နောက်ဆုံးသောတပ်တွင်းကောလိပ်တော်လှန်ရေး*၊ မြန်မာ့ခေတ်စာပေ။

ခင်မောင်ကြီး၊ (၂၀၁၃)၊ *မေ့ပျောက်နိုင်စရာမရှိတဲ့ အမျိုးသားနိုင်ငံရေးနှင့် ကျောင်းသားလှုပ်ရှားမှု*၊ ယဥ်မျိုးစာအုပ်တိုက်။

ဇနိယ၊ မောင်၊ (၂၀၁၅)၊ *ဗိုလ်အောင်ကျော် (၁၉၃၈-၃၉ ကျောင်းသားလှုပ်ရှားမှုသမိုင်း)*၊ ယဥ်မျိုးစာအုပ်တိုက်။

ညဏ်မောင်ချစ်၊ (၂၀၁၄)၊ *ရန်ကုန်တက္ကသိုလ်ကျောင်းသားများသမဂ္ဂ သမိုင်းအစ*၊ မလိခစာပေ။

တက္ကသိုလ်ကျောင်းသားသမဂ္ဂများ (ရန်ကုန်)၊(၂၀၂၀)၊ *ပထမကျောင်းသားသပိတ်သို့ ဦးညွှတ်ခြင်း*၊ ရန်ကုန်လမ်းမများစာပေ။

သံချောင်း၊ဖိုး၊ ရဲဘော်၊ (၂၀၁၃)၊ *ကျောင်းသား၊ထောင်၊တော်လှန်ရေးသမား*၊ ယဥ်မျိုးစာအုပ်တိုက်။

ဘိုးသိမ်း၊ (၂၀၁၆)၊ *တက္ကသိုလ်များဗဟိုချုပ်ကိုင်မှုလျှော့ချရေးနှင့် တခြားတက္ကသိုလ်ရေးရာ၊ကျောင်းသားသမဂ္ဂရေးရာဆောင်းပါးများ*၊ ဧကရာဇ်စာပေ။

မင်းသိမ်း၊ ဒေါက်တာ၊ (၂၀၁၃)၊ *ကျောင်းသားသမဂ္ဂအဆောက်အအုံဖောက်ခွဲဖျက်ဆီးမှုတရားခံဘယ်သူလဲ*၊ အောင်ပင်လယ် စာပေတိုက်။

မင်းသိမ်း၊ ဒေါက်တာ၊ (၂၀၂၀)၊ *ကံ့ကော်တောမှ ဒေါင်းပျိုခွပ်သံ (ရန်ကုန်တက္ကသိုလ်ကျောင်းသားလှုပ်ရှားမှုသမိုင်း)*၊ လွင်ဦးစာပေ။

ထက်အောင်ကျော်၊ (၂၀၁၃)၊ *သူပုန်ကျောင်းသားတစ်ဦးရဲ့ မာရသွန်ခရီး*၊ Dawei Watch စာပေ။

ထိန်ဝင်း (ခာတ်ပုံ)၊ (၂၀၁၄)၊ *၁၉၇၄ ဦးသန့်အရေးအခင်း*၊ ထိန်ဝင်းစာပေ။

ယဥ်ထွန်း၊ (၂၀၁၃)၊ *7th July အရေးတော်ပုံမှတ်တမ်း*၊ ယဥ်မျိုးစာပေ။

လှကွန့် (စုစည်းတင်ပြ)၊ (၂၀၁၃)၊ *အရိုးတွန်တဲ့ဇူလိုင် (၇)*၊ ဇင်ရတနာစာစောစာပေ။

ဝင်းမောင်သန်း၊ မောင်၊ (၂၀၁၂)၊ *ကျောင်းသားအရေးတော်ပုံ (၁၉၅၃-၅၄)*၊ သံလွင်ငြိမ်းချမ်းစာပေ။

အောင်ထွန်း၊ (၂၀၁၂)၊ *မြန်မာနိုင်ငံကျောင်းသားလှုပ်ရှားမှုသမိုင်း (၁၉၀၃-၁၉၆၂)*၊ ပဥ္စဂံစာပေ။

အောင်ဒင်၊ (၂၀၁၄)၊ *နွေတစ်ညမှ အစပြု၍*၊ ခေတ်ပြတိုက်စာပေ။

အောင်ဝေး၊ (၂၀၁၃)၊ *ကိုဗဟိန်းမှသည်ကျော်ကိုကိုအထိ မြန်မာနိုင်ငံကျောင်းသားလှုပ်ရှားမှုသမိုင်းအကျဉ်း (၁၉၀၃-၂၀၀၇)*၊ မြန်မာ့ခေတ်စာအုပ်တိုက်။

အောင်သာ (PPP)၊ (၂၀၁၆)၊ *ခေတ်ပြိုင်မြန်မာ့နိုင်ငံရေးနှင့် ကျောင်းသားလှုပ်ရှားမှုအဆင့်နေရာ*၊ ယဥ်မျိုးစာအုပ်တိုက်။

# Student Strikes for Education Reform, 1920-2015

**Boe Thein (Dr. Min Thein)**

## Abstract

There have been many student strikes and demands during the last century of student activism in Myanmar. Students contributed to the abolishment of British colonialism, to the gaining of independence, to the maintenance and development of democracy, and then the long, ongoing struggle against military rule. Four major student strikes have focused on demanding education reform. These are: the original student strike of 1920, the 1936 student strike, the 1938 student movement and then the 2015 student strike. This article, written in 2016, describes these strikes chronologically from the point of view of a student activist who had a leading role in the All Burma Federation of Student Unions before the military coup of 1962.

## Introduction

If we analyze the history of Myanmar's student movements, we see that they have all been based on at least one of three core struggles: education reform, the improvement of educational conditions, and national duty. The first two struggles mentioned have not changed much until today, but the third is contingent on the needs of the nation at the time.

Student unions have endured many different political situations. They contributed to ending British colonialism and gaining the independence of the nation state (1920-1948), to the end of the civil war and peace within the union (1948-1958), to reinstating general elections and the transfer of power back to an elected civilian government (1958-1960), and to ending military dictatorship and developing and institutionalizing democracy, a long struggle from 1962 until today. At the time of writing in 2016 it has been 96 years since the first major student

movement in Myanmar's modern history started in 1920, demanding education reform. Three other major student movements and strikes have focused on this same goal in Myanmar's modern history. This article describes them chronologically, in order for the reader to draw their own conclusions.

## The 1920 Student Strike

Rangoon College students initiated the 1920 strike in response to the British colonial government's proposed University of Rangoon Act, 1920, which was to raise the status of Rangoon College to a university. There was no university before 1920 in Burma, but there were colleges: Rangoon College, which was technically under the Calcutta University of India, was opened at the corner of Bogyoke and Shwedagon streets (currently the campus of Basic Education High School [BEHS] 1, Latha Township) in 1894. The college offered first-year and second-year undergraduate classes. Fifteen years later, in 1909, the American Baptist Mission opened Judson College, which was under Calcutta University at Ahlone Ward, Cusion Missionary High School (currently BEHS 4, Ahlone Township).[1] The college also offered only first-year and second-year undergraduate classes.

In 1909, the Young Men's Buddhist Association (YMBA), which was the leading non-colonial political group in Burma at that time, led the people's demand for the establishment of a university in Burma. The British colonial government demurred and said there were still not enough students in Burma to warrant a university. But after continuous work by the YMBA and the people, the British government started preparing to open a university in Rangoon.

Reginald Craddock, then the Governor of Burma, formed a drafting committee for the University of Rangoon Act, consisting of 30 members, and led by Matthew Hunter, the

[1] ရန်ကုန်တက္ကသိုလ်သမိုင်းပြုစုရေးသားရေးအဖွဲ့ ၊ ၁၉၉၅၊ စာ-၂-၃။

Director of Public Instruction. Only six of the 30 committee members were Burmese people. The public found three parts of the initially proposed University Act unacceptable: first, the requirement that Rangoon University be the only university in Burma; second, the requirement for all students to be boarding students and not day students; and third, that the first year of university be a pre-course year, where students would be observed and only allowed to attend the university proper the following year, after passing the probation period. The students who joined the pre-course would have uncertain futures and all the costs involved in attending a full year of courses could be wasted as students had to pay for this whole extra year of 'probation'. Basically, the colonial government's University of Rangoon Act was intended only for the children of the rich and government officials. It barred children from middle-class and poor families from higher education.

Even though the YMBA and public opposed the proposed act, the drafting committee approved it on 28 August 1920 and the Governor approved it on 26 September. On 24 October, the Viceroy of India signed it into law and the University of Rangoon Act was fully enacted. It was announced that the opening ceremony of Rangoon University would be held on 7 December 1920.

Because of this unilateral pushing through of the act without public input, student Ko Ba Oo secretly led a group of ten students from Rangoon College to discuss a strike at the Saturday Corner of Shwedagon Pagoda on 3 December 1920. They decided to have a student meeting at U Ariya Monastery, Bahan Township, on the evening of 4 December, to inform more students about the strike. A strike committee of 26 students was formed, consisting of 20 students from Rangoon College and six from Judson College. Ko Ba Oo took the chairman role in the strike committee.

The initial plan was to launch the strike at the opening ceremony of the new Rangoon University, with the governor in attendance. When the governor announced the opening of the university, the university students would leave the opening

ceremony, declare a strike and begin shouting their slogans. However, this plan was crippled by an informant student at the meeting who reported it to the school principal. The students got wind of this and moved the strike to 5 December (which was 10 days after the Tazaungmone full moon day). The next day, all the high schools in Rangoon went on strike in support, and after that, the high schools in Mandalay joined as well. The strike spread across Burma and people all over the country overwhelmingly supported it.

The college authorities ignored the 16 demands made by the strike committee and gave an ultimatum to students to come back to study before 23 December 1920.[2] Later, they postponed the date to 5 January 1921. As the 16 points demanded by the students were not even considered until 19 December, the striking students submitted an application to leave the college with a date of 21 December in order to avoid being expelled.

On 24 December, the student strike council released a 'National Education' statement. According to the statement, a national university was to be established in Bahan Township, Rangoon, and national schools were to be established in almost all cities around Burma with the support of the public. At that time, there were not more than 50 public schools in Burma. With the support of the public, the number of national schools increased to 145 schools nationwide within three years from 1920.

Prior to the student strike, YMBA political leader groups gathered and reformed as the General Council of Burmese Associations (GCBA) on 29 October 1920. GCBA leaders and students from the strike jointly formed the 'National Schools' Governing Body'. GCBA leader U Maung Gyi took charge as the group chairman.

While national schools were developing rapidly in Burma in 1922, the British colonial government prepared to pass reforms in January 1923 granting British India a dyarchy constitution, and therefore, some limited self-rule to Burma. Previously, the

---

[2] For the details of the 16 demands, see
ရန်ကုန်တက္ကသိုလ်သမိုင်းပြုစုရေးသားရေးအဖွဲ့၊ ၁၉၉၅၊ စာ-၁၂-၁၄။

Governor's Council (cabinet) was composed of individuals appointed directly by the Governor. There were no publicly elected representatives in the cabinet. In the dyarchy administration, the Governor's Council consisted of a mix of appointees and elected members of parliament. The administrative power of the state was divided between the governor and the people.

The majority of Burmese people wanted self-administration, so-called 'Home Rule', rather than dyarchy administration. The government planned an election for members of parliament on 21 November 1920. During that time, the GCBA was divided into two groups. One group accepted participating in the election for the dyarchy administration, to join the government body and work for the country. The other group refused and demanded more self-governance. Following the split of the GCBA, the National Schools' Governing Body was divided into two groups. The 26 members of the student strike council were also split in two. U Maung Gyi, who took charge as group chairman, joined the GCBA group that participated in the election, and he was elected as a member of parliament. When the Governor's Council was formed, U Maung Gyi took charge as the Minister of Education.

Even though the 16 student demands were ignored by the Governor and university authorities from the start of the strike on 5 December 1920 right up to the election of the dyarchy administration, after U Maung Gyi became Minister of Education, he amended some elements of the University of Rangoon Act with the 'Law Amending the University of Rangoon Act, 1924'.

In the amended act, the article stipulating that there be only one university in Burma was corrected. Thereafter, two more colleges were allowed to open in Rangoon. They were the Medical College and the Teacher Training College. For upper Burma, an intermediate college was permitted to open in Mandalay. An intermediate college is a university-level college that teaches first and second-year courses. The next amendment was that students were allowed to attend the first year of university directly without a one-year pre-course probation period. So, it would only take four years to achieve a Bachelor of Arts, for

example. The other amendment was to allow students to attend university as day students. Students from middle-class families who could not afford to stay at a dormitory would be able to attend university. Another important amendment allowed a graduate representative of the Rangoon University alumni to join the Rangoon University Council. Since there was no student union at that time, students' wishes were reported to the university authorities through this graduate representative. The Law Amending the University of Rangoon Act, 1924 did not address all 16 student demands, but some of the more crucial ones were addressed, improving upon the 1920 University of Rangoon Act.

## The 1936 Student Strike

Rangoon University had no significant student movements for 15 years after the 1920 strike. Students who participated in the 1920 strike with strong national spirit did so voluntarily, but later students were less politically active and thought that the strikes of earlier students had only interrupted their education.

During the period without strikes, university authorities discriminated against university students. Sycophantic students received opportunities; the rest were oppressed. Even after graduation, when university staff wrote recommendation letters for students, they distinguished between two types. Sycophants were provided with a full endorsement facilitating entrance into the Indian Civil Service, police, or Burmah Oil Company, while others received a less flattering letter, not even useful for getting a job teaching in a small town. Students who refused to suck up to the British colonizers found it difficult to maintain momentum in their early careers.

On 7 January 1931, students officially established the Rangoon University Student Union (RUSU). The RUSU Constitution was modeled after the Oxford University Student Union, which had its activities limited by university authorities to only those regarding student welfare such as debating and inviting famous people to give speeches. Except for the first and second presidents of the RUSU, U Kyaw Khin and U Htun Sein, all following

four presidents were British sycophants. During the years they were each RUSU president, there were no activities except debates and lectures.

In the 1934–35 academic year, the incumbent RUSU Vice President resigned from his position and by-elections were held. Ko Nu became the new vice president. During the same 1934–35 academic year, D. J. Sloss, the university's principal, expelled two students for failing to respond "Sir" during roll call. RUSU Vice President Ko Nu objected to the expulsions. In December 1935 the principal expelled another 11 students for failing their exams. Again, RUSU Vice President Ko Nu was unsuccessful at stopping the expulsions.

Ko Nu, Ko Kyaw Nyein, and Ko Thein Pe invited Sir U Thwin, and other respected people and political leaders, to Shwedagon Pagoda in order to consult them. Ko Kyaw Nyein was given the task of explaining about the expulsions and the respected people and political leaders who attended came to understand the situation at the university. This event at Shwedagon Pagoda was the beginning of the first student movement since the 1920 student strike. As a result of the meeting, ten out of the 11 expulsions were reversed.

Soon after this event, but before the December 1935 holidays began, university authorities issued a statement saying there would be a new mock exam before the school holidays that had to be passed before students could take final exams. Nothing like this mock exam had happened before in Rangoon University's history. Therefore, the students held a meeting at the student union building. At the meeting, RUSU President Ko Poe Aye and two other executives were assigned to consult with the university principal about the mock exam and report back to the union and student body.

Ko Poe Aye deferred to the British and procrastinated from meeting the principal, so RUSU Vice President Ko Nu assigned another RUSU executive member, Ko Kyaw Nyein, to consult with the principal instead. When Ko Kyaw Nyein went to speak with him, he was treated rudely. Ko Nu and his friends consulted and decided to publish the rude words of the university

principal in the newspaper so the public would know about it. Following that, Ko Nu visited towns in the Ayeyarwady river delta to organize meetings with respectable people from those cities. Ko Thein Pe also went to the towns of upper Burma to do the same. The newspapers regularly updated readers about the outcomes of these meetings.

The RUSU finally decided to demand the resignation of the university principal. A day after Ko Nu and Ko Thein Pe returned to Rangoon, a city-wide meeting was held at Shwedagon Pagoda's Northwest Corner, and the public attendees also demanded the resignation of the school principal. The meeting was reported on by the media. The next day, the university administration called an emergency meeting and decided to cancel the mock exam.

In the election for the RUSU executive committee for the academic year 1935–36, Ko Nu won the position of chairman unopposed. Ko Nu's allies won the remaining executive positions. The pro-British students were defeated. After Ko Nu and his friends became executive members, the RUSU began to work not only on students' issues but also took an anti-colonial, pro-independence stance.

After Ko Nu became chairman of the RUSU, he took every opportunity during speeches, debates, and lectures, to call attention to the oppression of students by the school principal, D. J. Sloss, claiming that he was using divide and rule tactics against the student body. The school principal increasingly searched for a way to expel him from school. Then, in the annual RUSU Oway magazine, an article in English titled "Hell Hound At Large" was published. The university principal used the article to expel Ko Nu from the university on 21 February 1936. Authorities also expelled magazine editor Ko Aung San for not revealing the name of the author. Students went on strike after an RUSU meeting on 25 February to support Ko Nu. This was Burma's historic second student strike, led by RUSU Vice Chairman, Ko Raschid.

Since Ko Nu was expelled, he could not formally participate as a member of the strike committee. The strike committee made 10 demands. A key demand was to amend the Rangoon

University Act. Another was to revoke the principal's authority to expel students and to keep this power in the hands of the school administration. The government and university authorities ignored the demands and threatened to ban striking students from sitting their exams. But the students did not end their strike.

Over a month later, in April, the British colonial government appointed High Court Judge U Mya Bu as the chairman of a new committee to investigate the University Act. In May, the government and the striking students negotiated. Although not all of the demands were met, the strike committee agreed to end the strike, as some of the points were met. The strike ended on 10 May 1936. As a result of the strike, Burmese Professor U Pe Maung Tin was appointed as the school principal in place of D. J. Sloss.

## The 1938 Student Movement

The U Mya Bu committee launched its report on amending the Rangoon University Act in the first week of May 1937. Students did not accept it and a Burma-wide student union conference was held on 9 May 1937, forming the "University Act Amending Committee" with seven members. Lawyers, newspaper editors, a representative from the Dobama Association, the former chairman of the All Burma Students' Union (ABSU), Ko Raschid, and the new chairman of the ABSU, Ko Aung San, participated in the new committee. Ko Aung San took responsibility as an advocate. In today's world, we call an advocate a secretary.

The committee analyzed the U Mya Bu committee's report and distributed their conclusions to the Education Ministry and to all students nationwide, who met and discussed the report and the committee's analysis of it. Dr Ba Maw, the then-Premier, procrastinated amending the University Act, as it had been amended only just over a decade before in 1924.

In January 1938, there was a strike at the Syriam oil refinery. The strike spread to other refineries and then all refineries nationwide, and in December 1938, the oil refinery strike group

started marching to Rangoon. That city's Dobama Association leaders, as well as RUSU Chairman Ko Ba Hein and student leader Ko Ba Swe, went to Magway Town on 8 December to help with the march.

On the night of 12 December, they held a meeting at Me Tae monastery. At that meeting, Ko Ba Hein gave a speech. In his speech, he said, "At one strike of the horse's hoof, there will be burning fire". Because of that speech, Ko Ba Hein and Ko Ba Swe were charged and arrested under Section 107 of the Criminal Procedure Code, for allegedly provoking the uprising and discrediting the colonial government.

The RUSU held a meeting to discuss the arrests at 7 p.m. on 13 December. RUSU Vice Chairman Ko Hla Shwe led as chairperson and RUSU executive member Ko Aye Kyaw was master of ceremonies (MC). Two demands were decided upon: first, to retract all the repressive laws that prevented the oil refinery strike groups from marching to Rangoon, and second, to release Ko Ba Hein and Ko Ba Swe as soon as possible. The next day, at 4 p.m., the ABSU and RUSU held a special meeting open to students from all schools at Shwedagon Pagoda.

On 15 December, at 4 p.m., another open meeting was held at Shwedagon Square. More than 10,000 people, including students, monks, women's associations, and others attended. Once more RUSU Vice Chairman Ko Hla Shwe took charge as chairperson and RUSU executive member Ko Aye Kyaw took responsibility as MC. They made five demands, similar to those from previous meetings. They also set a deadline for a response from the authorities: 19 December.

Since the government took no action by the deadline, a total of 8,000 students from universities and high schools demonstrated at the secretariat office, which was on Sparks Street (currently Bo Aung Kyaw Road). The protest was brutally suppressed by the government and mounted police. Student leader Aung Kyaw was killed, and many students were injured. On 24 December, the body of Aung Kyaw (now Bo, or 'General', Aung Kyaw) was carried from Rangoon Hospital to the student union building, and in the afternoon of 27 December, it was carried to

Kyandaw Cemetery for burial. Bo Aung Kyaw's funeral was attended by monks, students, the public, and people from different associations and political parties. Students went on strike in Rangoon after the death of Bo Aung Kyaw. They opened a strike camp at the City National School (known colloquially as the Myo Ma School and currently BEHS 2, Dagon) in downtown Rangoon.

In support of the Rangoon strike, several other strikes occurred around the country, including a strike camp at the Central National High School, Mandalay. On 8 February 1939, the British colonial government surrounded the Mandalay strike camp and arrested three student leaders. At the same time, two leaders of the Young Monk Alliance were arrested at their respective monasteries.

Because monks and student leaders were arrested, Young Monk Alliance members, students, students' parents, and the public from Mandalay held a city-wide meeting at the Mandalay Eain Taw Yar Pagoda's grand rest house, at 12 p.m. on 9 February 1939. The meeting decided to support the demands of the Rangoon students to march against Article 144 of the Penal Code. It was too late to march on that day, so they moved the time to 11 a.m. the next day.

That next morning more than 200,000 people, including monks, students, students' parents, and the general public, gathered at Eain Taw Yar Pagoda to march according to a plan developed by the Young Monk Alliance chairman. When the marchers arrived at 26 B street, south of the telegraph office, the British government opened fire and created 17 martyrs, including killing seven monks.

At around the same time, more than 1,000 students from the Rangoon City National School camp went on a hunger strike on the morning of 7 February 1939. People were shocked. When the parents of the students heard the news, they held an emergency meeting and appealed to the government to make concessions to the student demands. They also requested the students stop the hunger strike. The meeting decided that if the government did not make concessions, the parents themselves would fight on the front line.

Likewise, the *thakin* leaders of the Dobama Association and the city's respected leaders also held a special meeting, condemning the government for the students' hunger strike, and requesting the students to stop it. In addition, parents tried to organize a meeting between what was then Ba Maw's interim government and the students, but the students refused to discuss anything with the government until Ba Maw resigned.

On 16 February 1939, some members of parliament submitted a motion of no confidence to overthrow Ba Maw's coalition government. There were 70 supporters and 37 opposed to the motion, and Ba Maw's government fell. U Pu became Premier. After U Pu became Premier, the U Pu government, representatives of the city's respected people, and student leaders started a tripartite discussion on 20 February. A week later, three people, including Premier U Pu, who was also Chairperson of the Rangoon City Council of Elders, Sir U Thwin, and Ko Hla Shwe from RUSU, signed a tripartite agreement, which included that the government would not act against the striking students and oil refinery workers, would release all arrested protesters, that exams should be taken three months' apart, and that an investigation committee would inquire into the events of 20 December 1938. Following the agreement, the student strike committee announced they would end the strike. In this way, the third student movement successfully ended.

After the third student strike finished, the U Pu government approved amending the University of Rangoon Act on 15 June 1939. Nevertheless, students did not agree with the chosen amendments and the government had to amend the act again. During the U Pu government, the University of Rangoon Act was announced as Act No. 13 of 1939 for the first amendment, and Act No. 20 of 1939 for the second.

After the 1938 student movement there were no major education-related student movements for a long time. During World War II and until the independence of Burma in 1948, student unions pushed for independence and cooperated with organizations including the Anti-Fascist People's Freedom League but did not push for education reform.

Three months after independence in 1948, a civil war started in Burma. The national government had become 'The Rangoon Government', controlling little territory outside of the capital city. The government increased budget spending on the military in order to win the war and very little was spent on education. There was no time to establish an education system suitable for an independent country and the British colonial education system was still used, though in modified form.

As a result, student movements began pushing for education reforms, including increasing the budget, balancing teacher and student ratios, for better teaching materials, more and better school buildings, and an end to civil war. From 1948 to 1957 these movements percolated, but never reached the level of a full strike.

Then in June 1957, the Education Inquiry Committee (EIC) was formed by the government of Prime Minister U Nu. The EIC understood the importance of cooperation, advice, and help from the public, parents, teachers, and students in designing a new education system. The RUSU held an education seminar open to all students and requested the government assist with submitting suggestions from the seminar to the EIC. The government and student union talked for almost a year, and agreed to hold the Union of Burma Student Education Seminar from 9-13 August 1958 at Rangoon University's convocation hall.

All university and college student unions participated in the seminar, and 14 papers were written and submitted. They were formally handed over to Prime Minister U Nu by the Chairman of the Seminar Preparation Committee. Two months after that, on 28 October 1958, General Ne Win seized power and became prime minister of a military caretaker government. Documents from the education seminar disappeared.

From 1958 to 1960, student unions were unable to carry out any educational reform activities and could only work on national projects with the public, political parties, and associations, such as holding quick elections and restoring power to the civilian government. In the 1960 election, the Union Party won under the leadership of U Nu who became prime minister again.

The relationship between the government and student unions was at its best in that period. But just when the unions and the government were finally cooperating well on educational reform, General Ne Win seized power again, and on 2 March 1962, Prime Minister U Nu was detained. On 7 July 1962, the July 7 Student Uprising erupted and on the morning of 8 July the historic RUSU building was destroyed by a mine.

Military authoritarians, under different names, ruled the country for another 50 years, so student unions hid their official existence and worked with a low profile. Student movements mainly worked for national causes such as the restoration of democracy and there was no chance to work for education reform.

## The 2015 Student Strike

When U Thein Sein, the general helming the Union Solidarity and Development Party (USDP), a military proxy party filled with ex-military members, became president following the 2010 election, the USDP-led government announced to the country and the world that Myanmar was on the way to democracy. The government initiated some small and superficial changes to impress the international community, including some education reforms. Bills such as the National Education Bill were prepared. The bill was initiated in 2013 and published by state-owned media in September 2014 to inform the public and solicit suggestions. University teachers' associations, student unions, and the Network for National Education Reform (NNER) pointed out the flaws and gaps in the National Education Bill, including that it was too centralized. Letters of objection were published, and teacher associations and student unions made statements.

On 12-13 November 2014 an emergency meeting of student representatives from across the country was held at the Free Funeral Service Society in North Dagon Township, Yangon. The attendees agreed to create the Democracy Education Movement Leadership Committee (DEMLC), with 15 constituent members. The committee made 11 demands regarding the National

Education Law and students protested across Yangon from 14-18 November.[3]

On the evening of 18 November, the DEMLC issued a press release and demanded that the cabinet, parliament, and the NNER meet the DEMLC and discuss the National Education Law, giving a deadline for a response of 60 days. They did not receive a response, so a strike was called, and students began marching from Mandalay to Yangon on 20 January 2015. The march received overwhelming support from people all along the road and became stronger. Eight days into the march, U Thein Sein agreed to the meeting.

The first day of the four parties' education seminar was held on 1 February 2015 at Yangon University's Diamond Jubilee Hall. The second day was scheduled for 3 February at the Ministry of Education Hall in the capital Nay Pyi Taw (though for various reasons, this did not go ahead), the third day was successfully held at the Yangon Region Government Office on 10 February, and the last meeting was held at the Nay Pyi Taw parliament building on 14 February.

The main outcome of the education seminar was that a bill of revisions, the Bill to Amend the National Education Law, prepared by the DEMLC and NNER, was agreed to by the other parties and submitted to the Amyotha Hluttaw by the Education Ministry. While the bill was undergoing parliamentary procedures, the government cracked down on student protesters in Letpadan Town on 10 March, and more than 70 students and strike supporters were arrested.

Following the crackdown, the Bill to Amend the National Education Law passed parliament. About 70 percent of the bill was cut throughout the process, even though it had been ostensibly approved by government representatives during the quadripartite education seminar. U Thein Sein's USDP government stifled the efforts of students and the public to reform the education system. All they did was arrest students and their supporters. However, the fact that students and stakeholders were able to

[3] For details of the 11 demands, see National Network for Education Reform, 2015, pp. 8-9.

get at least some measures passed through the Bill to Amend the National Education Law, is noteworthy. For nearly 50 years of direct military rule from 1962-2010, the words “student unions” were not even allowed to be published in the media. Compared to that time, the achievements in 2015 constituted a success.

## References


National Network for Education Reform၊ (2015)၊ *အမျိုးသားပညာရေးဥပဒေကို ပြင်ဆင်သည့် ဥပဒေကြမ်း ပေါ်ပေါက်လာရန် လှုပ်ရှားဆောင်ရွက်ခဲ့မှု မှတ်တမ်းများ*၊ National Network for Education Reform။

ဒီမိုကရေစီဖက်ဒရယ်ပညာရေးနှင့်အခြားပညာရေး စနစ် ပြုပြင်ပြောင်းလဲရေးကျောင်းသားသမဂ္ဂအရေး ဆောင်းပါးများ ၊ (၂၀၁၇)၊ ဧကရာဇ်စာပေ။

ကေညီပိတ်၊ (၂၀၁၄)၊ *၁၉၂၀ ကျောင်းသားသပိတ်ကိုယ်တွေ့ (ပထမအကြိမ်)*၊ မလိခစာပေ။

ခင်မောင်လေး၊ ဗိုလ်၊ (၂၀၁၄)၊ *၁၉၃၆-၃၈ ကျောင်းသားသပိတ်နှင့် တက္ကသိုလ်ကျောင်းသားသမဂ္ဂသမိုင်းအစ*၊ ခေတ်ပြတိုက်စာပေ။

မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ၊ (၁၉၇၀)၊ *အမျိုးသားနေ့နှင့်အမျိုးသား ပညာရေးလှုပ်ရှားမှုသမိုင်းအကျဉ်း*၊ မြန်မာ့ဆိုရှယ်လစ် လမ်းစဉ်ပါတီ။

ရန်ကုန်တက္ကသိုလ်သမိုင်း ပြုစုရေးသားရေးအဖွဲ့၊ (၁၉၉၅)၊ *ရန်ကုန်တက္က သိုလ်သမိုင်း ၁၉၂၀-၁၉၉၅*၊ တက္ကသိုလ်များသမိုင်း သုတေသနဌာန။

လေးမောင်၊ ဦး၊ (၂၀၁၂)၊ *မြန်မာနိုင်ငံရေးသမိုင်း[နှစ်အုပ်တွဲ]*၊ စာပေလောကစာအုပ်တိုက်။

# ကျောင်းသားလှုပ်ရှားမှုနှင့် ပညာရေးစနစ် ပြုပြင်ပြောင်းလဲရေး

ဘိုးသိမ်း

## စာတမ်းအကျဉ်း

၂၀၁၆ ခုနှစ်က ရေးသားခဲ့သော ဤဆောင်းပါး၌ ၁၉၂၀ ခုနှစ်တွင် ရန်ကုန်တက္ကသိုလ်အက်ဥပဒေကို ဆန့်ကျင်ကန့်ကွက်ကာ သပိတ်မှောက်ဆန္ဒပြခဲ့သည့် ပထမကျောင်းသား သပိတ်မှစ၍ ၂၀၁၅ ခုနှစ် သမ္မတဦးသိန်းစိန်အစိုးရလက်ထက် ဒီမိုကရေစီပညာရေးလှုပ်ရှားမှုကျောင်းသားသပိတ်အထိ ပညာရေးစနစ်၏ မလိုလားအပ်သော ဖိနှိပ်ခွဲခြားကန့်သတ်ထားမှုများအား ဖယ်ရှားရန် ကျောင်းသားများ လှုပ်ရှားကြိုးပမ်းခဲ့သည့် သမိုင်းစဥ်၊ နှစ်အလိုက် မှတ်တမ်းကို ဖော်ပြထားသည်။

## နိဒါန်း

မြန်မာ့သမိုင်းတွင် ပထမဆုံးကျောင်းသားလှုပ်ရှားမှုမှာ ၁၉၂၀ ခုနှစ်တွင် ပေါ်ပေါက်ခဲ့ရာ ယခုဆိုလျှင် (၉၆) နှစ်ပြည့်ခဲ့ပြီး ဖြစ်သည်။ မြန်မာနိုင်ငံကျောင်းသားလှုပ်ရှားမှုသမိုင်းကို ပြန်လည်ဆန်းစစ်ကြည့်လျှင် သမိုင်းတစ်လျှောက်တွင် ကျောင်းသားလှုပ်ရှားမှုများသည် အဓိကအချက်ကြီး သုံးခုပေါ်တွင် အခြေခံခဲ့ကြသည်။ ၎င်းတို့မှာ (၁) ပညာရေးစနစ် ပြုပြင်ပြောင်းလဲရေး၊ (၂) ပညာသင်ကြားမှုအခြေအနေ တိုးတက်ကောင်းမွန်ရေးနှင့် (၃) ခေတ်အဆက်ဆက် နိုင်ငံ၏ လိုအပ်ချက် အခြေအနေပေါ်တွင် မူတည်သည့် အမျိုးသားရေးတာဝန်ကို ဆောင်ရွက်ခြင်း တို့ဖြစ်ကြသည်။

၎င်းတို့အနက် အမှတ် (၁) နှင့် (၂) လုပ်ငန်းများမှာ (၉၆) နှစ်တာကာလရှိ သမိုင်းစဥ်တစ်လျှောက်၌ တစ်စုံတစ်ရာ ပြောင်းလဲမှုမရှိခဲ့သော်လည်း အမှတ် (၃) အချက်မှာ အမျိုးသားရေးလိုအပ်ချက်ပေါ် မူတည်ပြီး ပြောင်းလဲခဲ့သည်။

အမျိုးသားရေးတာဝန်အနေဖြင့် ကျောင်းသားသမဂ္ဂများသည် ၁၉၂၀ ခုနှစ်မှ ၁၉၄၈ ခုနှစ် လွတ်လပ်ရေးရရှိသည့်အချိန်ထိ ကိုလိုနီစနစ် ဆန့်ကျင်ရေး၊ မြန်မာနိုင်ငံလွတ်လပ်ရေးရရှိရေး တာဝန်များကိုလည်းကောင်း၊ လွတ်လပ်ရေးရရှိသည့် ၁၉၄၈ ခုနှစ်မှ ၁၉၅၈ ခုနှစ်ထိ ပြည်တွင်းစစ်ရပ်စဲရေး၊ ပြည်တွင်း

ငြိမ်းချမ်းရေးတာဝန်များကိုလည်းကောင်း၊ ၁၉၅၈ ခုနှစ်မှ ၁၉၆၀ ခုနှစ် ကာလအတွင်းတွင် အထွေထွေရွေးကောက်ပွဲ အမြန်ပြုလုပ်ပေးရေးနှင့် ရွေးကောက်ခံအရပ်သားအစိုးရထံသို့ အာဏာလွှဲပြောင်းပေးရေး လုပ်ငန်းများကိုလည်းကောင်း၊ ၁၉၆၂ ခုနှစ်မှ စတင်ပြီး ယနေ့အထိ စစ်အာဏာရှင်စနစ်ချုပ်ငြိမ်းရေး၊ ဒီမိုကရေစီရှင်သန်ဖွံ့ဖြိုးရေး လုပ်ငန်းများကိုလည်းကောင်း၊ မြန်မာနိုင်ငံ၏ နိုင်ငံရေးအခြေအနေ ပြောင်းလဲလာသည့်အပေါ်တွင် အခြေခံပြီး ပြောင်းလဲလုပ်ဆောင်ခဲ့သည်။

၁၉၂၀ ခုနှစ်တွင် ဖြစ်ပေါ်ခဲ့သည့် မြန်မာနိုင်ငံ၏ ပထမဆုံး ကျောင်းသားလှုပ်ရှားမှုသည် ပညာရေးစနစ် ပြုပြင်ပြောင်းလဲမှုကို တောင်းဆိုရင်း ပေါ်ပေါက်လာသည့် လှုပ်ရှားမှုကြီးဖြစ်သည်။ ထို့အတူ မြန်မာ့သမိုင်းတစ်လျှောက်တွင် ပညာရေးစနစ် ပြုပြင်ပြောင်းလဲရေးအတွက် ကြိုးစားတောင်းဆိုရင်း ပေါ်ပေါက်လာခဲ့သည့် ထင်ရှားသည့် ကျောင်းသားလှုပ်ရှားမှု (ကျောင်းသားသပိတ်) နောက်ထပ်သုံးကြိမ် ပေါ်ပေါက်ခဲ့ပါသည်။

## ၁၉၂၀ ပထမကျောင်းသားသပိတ်

၁၉၂၀ ပြည့်နှစ် ပထမကျောင်းသားသပိတ်သည် ရန်ကုန်တက္ကသိုလ်ကျောင်းသားများက ဗြိတိသျှအစိုးရ၏ "၁၉၂၀ ပြည့်နှစ် ရန်ကုန် တက္ကသိုလ်အက်ဥပဒေ" ကို ဆန့်ကျင်ကန့်ကွက်ကာ သပိတ်မှောက် ဆန္ဒပြသဖြင့် ပေါ်ပေါက်လာခြင်း ဖြစ်ပါသည်။

၁၉၂၀ ပြည့်နှစ်မတိုင်မီက မြန်မာနိုင်ငံတွင် တက္ကသိုလ်တစ်ခုမှ မရှိခဲ့ပေ။ အိန္ဒိယနိုင်ငံ ကာလကတ္တားတက္ကသိုလ်၏ လက်အောက်ခံ ရန်ကုန်ကောလိပ်ကို ဗိုလ်ချုပ်လမ်းနှင့် ရွှေတိဂုံဘုရားလမ်းထောင့်ရှိ ယခု အ.ထ.က (၁) လသာကျောင်းဝင်းထဲတွင် ၁၈၉၄ ခုနှစ်က စတင် ဖွင့်လှစ်ခဲ့သည်။ အဆိုပါကောလိပ်တွင် တက္ကသိုလ်ပထမနှစ်နှင့် ဒုတိယ နှစ်သင်တန်းများ သင်ကြားပေးခဲ့သည်။ နောက် (၁၅) နှစ်ခန့်အကြာ ၁၉၀၉ ခုနှစ်တွင် အမေရိကန်နှစ်ခြင်းခရစ်ယာန်အသင်းက အလုံရပ်ကွက် ကူရှင်သာသနာပြုအထက်တန်းကျောင်း (ယခု အ.ထ.က (၄) အလုံ) တွင် ကာလကတ္တားတက္ကသိုလ်လက်အောက်ခံ ဂျပ်ဆင်ကောလိပ်ကို ဖွင့်လှစ်ခဲ့သည်။ ထိုကောလိပ်တွင်လည်း တက္ကသိုလ် ပထမနှစ်နှင့် ဒုတိယနှစ်သင်တန်းများကိုသာ သင်ကြားပေးခဲ့သည်။

၁၉၁၉ ခုနှစ်တွင် ထိုအချိန်က မြန်မာ့နိုင်ငံ၏ နိုင်ငံရေးဦးဆောင် အဖွဲ့ကြီး ဖြစ်သော YMBA ခေါင်းဆောင်များနှင့် မြန်မာပြည်သူများက မြန်မာနိုင်ငံတွင် တက္ကသိုလ်တစ်ခုဖွင့်လှစ်ပေးရန် တောင်းဆိုလာခဲ့ကြသည်။ ဗြိတိသျှအစိုးရက မြန်မာနိုင်ငံတွင် တက္ကသိုလ်တက်မည့် ကျောင်းသားဦးရေ နည်းနေသေးသည် ဟု အကြောင်းပြကာ တက္ကသိုလ် ဖွင့်ခွင့်မပေးပဲ အချိန်ဆွဲခဲ့သည်။ ၁၉၁၆ ခုနှစ်တွင် YMBA ခေါင်းဆောင်များနှင့် ပြည်သူများ၏ စဥ်ဆက်မပြတ် တောင်းဆိုမှုများကြောင့် ဗြိတိသျှအစိုးရက ရန်ကုန်မြို့တွင် တက္ကသိုလ်တစ်ခု ဖွင့်လှစ်ပေးရန် ပြင်ဆင်လာခဲ့သည်။

ထိုအချိန်က မြန်မာနိုင်ငံဘုရင်ခံ ကရက်ဒေါက် က ပညာမင်းကြီး မက်ဟန်တာ ဦးဆောင်သော အဖွဲ့ဝင် (၃၀) ဦးခန့် ပါဝင်သည့် ရန်ကုန်တက္ကသိုလ်အက်ဥပဒေ ရေးဆွဲရေးကော်မတီကို ဖွဲ့စည်းပေးခဲ့သည်။ ထို ဥပဒေရေးဆွဲရေးကော်မတီတွင် မြန်မာတိုင်းရင်းသား (၆) ဦးသာ ပါဝင်သည်။ အဆိုပါကော်မတီက ရေးဆွဲသည့် ရန်ကုန်တက္ကသိုလ် အက်ဥပဒေတွင် ပြည်သူလူထု လက်မခံနိုင်သည့် အချက်များ ပါဝင်နေခဲ့သည်။ ပြည်သူလူထု အဓိက လက်မခံနိုင်သည့် အချက်များမှာ (၁) မြန်မာနိုင်ငံတွင် ရန်ကုန်တက္ကသိုလ်တစ်ခုသာ ရှိရမည်ဟူသည့်အချက်၊ (၂) တက္ကသိုလ်တွင် ကျောင်းအိပ်ကျောင်းစား ကျောင်းသားများကိုသာ တက်ခွင့်ပြုပြီး နေ့ကျောင်းသားများ တက္ကသိုလ် တက်ခွင့်မပြုသည့် ကိစ္စ၊ (၃) တက္ကသိုလ်စတက်သည့် တစ်နှစ်ကို အကြိုသင်တန်းအဖြစ် ကျောင်းတက်ရမည်။ အကြိုသင်တန်းတစ်နှစ်အတွင်း ကျောင်းသားများကို အကဲခတ်ပြီး တက္ကသိုလ်က သဘောကျသည့်သူများသာ နောက်တစ်နှစ်တွင် တက္ကသိုလ်တက်ခွင့်ပြုမည်။ သဘောမကျသူများကို တက္ကသိုလ်ပထမနှစ် တက်ခွင့်မပြု။ ထို့ကြောင့် အကြိုသင်တန်းတက်သည့် ကျောင်းသားများ၏ ဘဝသည် ဘာမှရေရာမှုမရှိသကဲ့သို့ ဖြစ်နေသည်။ အကြိုသင်တန်း တက်ခွင့်မရသဖြင့် အိမ်ပြန်ရလျှင် အကြိုသင်တန်းကာလ ကုန်ကျစရိတ်များသည် အလဟဿဖြစ်သွားမည် ကျောင်းတက်ခွင့်ရသူများ အနေနှင့်လည်း မလိုအပ်ပဲ တက္ကသိုလ် တစ်နှစ်တက်သည့်စရိတ် ပိုကုန်ကျမည် ဖြစ်သည်။

အဆိုပါ ရန်ကုန်တက္ကသိုလ်အက်ဥပဒေကို သုံးသပ်ကြည့်လျှင် သူဌေးများ၊ အရာရှိကြီးများ၏ သားသမီးများသာ တက္ကသိုလ် တက်ရောက်နိုင်စေရန် ရေးဆွဲထားသည့် ဥပဒေဖြစ်နေပြီး သာမန် လူလတ်တန်းစား သားသမီးများ၊

ဆင်းရဲသား သားသမီးများအတွက် တက္ကသိုလ် မတက်ရောက်နိုင်အောင် ရေးဆွဲထားကြောင်းတွေ့ရသည်။ ထို့ကြောင့် YMBA အဖွဲ့အပါအဝင် ကျောင်းသားများ ပြည်သူများက အဆိုပါ ရန်ကုန်တက္ကသိုလ်အက်ဥပဒေကို ဆန့်ကျင်ကန့်ကွက်ခဲ့ကြသည်။

ဤသို့ ကန့်ကွက်နေသည့်ကြားမှ ရန်ကုန်တက္ကသိုလ်အက်ဥပဒေ ရေးဆွဲရေးအဖွဲ့က ၁၉၂၀ ခုနှစ် ဩဂုတ်လ (၂၈) ရက်နေ့တွင် အဆိုပါ ဥပဒေကို အတည်ပြုခဲ့ပြီး၊ စက်တင်ဘာ (၂၆) ရက်နေ့တွင် ဘုရင်ခံက သဘောတူကြောင်း လက်မှတ်ရေးထိုးခဲ့သည်။ အောက်တိုဘာ (၂၄) ရက်နေ့တွင် အိန္ဒိယနိုင်ငံ ဘုရင်ခံချုပ်က ထပ်မံအတည်ပြုခဲ့ပြီး ဒီဇင်ဘာ (၁) ရက်နေ့တွင် ရန်ကုန်တက္ကသိုလ်အက်ဥပဒေကို ပြဋ္ဌာန်းအတည်ပြုခဲ့သည်။ ရန်ကုန်တက္ကသိုလ် တရားဝင် ဖွင့်လှစ်ပွဲကို ဒီဇင်ဘာလ (၇) ရက်နေ့တွင် ကျင်းပပြုလုပ်ရန် ကြေညာထားခဲ့သည်။

ရန်ကုန်တက္ကသိုလ်အက်ဥပဒေတွင်ပါဝင်သည့် အထက်ဖော်ပြပါ အချက်များကို ကျောင်းသားများက လက်မခံနိုင်သောကြောင့်၊ ရန်ကုန်ကောလိပ်မှ ကိုဘဦးခေါင်းဆောင်သည့် ကျောင်းသားကြီး (၁၁) ယောက်သည် ဒီဇင်ဘာလ (၃) ရက်နေ့၊ နေ့လယ်ဘက်တွင် ရွှေတိဂုံစေတီတော် စနေထောင့်၌ သပိတ်မှောက်ရန် လျှို့ဝှက်ဆွေးနွေးကြသည်။ ဒီဇင်ဘာလ (၄) ရက်နေ့ ညနေပိုင်းတွင် ဗဟန်းရပ်ကွက်၊ ဦးအရိယကျောင်းတိုက်၌ ကျောင်းသားထု အစည်းအဝေးခေါ်ယူပြီး သပိတ်မှောက်ရေးကိစ္စ ကျောင်းသားထုကို တင်ပြရန် ဆုံးဖြတ်ခဲ့သည်။ ဒီဇင်ဘာလ(၄)ရက် ညနေတွင် ပြုလုပ်သည့် ကျောင်းသားထု အစည်းအဝေးတွင် ရန်ကုန် ကောလိပ်မှ ကျောင်းသား (၂၀) နှင့် ဂျပ်ဆင် ကောလိပ်မှ ကျောင်းသား (၆) ဦး၊ စုစုပေါင်း (၂၆) ဦး ပါဝင်သည့် သပိတ်ကော်မတီကို ဖွဲ့စည်းခဲ့သည်။ ကိုဘဦးက သပိတ်ကော်မတီဥက္ကဋ္ဌအဖြစ် တာဝန်ယူခဲ့သည်။

မူလသပိတ် အစီအစဉ်မှာ ဒီဇင်ဘာလ (၇) ရက် ဘုရင်ခံ တက်ရောက်ဖွင့်လှစ်မည့် ရန်ကုန်တက္ကသိုလ် တရားဝင်ဖွင့်လှစ်ပွဲတွင် ဘုရင်ခံက ဖွင့်လှစ်ကြောင်း ကြေညာချိန်၌ ထိုအခမ်းအနားတွင် တက်ရောက်နေသည့် တက္ကသိုလ်ကျောင်းသားများက သပိတ်မှောက်ကြောင်း ကြေညာကာ ဖွင့်ပွဲအခမ်းအနားမှ ကြွေးကြော်သံများအော်ပြီး ထွက်ခွာသွားကြရန် ဖြစ်သည်။ ထိုအစီအစဉ်ကို အစည်းအဝေးလာတက်သည့် သတင်းပေးကျောင်းသားတစ်ယောက်က

ကျောင်းအုပ်ကြီးထံ သတင်းပို့လိုက်သည့်အတွက် အစီအစဉ်အတိုင်း မပြုလုပ်ဖြစ်တော့ပဲ ရှေ့ကို နှစ်ရက်စောပြီး ဒီဇင်ဘာ (၅) ရက် (တန်ဆောင်မုန်းလပြည့်ကျော် (၁၀) ရက်) နေ့တွင် စတင်သပိတ်မှောက်လိုက်ကြရသည်။

ရန်ကုန်တက္ကသိုလ်ကျောင်းသားသပိတ်ကို ထောက်ခံသည့်အနေဖြင့် နောက်နေ့တွင် ရန်ကုန်မြို့ရှိ အထက်တန်းကျောင်းများအားလုံး သပိတ်မှောက်ကြသည်။ နောက်တစ်နေ့တွင် မန္တလေးမြို့ရှိ အထက်တန်းကျောင်းများဆက်လက်သပိတ်မှောက်ကြသည်။ ထို့နောက် မြန်မာတစ်နိုင်ငံလုံးရှိ အထက်တန်းကျောင်းများဆီ သပိတ် ပျံ့နှံ့သွားသည်။ ကျောင်းသားသပိတ်ကြီးကို မြန်မာနိုင်ငံတစ်ဝန်းလုံးမှ ပြည်သူများက တစ်ခဲနက် ထောက်ခံခဲ့ကြသည်။

တက္ကသိုလ်အာဏာပိုင်များအနေဖြင့် သပိတ်ကော်မတီက တောင်းဆိုသည့် တောင်းဆိုချက် (၁၆) ချက်ကို မျက်ကွယ်ပြုပြီး ဒီဇင်ဘာ (၂၃) ရက်နေ့နောက်ဆုံးထားပြီး ကျောင်းပြန်တက်ရန် ရာဇသံပေးခဲ့သည်။ ထို့နောက် ရာဇသံရက်ကို နောက်ရွှေ့ပြီး ၁၉၂၁ ခုနှစ်၊ ဇန်နဝါရီလ (၅) ရက်နေ့ နောက်ဆုံးထားပြီး ကျောင်းပြန်တက်ရန် ထပ်မံကြေညာသည်။

ဒီဇင်ဘာလ (၁၉) ရက်နေ့အထိ ကျောင်းသားများတောင်းဆိုသည့် အချက် (၁၆) ချက်ကို မလိုက်လျောသဖြင့် သပိတ်မှောက်ကျောင်းသားများက တက္ကသိုလ်အာဏာပိုင်များ၏ ကျောင်းထုတ်ခြင်းကို မခံယူချင်သည့်အတွက် ဒီဇင်ဘာ (၂၁) ရက်နေ့ နေ့စွဲနှင့် သပိတ်မှောက် ကျောင်းသားအားလုံး တက္ကသိုလ်က ကျောင်းထွက်ကြောင်း လျှောက်လွှာတင်လိုက်ကြသည်။

ဒီဇင်ဘာလ (၂၄) ရက်နေ့တွင် "သပိတ်မှောက်ကျောင်းသားများကောင်စီ" က "အမျိုးသားပညာရေး" ကြေညာချက်တစ်စောင် ထုတ်ပြန်ခဲ့သည်။ ထိုကြေညာချက်အရ ရန်ကုန်မြို့၊ ဗဟန်းရပ်ကွက်တွင် အမျိုးသားတက္ကသိုလ်တစ်ခု တည်ထောင်ခဲ့ပြီး ပြည်သူလူထု၏ ထောက်ခံမှုဖြင့် မြန်မာတစ်နိုင်ငံလုံးရှိ မြို့တိုင်းနီးပါးတွင် အမျိုးသားကျောင်းများ တည်ထောင်ကြသည်။ ထိုအချိန်က မြန်မာနိုင်ငံတစ်နိုင်ငံ လုံးတွင် အစိုးရဖွင့်လှစ်သည့်ကျောင်း (၅၀) မကျော်သေးသည့်အချိန် ဖြစ်သည်။ ပြည်သူလူထု၏ အားပေးထောက်ခံမှုကြောင့် မြန်မာတစ်နိုင်ငံလုံးတွင် အမျိုးသားကျောင်းပေါင်း (၁၄၅) ကျောင်းအထိ တိုးပွားလာခဲ့သည်။

ဤကဲ့သို့ ကျောင်းသားများ သပိတ်မှောက်မီ ၁၉၂၀ ခုနှစ် အောက်တိုဘာ (၂၉) ရက်နေ့တွင် နိုင်ငံရေးဦးဆောင်အဖွဲ့ဖြစ်သည့် YMBA အသင်းများကို စုစည်းကာ GCBA အသင်းကြီးအဖြစ် ပြန်လည်ဖွဲ့စည်းခဲ့သည်။ မြန်မာနိုင်ငံတစ်ဝန်းလုံးက အမျိုးသားကျောင်းများကို စီမံအုပ်ချုပ်ရန်အတွက် GCBA အဖွဲ့ကြီးက ခေါင်းဆောင်များနှင့် သပိတ်မှောက်ကျောင်းသားများ ပူးတွဲကာ "အမျိုးသားကျောင်းများအုပ်ချုပ်ရေးအဖွဲ့" ကို ဖွဲ့စည်းခဲ့သည်။ အဖွဲ့ဥက္ကဋ္ဌအဖြစ် GCBA ခေါင်းဆောင် ဦးမောင်ကြီးက တာဝန်ယူခဲ့သည်။

ထိုသို့ အမျိုးသားကျောင်းများ အရှိန်အဟုန်နှင့် တိုးတက်လာချိန် ၁၉၂၂ ခုနှစ်တွင် ဗြိတိသျှအစိုးရက မြန်မာနိုင်ငံကို အုပ်ချုပ်ရေးအဆင့် တိုးမြှင့်ပြီး ဒိုင်အာခီအုပ်ချုပ်ရေးကို ပေးခဲ့သည်။ ယခင်က ဘုရင်ခံကောင်စီ (အစိုးရအဖွဲ့) ကို ဘုရင်ခံက တိုက်ရိုက်ခန့်အပ်သည့် ပုဂ္ဂိုလ်များနှင့် ဖွဲ့စည်းသည်။ အစိုးရအဖွဲ့ထဲတွင် ပြည်သူမဲပေးရွေးကောက်သည့် ကိုယ်စားလှယ်တစ်ဦးမှ မပါခဲ့ပေ။ ဒိုင်အာခီအုပ်ချုပ်ရေးတွင် ဘုရင်ခံကောင်စီ (အစိုးရအဖွဲ့) ၌ ဘုရင်ခံခန့်အပ်သူတချို့နှင့် ပြည်သူလူထုမဲနှင့် ရွေးချယ်ခံထားရသော အမတ်များထဲက ရွေးချယ်ပေးသည့် ပုဂ္ဂိုလ်တချို့ပါဝင်သည်။ အုပ်ချုပ်ရေးအာဏာကို ဘုရင်ခံနှင့် ပြည်သူ ခွဲဝေအုပ်ချုပ်သည့် သဘောဖြစ်သည်။

ထိုအချိန်၌ ပြည်သူလူထုအများစု လိုချင်သည်မှာ ဒိုင်အာခီ အုပ်ချုပ်ရေးထက် အဆင့်မြင့်သည့် Home Rule ခေါ် ကိုယ်ပိုင် အုပ်ချုပ်ရေးစနစ်ဖြစ်သည်။ ဒိုင်အာခီအုပ်ချုပ်ရေးအတွက် အမတ်နေရာ ရွေးကောက်ပွဲများကို ၁၉၂၂ ခုနှစ်၊ နိုဝင်ဘာလ (၂၁) ရက်နေ့တွင် ပြုလုပ်ရန် အစိုးရက စီစဥ်ခဲ့သည်။ ထိုအချိန်တွင် GCBA အဖွဲ့ကြီး (၂) ခြမ်း ကွဲသွားခဲ့သည်။ ဒိုင်အာခီအုပ်ချုပ်ရေးအတွက် ကျင်းပမည့် ရွေးကောက်ပွဲတွင် ဝင်ပြိုင်ပြီး အစိုးရအဖွဲ့ထဲသို့ဝင်ကာ တိုင်းပြည်အတွက် လုပ်ဆောင်သင့်သည်ဟု ယူဆသည့် အုပ်စုနှင့် ဒိုင်အာခီ အုပ်ချုပ်ရေးကို လက်မခံပဲ ထိုထက်အဆင့်မြင့်သော ကိုယ်ပိုင်အုပ်ချုပ်ရေးတောင်းမည့် ရွေးကောက်ပွဲမဝင်ရေးဆိုသည့် အုပ်စုတို့ဖြစ်သည်။ GCBA ကွဲသဖြင့် အမျိုးသားကျောင်းများ အုပ်ချုပ်ရေးအဖွဲ့လည်း နှစ်ခြမ်းကွဲခဲ့သည်။ ကျောင်းသားသပိတ်ကောင်စီ (၂၆) ဦးလည်း နှစ်အုပ်စု ကွဲသွားခဲ့သည်။ "အမျိုးသားကျောင်းများ အုပ်ချုပ်ရေးကော်မတီ" မှ ဥက္ကဋ္ဌအဖြစ် တာဝန်ယူသည့် ဦးမောင်ကြီးက ရွေးကောက်ပွဲဝင်သည့် GCBA အုပ်စုထဲတွင် ပါဝင်သွား

ပြီး အမတ်အရွေးခံရသည်။ ဘုရင်ခံကောင်စီဖွဲ့သည့်အချိန်တွင် ဦးမောင်ကြီးသည် ပညာရေးဝန်ကြီးအဖြစ် တာဝန်ယူရသည်။

၁၉၂၀ ပြည့်နှစ် ဒီဇင်ဘာလ (၅) ရက်နေ့ ကျောင်းသားများ စတင် သပိတ်မှောက်သည့်အချိန်မှ ဒိုင်အာခီအုပ်ချုပ်ရေး ရွေးကောက်ပွဲ ပြုလုပ်ချိန်အထိ ကျောင်းသားများတောင်းဆိုသည့် တောင်းဆိုချက် (၁၆) ချက်ကို ဘုရင်ခံအစိုးရနှင့် တက္ကသိုလ်အာဏာပိုင်များက လုံးဝ လိုက်လျောခြင်း မပြုခဲ့သော်လည်း ဒိုင်အာခီရွေးကောက်ပွဲအပြီး အမျိုးသားကျောင်းများ အုပ်ချုပ်ရေးအဖွဲ့ဥက္ကဋ္ဌဦးမောင်ကြီး ပညာရေးဝန်ကြီးဖြစ်လာပြီးနောက် ရန်ကုန်တက္ကသိုလ်အက်ဥပဒေမှ အချက် အလက်တချို့ကို ပြင်ပေးခဲ့သည်။ ထိုဥပဒေအား ၁၉၂၄ ခုနှစ် ရန်ကုန်တက္ကသိုလ်အက်ဥပဒေကို ပြင်ဆင်သည့်ဥပဒေဟု ခေါ်သည်။

အဆိုပါ ပြင်ဆင်သည့် တက္ကသိုလ်အက်ဥပဒေထဲတွင် မြန်မာနိုင်ငံတွင် တက္ကသိုလ်တစ်ခုထဲရှိရမည် ဆိုသည့်အချက်ကို ပြင်ပေးခဲ့သည်။ ထို့ကြောင့် ရန်ကုန်မြို့တွင် ကောလိပ် (၂) ခု ဖွင့်ခွင့်ရသည်။ ဆေးကောလိပ်နှင့် ဆရာအတတ်သင်ကောလိပ် (TTC) ဖြစ်သည်။ အထက်မြန်မာပြည်အတွက် မန္တလေးမြို့တွင် ဥပစာကောလိပ်တစ်ခု ဖွင့်ခွင့်ရသည်။ ဥပစာကောလိပ်ဆိုသည်မှာ တက္ကသိုလ်ပထမနှစ်နှင့် ဒုတိယနှစ်သင်တန်းများ သင်ကြားပေးသည့် ကောလိပ်ဖြစ်သည်။ နောက်ပြင်ဆင်သည့်တစ်ချက်မှာ တက္ကသိုလ်တက်ရာတွင် အကြိုသင်တန်းတစ်နှစ် တက်ရန်မလိုပဲ ပထမနှစ်ကို တိုက်ရိုက်တက်ခွင့်ရသည်။ ထို့ကြောင့် B.A ၊ B.Sc. ဘွဲ့ရရန် (၄) နှစ်သာ တက္ကသိုလ်တက်ရတော့သည်။ နောက်ပြင်ဆင်ချက်တစ်ခုမှာ တက္ကသိုလ်များ၌ နေ့ကျောင်းသားအဖြစ်နှင့် ကျောင်းတက်ခွင့်ပြုခြင်း ဖြစ်သည်။ အဆောင်စရိတ်မတတ်နိုင်သူ လူလတ်တန်းစား သားသမီးများ တက္ကသိုလ်တက်လာနိုင်ခဲ့သည်။ နောက်ထပ်အရေးကြီးသည့် ပြင်ဆင်ချက်တစ်ခုမှာ ရန်ကုန်တက္ကသိုလ်ကောင်စီတွင် ရန်ကုန်တက္ကသိုလ်မှ ဘွဲ့ရထားသူများ၏ ကိုယ်စားလှယ်တစ်ဦး ပါဝင်ခွင့်ရခဲ့သည်။

ထိုအချိန်က ရန်ကုန်တက္ကသိုလ်တွင် ကျောင်းသားသမဂ္ဂ မရှိသေးသဖြင့် ဘွဲ့ရကျောင်းသားများ ကိုယ်စားလှယ်တစ်ဦး ပါဝင်ခွင့်ရသည့်အတွက် ကျောင်းသားများဆန္ဒကို ဘွဲ့ရကျောင်းသား ကိုယ်စားလှယ်မှတစ်ဆင့် တက္ကသိုလ်အာဏာပိုင်များထံ တရားဝင် ဆွေးနွေးတင်ပြခွင့်ရသွားပါသည်။ ၁၉၂၄ ခုနှစ်တွင် ပြင်ဆင်သည့် ရန်ကုန်တက္ကသိုလ် အက်ဥပဒေကို သုံးသပ်

ကြည့်လျှင် ၁၉၂၀ ခုနှစ် ကျောင်းသားသပိတ်ကြီးက တောင်းဆိုသည့် တောင်းဆိုချက် (၁၆) ချက်ကို အပြည့်အဝမရရှိသော်လည်း ကျောင်းသားများ တောင်းဆိုသည့် အရေးကြီးသည့် အချက်တချို့အား ပြင်ဆင်ပေးကြောင်း တွေ့ရသည်။ ထို့ကြောင့် ၁၉၄၂ ခုနှစ် ရန်ကုန်တက္ကသိုလ်အက်ဥပဒေ ပြင်ဆင်ချက်သည် ၁၉၂၀ ပြည့်နှစ် ရန်ကုန်တက္ကသိုလ်အက်ဥပဒေထက် အတိုင်းအတာတစ်ခုထိ တိုးတက်လာသည်ဟု မြင်မိပါသည်။

## ၁၉၃၆ ခုနှစ် ဒုတိယကျောင်းသားသပိတ်

၁၉၂၀ ပြည့်နှစ် ပထမကျောင်းသားသပိတ် ဖြစ်ပေါ်ခဲ့သည့်အချိန်မှ ၁၉၃၅ ခုနှစ် အထိ (၁၅) နှစ်တာကာလတွင်း ရန်ကုန်တက္ကသိုလ်၌ ကျောင်းသားလှုပ်ရှားမှု မရှိခဲ့ပေ။ အမျိုးသားရေးစိတ်ဓာတ်ရှိသည့် သပိတ်မှောက်ကျောင်းသားများက မိမိဆန္ဒအရ ကျောင်းထွက်သွားပြီး ဖြစ်သည်။ အသစ်ရောက်ရှိလာသည့် ကျောင်းသားများကလည်း သပိတ်မှောက်ကျောင်းသားများ ပညာရေးခရီး မဖြောင့်မဖြူးဖြစ်သွားသည်ကို မြင်တွေ့ရသဖြင့် လုံးဝမလှုပ်ရှားရဲသည့် အခြေအနေတွင် ရှိနေခဲ့သည်။

ထိုအချိန်တွင် တက္ကသိုလ်အာဏာပိုင်များက တက္ကသိုလ်ကျောင်းသား များကို ခွဲခြားဆက်ဆံကြသည်။ အလိုတော်ရိကျောင်းသားများကို အခွင့်အရေး ပေးပြီး မြှောက်စားသည်။ အလိုတော်ရိမဟုတ်သည့် ကျောင်းသားများကို ဖိနှိပ်ချုပ်ချယ်သည်။ ဘွဲ့ရပြီး ထောက်ခံစာရေးပေးသည့် အချိန်မှာပင် နှစ်မျိုး ခွဲခြားရေးပေးသည်။ အလိုတော်ရိကျောင်းသားများကို ICS ရာထူး၊ ရဲအရာရှိ ရာထူး၊ BOC အရာရှိကြီး ရာထူးများရရှိအောင် ထောက်ခံစာကို သာသာထိုးထိုး ရေးပေးပြီး၊ အလိုတော်ရိမဟုတ်သည့် ကျောင်းသားများကို ထောက်ခံစာ တစ်မျိုး ရေးပေးသည်။ ထိုထောက်ခံစာနှင့် အလုပ်လျှောက်လျှင် နယ်မြို့လေး တစ်မြို့၌ပင် ကျောင်းဆရာအလုပ်ရရန် ခက်ခဲသည်။ ဤကဲ့သို့ အခြေအနေ တွင် တက္ကသိုလ်ကျောင်းသားများအနေနှင့် လှုပ်ရှားမှု ပြုလုပ်ရန် ခက်ခဲခဲ့သည်။

၁၉၃၀ ပြည့်နှစ်တွင် ရန်ကုန်တက္ကသိုလ် ကျောင်းသားသမဂ္ဂ ဖွဲ့စည်းခွင့် ရရှိရေးအတွက် ကြိုးစားကြသည်များကို တွေ့ရသည်။ ၁၉၃၁ ခုနှစ် ဇန်နဝါရီလ (၇) ရက်နေ့တွင် ရန်ကုန်တက္ကသိုလ် ကျောင်းသားသမဂ္ဂကို တရားဝင်ဖွဲ့စည်း ခဲ့ကြသည်။ ရန်ကုန်တက္ကသိုလ်ကျောင်းသားသမဂ္ဂ ဖွဲ့စည်းပုံစည်းမျဉ်းကို

အောက်စဖိုဒ့်တက္ကသိုလ်ကျောင်းသား သမဂ္ဂဖွဲ့စည်းပုံအား နမူနာယူပြီး ရေးဆွဲခဲ့ကြသည်။ အောက်စဖိုဒ့်တက္ကသိုလ်ကျောင်းသားသမဂ္ဂ၏ လုပ်ငန်းသည် သာရေးနာရေးအသင်း အဆင့်လောက်သာ ရှိသည်။ တက္ကသိုလ်အာဏာပိုင်များကလည်း ရန်ကုန်တက္ကသိုလ်ကျောင်းသားသမဂ္ဂကို သာရေးနာရေးအဆင့်လောက်သာ ခွင့်ပြုသည့်သဘောဖြစ်သည်။ စကားရည်လုပွဲပြုလုပ်ခြင်း၊ ထင်ပေါ်ကျော်ကြားသူများကို ဖိတ်ကြားဟောပြောခြင်းစသည့် လှုပ်ရှားမှု အဆင့်လောက်သာ ရှိသည်။ ရန်ကုန်တက္ကသိုလ် ကျောင်းသားသမဂ္ဂ၏ ပထမ ဥက္ကဋ္ဌများဖြစ်သည့် ဦးကျော်ခင်နှင့် ဦးထွန်းစိန်တို့နောက် တကသ ဥက္ကဋ္ဌ (၄) ဦးသည် အင်္ဂလိပ်အလိုတော်ရိကျောင်းသားများ ဖြစ်ကြသည်။ ထို့ကြောင့် သူတို့ တကသဥက္ကဋ္ဌအဖြစ် တာဝန်ယူခဲ့သည့် ကာလတစ်လျှောက်တွင် ကျောင်းသားသမဂ္ဂ လှုပ်ရှားမှုများမရှိခဲ့ပဲ စကားရည်လုပွဲနှင့် ဟောပြောပွဲ တချို့လောက်သာ ပြုလုပ်နိုင်ခဲ့သည်။

၁၉၃၄-၃၅ ပညာသင်နှစ်ထဲတွင် တကသ ဒုဥက္ကဋ္ဌတာဝန်ယူသူ တာဝန်မှ နုတ်ထွက်သွားသဖြင့် ကြားဖြတ်ရွေးကောက်ပွဲပြုလုပ်ရာ ကိုနု တကသ ဒုဥက္ကဋ္ဌ ဖြစ်လာသည်။ ထို ၁၉၃၄-၃၅ ပညာသင်နှစ်ထဲမှာပင် Roll Call ခေါ်ရာတွင် Sir ထည့်မထူးသည့်အတွက် ကျောင်းသား (၂) ဦးကို တက္ကသိုလ်ကျောင်းအုပ်ကြီး စလေ့က ကျောင်းထုတ်ပစ်ခဲ့သည်။ ထိုကျောင်းသား (၂) ဦးကို ကျောင်းမထုတ်ရန် တကသ ဒုဥက္ကဋ္ဌ ကိုနုက ကန့်ကွက်ခဲ့သည်။ ၁၉၃၅ ခုနှစ်၊ ဒီဇင်ဘာလမတိုင်မီ စာမေးပွဲကျသည်ကို အကြောင်းပြပြီး၊ ကျောင်းအုပ်ကြီး စလေ့က ကျောင်းသား (၁၁) ယောက်အား ထပ်မံကျောင်းထုတ်သဖြင့် တကသ ဒုဥက္ကဋ္ဌကိုနုက ကျောင်းမထုတ်ရန် တောင်းဆိုရာ အောင်မြင်မှု မရရှိခဲ့ပေ။

ကိုနု၊ ကိုကျော်ငြိမ်း၊ ကိုသိန်းဖေတို့ တိုင်ပင်ကာ ကိုကျော်ငြိမ်းက ဆာဦးသွင်နှင့် မြို့မိမြို့ဖများ၊ နိုင်ငံရေးခေါင်းဆောင်များကို ရွှေတိဂုံ ရင်ပြင်တော်ပေါ်သို့ ဖိတ်ကြားပြီး ကျောင်းသား (၁၁) ဦး စာမေးပွဲကျသဖြင့် ကျောင်းထုတ်ခံရသည့်ကိစ္စကို ရှင်းလင်းတင်ပြရန် တာဝန်ပေးခဲ့သည်။ ကိုကျော်ငြိမ်းကလည်း တာဝန်ပေးသည့်အတိုင်း ရှင်းလင်းရာ မြို့မိမြို့ဖများနှင့် နိုင်ငံရေးခေါင်းဆောင်များအနေဖြင့် တက္ကသိုလ်အခြေအနေကို သိရှိသဘော ပေါက်သွားခဲ့သည်။ ဦးနုတို့အုပ်စု ရွှေတိဂုံရင်ပြင်တော်ပေါ်မှာ ကျောင်းသား ကိစ္စနှင့်ပတ်သက်ပြီး ရှင်းလင်းပွဲပြုလုပ်ခြင်းသည် ၁၉၂၀ ခုနှစ် ကျောင်းသား

သပိတ်ကြီးပြီးနောက် (၁၄) နှစ်အကြာတွင် ပထမဆုံး ပြန်လည်စတင်ခဲ့သည့် ကျောင်းသားလှုပ်ရှားမှု ဖြစ်သည်။ ဤလှုပ်ရှားမှုမှ စတင်၍ ၁၉၃၆ ခုနှစ် ဒုတိယ ကျောင်းသားသပိတ်ကို သန္ဓေတည်ခဲ့ခြင်း ဖြစ်သည်။ ဤကဲ့သို့ ကျောင်းသား လှုပ်ရှားမှု စတင်လိုက်သည့်အတွက် ကျောင်းထုတ်ထားသော ကျောင်းသား (၁၁) ယောက်အနက် (၁၀) ယောက် ကျောင်းပြန်ဝင်ခွင့်ရခဲ့သည်။

ထို့နောက် ရန်ကုန်တက္ကသိုလ်တွင် ပြဿနာတစ်ခုပေါ်လာခဲ့သည်။ ၁၉၃၅ ဒီဇင်ဘာလ ကျောင်းပိတ်ရက်မတိုင်မီတွင် တက္ကသိုလ်အာဏာပိုင်များက ကြေညာချက်တစ်စောင် ထုတ်ပြန်သည်။ ၎င်းတွင် ဒီဇင်ဘာကျောင်းပိတ်ရက် မတိုင်မီတွင် အစမ်းစာမေးပွဲစစ်မည်ဖြစ်ကြောင်း၊ အဆိုပါ အစမ်းစာမေးပွဲ အောင်မြင်မှ အတန်းတင်စာမေးပွဲကို ဖြေဆိုခွင့်ရမည်ဖြစ်ကြောင်း ပါရှိသည်။ ထိုအစမ်းစာမေးပွဲသည် ရန်ကုန်တက္ကသိုလ်တွင် အစဥ်အလာမရှိပဲ ယခုနှစ်မှ အသစ်တီထွင်စစ်ဆေးသည့် စာမေးပွဲဖြစ်ပါသည်။ ထို့ကြောင့် ကျောင်းသားများ အုံကြွလာပြီး တကသအဆောက်အအုံတွင် ကျောင်းသားထုအစည်းအဝေး ကျင်းပပြုလုပ်ခဲ့သည်။ ၎င်းတွင် အစမ်းစာမေးပွဲကိစ္စ ကျောင်းအုပ်ကြီးနှင့် ဆွေးနွေးရန်နှင့် ဒီဇင်ဘာကျောင်းပိတ်ရက်မတိုင်မီ ထိုကိစ္စကို ကျောင်းသားထု အစည်းအဝေးတွင် ပြန်လည်တင်ပြရန် တကသ ဥက္ကဋ္ဌ ကိုဖိုးအေးနှင့် တကသ အမှုဆောင် (၂) ဦးကို တာဝန်ပေးအပ်ခဲ့သည်။

ကိုဖိုးအေးသည် ဗြိတိသျှအလိုတော်ရိ ကျောင်းသားဖြစ်၍ ကျောင်းအုပ်ကြီးနှင့် သွားမတွေ့ရဲရာ အချိန်ဆွဲနေခဲ့သည်။ ထို့ကြောင့် တကသ ဒုဥက္ကဋ္ဌ ကိုနုက တကသအမှုဆောင် ကိုကျော်ငြိမ်းအား ကျောင်းအုပ်ကြီး စလေ့ဘ်ထံ သွားရောက်ဆွေးနွေးရန် တာဝန်ပေးခဲ့သည်။ ကိုကျော်ငြိမ်းသည် ကျောင်းအုပ်ကြီးထံ သွားရောက်ဆွေးနွေးရာ ကျောင်းအုပ်ကြီးက မချေမငံ ပြောဆိုခဲ့သည်။ ကိုနုနှင့် အပေါင်းအသင်းများတိုင်ပင်ပြီး ကျောင်းအုပ်ကြီး မချေမငံပြောဆိုသည့်စကားကို ပြည်သူများသိစေရန် သတင်းစာအယ်ဒီတာ များ၏ အကူအညီဖြင့် သတင်းစာတွင် ဖော်ပြလိုက်သည်။ ထို့နောက် ကိုနု အနေနှင့် မြစ်ဝကျွန်းပေါ်မြို့များသို့ လှည့်လည်စည်းရုံးပြီး မြို့မိမြို့ဖများနှင့် အစည်းအဝေးများပြုလုပ်ကာ ကျောင်းအုပ်ကြီးစလေ့ဘ် နုတ်ထွက်ပေးရန် တောင်းဆိုသည့် ဆုံးဖြတ်ချက်များ ချမှတ်ခဲ့သည်။ ထို့အတူ ကိုသိန်းဖေ ကလည်း မြန်မာနိုင်ငံ အထက်ပိုင်းမြို့များသို့ သွားရောက်စည်းရုံးကာ အလားတူဆုံးဖြတ်ချက်များကို ချမှတ်ခဲ့သည်။ သတင်းစာများကလည်း

နယ်မြို့များတွင် ပြုလုပ်သည့် အစည်းအဝေးဆုံးဖြတ်ချက်များကို ပုံမှန် ဖော်ပြပေးနေခဲ့သည်။ ကိုနုနှင့် ကိုသိန်းဖေတို့ ရန်ကုန်ပြန်ရောက်ပြီး သည့်အချိန်တွင် ရန်ကုန်မြို့လုံးကျွတ်အစည်းအဝေးကြီးကို ရွှေတိဂုံဘုရား ရာဟုထောင့်၌ ကျင်းပပြုလုပ်ပြီး လူထုကြီးက ကျောင်းအုပ်ကြီး စလေ့ာ နုတ်ထွက်ပေးရန် တောင်းဆိုကြတော့သည်။ ရန်ကုန်မြို့လုံးကျွတ်အစည်းအဝေး ဆုံးဖြတ်ချက်များ သတင်းစာတွင် ပါလာပြီး နောက်တစ်နေ့တွင် တက္ကသိုလ်အုပ်ချုပ်ရေးအဖွဲ့ အရေးပေါ်အစည်းအဝေးခေါ်ယူပြီး အစမ်းစာမေးပွဲကို ရုပ်သိမ်းရန် ဆုံးဖြတ်ခဲ့သည်။

၁၉၃၅-၃၆ ပညာသင်နှစ်အတွက် တကသ အမှုဆောင်သစ် ရွေးကောက်ပွဲ၌ ကိုနုက ဥက္ကဋ္ဌနေရာတွင် ပြိုင်ဘက်မရှိ အနိုင်ရပြီး၊ ကျန်အမှုဆောင် အဖွဲ့ဝင်နေရာများတွင်လည်း ကိုနု၏အပေါင်းအသင်းများ အနိုင်ရသည်။ ဗြိတိသျှအလိုတော်ရိကျောင်းသားများ ရွေးကောက်ပွဲ ရှုံးနိမ့်သွားသည်။ ကိုနုနှင့် အပေါင်းအသင်းများ တကသအမှုဆောင်ဖြစ် လာပြီးနောက် တကသအမှုဆောင်အဖွဲ့သည် ကျောင်းသားရေးရာကိစ္စများကိုသာမက ကိုလိုနီစနစ်ဆန့်ကျင်ရေးနှင့် မြန်မာနိုင်ငံလွတ်လပ်ရေး ရရှိရေး လုပ်ငန်းများကိုပါ လုပ်ဆောင်ခဲ့ကြသည်။

ကိုနု တကသဥက္ကဋ္ဌ တာဝန်ထမ်းဆောင်ပြီးနောက် တကသ အမှုဆောင်များ ကျမ်းသစ္စာကျိန်ဆိုသော အခမ်းအနားနှင့် စကားရည်လုပွဲ အခမ်းအနားများ၊ ဟောပြောပွဲများတွင် သဘာပတိမိန့်ခွန်း ပြောကြားတိုင်း ကိုနုက ကျောင်းအုပ်ကြီးစလေ့ာ၏ ဖိနှိပ်ချုပ်ချယ်မှုများ၊ ကျောင်းသားများအား အုပ်စုခွဲပြီး တစ်ဖက်ကို အခွင့်အရေးပေး၊ တစ်ဖက်ကို ဖိနှိပ်ဆက်ဆံမှုများကို သွယ်ဝိုက်ပြီး အများသိရှိအောင် ထည့်သွင်းပြောကြားခဲ့သည်။ ထို့ကြောင့် ကိုနုကို ကျောင်းအုပ်ကြီးက ကျောင်းထုတ်ပစ်ချင်နေပါသည်။

ဤအခြေအနေတွင် တကသက တစ်နှစ်တစ်ကြိမ် ထုတ်ဝေသည့် တကသကြွေးကြော်သံ အိုးဝေမဂ္ဂဇင်းတွင် “ငရဲခွေးကြီးလွတ်နေသည်” ဆောင်းပါးပါလာသည့်အတွက် ကျောင်းအုပ်ကြီးက ထိုဆောင်းပါးကို အကြောင်းပြပြီး ကိုနုကို ၁၉၃၆ ခု၊ ဖေဖော်ဝါရီလ (၂၁) ရက်နေ့တွင် ကျောင်းထုတ်ပစ်လိုက်သည်။ အယ်ဒီတာ ကိုအောင်ဆန်းကိုလည်း ဆောင်းပါးရေးသူ၏ အမည်ကို ဖော်ထုတ်မပြောသည့်အတွက် ကျောင်းမှထုတ်ပယ်ရန် ဆုံးဖြတ်ပြီးဖြစ်သည်။ ကိုနုကို ကျောင်းထုတ်သည့်အတွက် ဖေဖော်ဝါရီလ (၂၅)

ရက်နေ့မှာ ကျင်းပ ပြုလုပ်သည့် ကျောင်းသားထုအစည်းအဝေးကြီးက ကိုနုကို ထောက်ခံသည့်အနေနှင့် သပိတ်မှောက်ကြသည်။ ဤကျောင်းသားသပိတ်ကြီးသည် ၁၉၂၀ ခုနှစ် ပထမကျောင်းသားသပိတ်ကြီးဖြစ်ပေါ်ခဲ့ပြီး (၁၆) နှစ်အကြာတွင် ပေါ်ပေါက်ခဲ့သည့် မြန်မာနိုင်ငံ၏ သမိုင်းဝင် ဒုတိယ ကျောင်းသားသပိတ်ကြီး ဖြစ်သည်။

ထိုကျောင်းသားသပိတ်ကြီးကို တကာသ ဒုဥက္ကဋ္ဌ ဦးရာရှစ်က သပိတ်ကော်မတီဥက္ကဋ္ဌအဖြစ် ဦးဆောင်ခဲ့သည်။ ကိုနုကို ကျောင်းထုတ်ထားပြီးဖြစ်သည့်အတွက် ကိုနုသည် သပိတ်ကော်မတီမှာ ဥက္ကဋ္ဌအဖြစ် တရားဝင် ပါဝင်ဦးဆောင်ခွင့်မရှိတော့ပေ။ အဆိုပါ သပိတ် ကော်မတီက တောင်းဆိုချက် (၁၀) ချက်ကို တောင်းဆိုခဲ့ပါသည်။

ထိုတောင်းဆိုချက်များထဲက အဓိကတောင်းဆိုချက်တစ်ခုသည် ရန်ကုန်တက္ကသိုလ်အက်ဥပဒေ ပြင်ဆင်ပေးရန် ဖြစ်သည်။ နောက်ထပ်အရေးကြီးသော တောင်းဆိုချက်တစ်ခုမှာ ကျောင်းအုပ်ကြီး၏ ကျောင်းသားများကို ကျောင်းထုတ်ပိုင်ခွင့်အာဏာအား ပြန်ရုပ်သိမ်းပြီး၊ ကျောင်းအုပ်ချုပ်ရေးအဖွဲ့၌သာ ထိုအာဏာကို ထားရှိရန် ဖြစ်သည်။ အစိုးရနှင့် တက္ကသိုလ် အာဏာပိုင်များသည် ကျောင်းသားများတောင်းဆိုသည့် တောင်းဆိုချက် (၁၀) ချက်ကို ဥပေက္ခာပြုထားပြီး သပိတ်မှောက် ကျောင်းသားများကို စာမေးပွဲဖြေခွင့်ပိတ်ပင်မည်ဟု ခြိမ်းခြောက်ခဲ့သည်။

ဧပြီလအထိ ကျောင်းသားများ သပိတ်မလှန်သည့်အတွက် အစိုးရသည် ဗဟိုတရားရုံးမှ တရားသူကြီးဦးမြဘူးကို ဥက္ကဋ္ဌအဖြစ် တာဝန်ပေးပြီး သပိတ်ကိစ္စစုံစမ်းရေးကော်မတီကို ဖွဲ့ခဲ့သည်။ မေလအတွင်းတွင် အစိုးရနှင့် သပိတ်မှောက်ကျောင်းသားများ တွေ့ဆုံဆွေးနွေးကြသည်။ ကျောင်းသားများ တောင်းဆိုသော အချက် (၁၀) ချက်လုံး မရရှိသော်လည်း အချက်တချို့လိုက်လျောသည့်အတွက် သပိတ်ကော်မတီက သပိတ်လှန်ရန် သဘောတူခဲ့သည်။ ၁၉၃၆ ခု၊ မေလ (၁၀) ရက်နေ့တွင် သပိတ်လှန်လိုက်သည်။ သပိတ်၏ အကျိုးဆက်အနေဖြင့် ကျောင်းအုပ်ကြီးစလော့နေရာတွင် မြန်မာလူမျိုး ပါမောက္ခ ဦးဖေမောင်တင်ကို ကျောင်းအုပ်ကြီးအဖြစ် ခန့်ခဲ့ရသည်။

## ၁၉၃၈ တတိယကျောင်းသားသပိတ်

သပိတ်လှန်ပြီးနောက် တက္ကသိုလ်အက်ဥပဒေ ပြင်ဆင်ရေးအတွက် စုံစမ်းလေ့လာနိုင်ရန် မြဘူးကော်မတီကိုပင် ဗြိတိသျှအစိုးရက တာဝန်ပေးခဲ့သည်။ မြဘူးကော်မတီက ဆက်လက်စုံစမ်းမှုများ ပြုလုပ်ပြီး ၁၉၃၇ ခုနှစ်၊ မေလ ပထမအပတ်ထဲတွင် တက္ကသိုလ်အက်ဥပဒေ ပြင်ဆင်ရေးနှင့် ပတ်သက်သည့် အစီရင်ခံစာ ထုတ်ပြန်ခဲ့သည်။

တက္ကသိုလ်အက်ဥပဒေ ပြင်ဆင်ရေးနှင့်ပတ်သက်သည့် မြဘူးကော်မတီ အစီရင်ခံစာကို ကျောင်းသားများက မကျေနပ်သဖြင့် ၁၉၃၇ ခုနှစ်၊ မေလ (၉) ရက်နေ့တွင် မန္တလေးမြို့၌ ကျင်းပပြုလုပ်သည့် ဗမာနိုင်ငံလုံးဆိုင်ရာ ကျောင်းသားသမဂ္ဂ ဒုတိယအကြိမ်ညီလာခံက အဖွဲ့ဝင် (၇) ဦး ပါဝင်သည့် “တက္ကသိုလ်အက်ဥပဒေ ပြင်ဆင်ရေးကော်မတီ” ကို ဖွဲ့စည်းသည်။ ထိုကော်မတီတွင် ဝတ်လုံတော်ရများ၊ သတင်းစာ အယ်ဒီတာများ၊ တို့ဗမာ အစည်းအရုံး ကိုယ်စားလှယ်တစ်ဦးနှင့် ဗကသ ဥက္ကဋ္ဌဟောင်း ကိုရာရှစ်၊ ဗကသ ဥက္ကဋ္ဌသစ် ကိုအောင်ဆန်းတို့ ပါဝင်ခဲ့ကြသည်။ ကိုအောင်ဆန်းက ဆော်ဩသူအဖြစ် တာဝန်ယူသည်။ ဆော်ဩသူဆိုသည်မှာ ယခုခေတ်အခေါ် အတွင်းရေးမှူးဖြစ်သည်။ ထိုကော်မတီက မြဘူးအစီရင်ခံစာကို တစ်ပိုဒ်ခြင်း ပြန်လည်သုံးသပ်ပြီး အစီရင်ခံစာတစ်စောင် ထပ်မံပြုစုခဲ့သည်။ ၎င်းအစီရင်ခံစာကို မြန်မာပြည်အစိုးရ ပညာရေးဝန်ကြီးဌာနသို့ ပေးပို့ပြီး မိတ္တူကို မြန်မာတစ်နိုင်ငံလုံးအနှံ့ ကျောင်းသားများထံ ဖြန့်ဝေခဲ့သည်။

နယ်မြို့များတွင် ထိုအစီရင်ခံစာကို အစည်းအဝေးများပြုလုပ်ပြီး ဆွေးနွေးကြသည်။ ထိုအစည်းအဝေးများမှ –

(၁) မြဘူးအစီရင်ခံစာကို ကန့်ကွက်ကြောင်း၊
(၂) ဗကသမှဖွဲ့စည်းသည့် တက္ကသိုလ်အက်ဥပဒေ ပြင်ဆင်ရေးကော်မတီ၏ အစီရင်ခံစာကို ထောက်ခံကြောင်း၊
(၃) တက္ကသိုလ်အက်ဥပဒေသစ်ကို လွှတ်တော်သို့ အလျင်အမြန် တင်သွင်းနိုင်ရန်အတွက် အထက်လွှတ်တော်၊ အောက်လွှတ်တော်အမတ်များအား ပန်ကြားကြောင်း၊

စသည့်အဆိုများကို ဆုံးဖြတ်ခဲ့ကြသည်။

ထိုအချိန်က နန်းရင်းဝန်ဖြစ်နေသည့် ဒေါက်တာဘမော်သည် တက္ကသိုလ် အက်ဥပဒေကို ၁၉၂၄ ခုနှစ်က ပြင်ဆင်ပေးပြီးဖြစ်သဖြင့် ထပ်မံပြင်ဆင်ချင်သည့် ဆန္ဒမရှိသောကြောင့် တက္ကသိုလ်အက်ဥပဒေ ပြင်ဆင်ပေးရေးကို အချိန်ဆွဲနေခဲ့သည်။

၁၉၃၈ ခုနှစ်၊ ဇန်နဝါရီလတွင် သန်လျင်ရေနံချက်စက်ရုံတွင် သပိတ်မှောက်သည်။ ဇွန်လတွင် ရေနံမြေအားလုံးသို့ သပိတ်ပျံ့နှံ့ သွားသည်။ ၁၉၃၈ ခုနှစ်၊ ဒီဇင်ဘာလတွင် ရေနံမြေသပိတ်စစ်ကြောင်း ရန်ကုန်မြို့သို့ စတင်ချီတက်လာသည်။ သပိတ်စစ်ကြောင်းကို ကူညီရန် ရန်ကုန် တို့ဗမာ အစည်းအရုံး ခေါင်းဆောင်များနှင့် ကျောင်းသားခေါင်းဆောင် တကသဥက္ကဋ္ဌ ကိုဗဟိန်း၊ ကျောင်းသားခေါင်းဆောင် ကိုဗဆွေတို့ ဒီဇင်ဘာလ (၈) ရက်နေ့တွင် မကွေးမြို့သို့ သွားရောက်ကြသည်။

ဒီဇင်ဘာလ (၁၂) ရက်နေ့ညတွင် မဲတည်းကျောင်းတိုက် သပိတ်စခန်း၌ အစည်းအဝေးကြီးတစ်ရပ် ကျင်းပပြုလုပ်သည်။ ထိုအစည်းအဝေးကြီးတွင် တကသဥက္ကဋ္ဌ ကိုဗဟိန်းက မိန့်ခွန်းပြောသည်။ သူ့မိန့်ခွန်းတွင် “မြင်းခွာတစ်ချက်ပေါက်လျှင် မီးဟုန်းဟုန်းတောက်စေရမယ်။ ရဲဘော်တို့သတ္တိ ကမ္ဘာသိအောင်ပြကြပါ” ဟုပြောခဲ့သည်။ ထိုဟောပြောမှုကြောင့် ကိုဗဟိန်းနှင့် ကိုဗဆွေတို့အား ဆူပူမှုကို လှုံ့ဆော်သည်၊ အစိုးရကို အကြည်ညိုပျက်အောင် ဟောပြောသည်ဟု ဆိုကာ ရာဇဝတ်ကျင့်ထုံးပုဒ်မ (၁၀၇) အရ ဖမ်းဆီးခဲ့သည်။

ကိုဗဟိန်းနှင့် ကိုဗဆွေတို့ အဖမ်းခံရသည့်ကိစ္စနှင့် ပတ်သက်ပြီး ဒီဇင်ဘာ (၁၃) ရက်၊ ည (၇) နာရီအချိန်တွင် ရန်ကုန်တက္ကသိုလ် ကျောင်းသားသမဂ္ဂက ဦးစီးကာ ကျောင်းသားထု အစည်းဝေးကြီး တစ်ခုကို တကသ အဆောက်အအုံ၌ ကျင်းပပြုလုပ်ခဲ့သည်။ ထိုအစည်းအဝေးတွင် တကသ ဒုတိယဥက္ကဋ္ဌ ကိုလှရွှေက သဘာပတိအဖြစ် ဆောင်ရွက်ပြီး၊ တကသ အမှုဆောင် ကိုအေးကျော်က အခမ်းအနားမှူးအဖြစ် ဆောင်ရွက်သည်။

ထိုအစည်းအဝေးတွင် –

(၁) ရေနံမြေသပိတ်တပ်အား ရန်ကုန်မြို့သို့ မချီတက်နိုင်စေရန် တားဆီးဖိနှိပ်ထားသည့် ဥပဒေများကို ချက်ချင်းရုပ်သိမ်း ပေးရန်၊

(၂) တကသဥက္ကဋ္ဌ ကိုဗဟိန်းနှင့် ကျောင်းသားခေါင်းဆောင် ကိုဗဆွေတို့ကို အမြန်ဆုံး ပြန်လွှတ်ပေးရန်။

စသည့်အဆိုများအား ဆုံးဖြတ်ခဲ့ကြသည်။

နောက်နေ့ ဒီဇင်ဘာလ (၁၄) ရက်၊ ညနေ (၄) နာရီအချိန်တွင် တကာသနှင့် ဗကာသတို့ ပူးပေါင်းပြီး ကျောင်းပေါင်းစုံ ကျောင်းသားထု အထူးအစည်းအဝေးကြီးကို ရွှေတိဂုံရင်ပြင်တော်ပေါ်၌ ကျင်းပပြုလုပ်ခဲ့သည်။ ထုတ်ထားသော အမိန့်များပြန်ရုပ်သိမ်းပေးရေးနှင့် ဖမ်းဆီးခံထားရသော ကျောင်းသားခေါင်းဆောင်များ ပြန်လွှတ်ပေးရေးတို့ကို ထိုအစည်းအဝေးကြီးမှ ဆုံးဖြတ်ကြသည်။

ဒီဇင်ဘာလ (၁၅) ရက်နေ့၊ ညနေ (၄) နာရီတွင် ကျောင်းပေါင်းစုံ တိုးချဲ့အစည်းအဝေးကြီးတစ်ခုကို ရွှေတိဂုံရင်ပြင်ပေါ်၌ ထပ်မံပြုလုပ်ခဲ့သည်။ ထိုအစည်းအဝေးကြီးသို့ ကျောင်းသားများသာမကပဲ ရဟန်းပျိုများ၊ ပြည်သူလူထု၊ အမျိုးသမီးအဖွဲ့အစည်းများအပါအဝင် ပရိသတ် တစ်သောင်းကျော် တက်ရောက်ခဲ့ကြသည်။ ထိုအစည်းအဝေးတွင် တကာသ ဒုတိယဥက္ကဋ္ဌကိုလှရွှေက သဘာပတိအဖြစ် ဆောင်ရွက်ပြီး တကာသ အမှုဆောင်ကိုအေးကျော်က အခမ်းအနားမှူးအဖြစ် ဆောင်ရွက်ခဲ့သည်။ ထိုအစည်းအဝေးကြီးကလည်း အထက်တွင် ဖော်ပြခဲ့သော အစည်းအဝေးများ၏ တောင်းဆိုချက်များနှင့် အနှစ်သာရ တူညီသော တောင်းဆိုချက် (၅) ချက်ကို တောင်းဆိုခဲ့သည်။ အဆိုပါ တောင်းဆိုချက်များကို ဒီဇင်ဘာလ (၁၉) ရက်နေ့မတိုင်မီ အရေးယူပြန်ကြားပေးရန်လည်း ရက်သတ်မှတ်ခဲ့သည်။

ဒီဇင်ဘာ (၁၉) ရက်နေ့ ညနေအထိ အစိုးရက တစ်စုံတစ်ရာ အရေးယူဆောင်ရွက်ပေးခြင်း မရှိသည့်အတွက် ဒီဇင်ဘာ (၂၀) ရက်နေ့ နံနက်ပိုင်းတွင် တက္ကသိုလ်ကျောင်းသားများနှင့် အထက်တန်းကျောင်း အသီးသီးမှ ကျောင်းသားပေါင်း (၈၀၀၀) ကျော်သည် စပတ်လမ်း (ယခု ဗိုလ်အောင်ကျော်လမ်း) ရှိ အတွင်းဝန်ရုံးကို ဝိုင်းဝန်းဆန္ဒပြကြသည်။ ဆန္ဒပြပွဲကို အစိုးရက ရဲတပ်ဖွဲ့ဝင်များ၊ မြင်းစီးရဲတပ်ဖွဲ့များဖြင့် အကြမ်းဖက်နှိမ်နင်းရာ ကျောင်းသားခေါင်းဆောင် ကိုအောင်ကျော် ကျဆုံးပြီး ကျောင်းသားအများအပြား ဒဏ်ရာရရှိခဲ့ကြသည်။ ဒီဇင်ဘာ (၂၄) ရက်နေ့တွင် ဗိုလ်အောင်ကျော်အလောင်းကို ရန်ကုန်ဆေးရုံကြီး ရေခဲတိုက်မှ တကာသ အဆောက်အအုံသို့ သယ်ဆောင်ပြီး ဒီဇင်ဘာ (၂၇) ရက်၊ မွန်းလွဲပိုင်းတွင် ၎င်းမှ ကြံ့တောသုသာန်သို့ ပို့ဆောင်

သင်္ဂြိုဟ်ကြသည်။ ဗိုလ်အောင်ကျော်စျာပနအခမ်းအနားသို့ ရဟန်းသံဃာတော်များ၊ ကျောင်းသားများ၊ ပြည်သူများ၊ အဖွဲ့အစည်းအသီးသီးနှင့် နိုင်ငံရေးပါတီများမှ ပုဂ္ဂိုလ်များပါဝင်သော ပရိသတ်အများအပြား လိုက်လံပို့ဆောင်ခဲ့ကြသည်။ ဗိုလ်အောင်ကျော်ကွယ်လွန်ပြီးနောက် ရန်ကုန်မြို့တွင် ကျောင်းသားများ သပိတ်မှောက်ခဲ့ကြသည်။ ရန်ကုန်မြို့ လမ်းမတော်၊ မြို့မအမျိုးသားကျောင်း (ယခု အ.ထ.က ၂ ဒဂုံ) တွင် သပိတ်စခန်းဖွင့်ကြသည်။

ရန်ကုန်ကျောင်းသားသပိတ်ကို အားပေးထောက်ခံသည့်အနေဖြင့် မန္တလေးမြို့အပါအဝင် မြန်မာနိုင်ငံတစ်ဝန်းလုံးမှ ကျောင်းများပါ သပိတ်မှောက်ကြသည်။ မန္တလေးမြို့သပိတ်စခန်းကို မန္တလေးမြို့၊ ဗဟိုအမျိုးသားအထက်တန်းကျောင်းတွင် ဖွင့်လှစ်ထားခဲ့သည်။ ၁၉၃၉ ဖေဖော်ဝါရီလ (၈) ရက်နေ့တွင် မန္တလေးသပိတ်စခန်းအား အင်္ဂလိပ်အစိုးရက စစ်တပ်ဖြင့် ဝိုင်းကာ၊ ကျောင်းသားခေါင်းဆောင် (၃) ဦးအား ဖမ်းဆီးခဲ့သည်။ တစ်ချိန်တည်းမှာပင် ရဟန်းပျိုများအဖွဲ့ခေါင်းဆောင် သံဃာတော် (၂) ပါး ကိုလည်း သီတင်းသုံးရာ ကျောင်းအသီးသီးတွင် ဖမ်းဆီးခဲ့သည်။

ထိုသို့ သံဃာတော်များ၊ ကျောင်းသားခေါင်းဆောင်များကို ဖမ်းဆီးသည့်အတွက် ၁၉၃၉ ခု၊ ဖေဖော်ဝါရီလ (၉) ရက်နေ့၊ နေ့လယ် (၁) နာရီအချိန်တွင် မန္တလေးမြို့ အိမ်တော်ရာဘုရားဝင်း၊ (၁၄) ခန်းဇရပ်ကြီးတွင် မန္တလေးမြို့ ရဟန်းပျိုအဖွဲ့ဝင် သံဃာတော်များ၊ ကျောင်းသားများ၊ ကျောင်းသားမိဘများ၊ ပြည်သူများတက်ရောက်သည့် မြို့လုံးကျွတ် အစည်းအဝေးကြီး ကျင်းပပြုလုပ်ကြသည်။ အဆိုပါ အစည်းအဝေးက ရန်ကုန်ကျောင်းသားအစည်းအဝေးများမှ တောင်းဆိုသည့် တောင်းဆိုချက်များအား ထပ်မံတောင်းဆိုပြီး မန္တလေးမြို့တွင် ထုတ်ပြန်ထားသော ပုဒ်မ (၁၄၄) အား အာခံဆန့်ကျင်သည့် လူထုလမ်းလျှောက်ဆန္ဒပြပွဲ ပြုလုပ်ရန် ဆုံးဖြတ်ခဲ့ကြသည်။ ထိုနေ့တွင် လမ်းလျှောက်ဆန္ဒပြရန် အချိန်နှောင်းသွားသဖြင့် နောက်နေ့နံနက် (၁၁) နာရီတွင် ဆန္ဒပြရန် ရွှေ့ဆိုင်းလိုက်ကြသည်။

၁၉၃၉ ဖေဖော်ဝါရီလ (၁၀) ရက်နေ့ နံနက်ပိုင်းတွင် လမ်းလျှောက်ဆန္ဒပြရန်အတွက် ရဟန်းတော်များ၊ ကျောင်းသားများ၊ ကျောင်းသားမိဘများ၊ ပြည်သူများ နှစ်သိန်းကျော် အိမ်တော်ရာဘုရားဝင်းအတွင်း စုဝေးရောက်ရှိလာကြသည်။ ရဟန်းပျိုအဖွဲ့ ဥက္ကဋ္ဌ ဆရာတော်၏ အစီအစဉ်အတိုင်း အိမ်တော်ရာဘုရားမှ စနစ်တကျ ဆန္ဒပြချီတက်လာခဲ့ရာ ၂၆-ဘီလမ်း ကြေးနန်းရုံး

တောင်ဘက်သို့ ရောက်ရှိသောအချိန်တွင် ဗြိတိသျှအစိုးရက သေနတ်နှင့် ပစ်ခတ်နှိမ်နင်းသည့်အတွက် သံဃာတော် (၇) ပါးအပါအဝင် အာဇာနည် (၁၇) ဦး သေဆုံးခဲ့သည်။

ကျောင်းသားများတောင်းဆိုချက်ကို ဆိုင်ရာက မပေးပဲ လျစ်လျူရှုထားသည့်အတွက် ရန်ကုန်မြို့၊ မြို့မအမျိုးသားကျောင်းတွင် သပိတ်စခန်းဖွင့်လှစ်ထားသည့် ကျောင်းသား (၁၀၀၀) ကျော်တို့သည် ၁၉၃၉ ခု၊ ဖေဖော်ဝါရီလ (၇) ရက်နေ့ နံနက်မှစတင်ပြီး အစာအငတ်ခံ ဆန္ဒပြကြသည်။

ကျောင်းသား (၁၀၀၀) ကျော် အစာငတ်ခံဆန္ဒပြသည့်အတွက် မြန်မာနိုင်ငံတစ်နိုင်ငံလုံး တုန်လှုပ်သွားခဲ့သည်။ ထိုသတင်းကို ကြားသိရသည့် အချိန်တွင် ကျောင်းသားမိဘများက အရေးပေါ်အစည်းအဝေး ကျင်းပပြီး ကျောင်းသားများ၏ တောင်းဆိုချက်များကို အစိုးရက လိုက်လျောရန်နှင့် ကျောင်းသားများအနေနှင့် အစာငတ်ခံဆန္ဒပြခြင်းကို ရပ်နားရန် မေတ္တာရပ်ခံခဲ့ကြသည်။ အစိုးရက လိုက်လျောမှုမပြုလျှင် မိဘများကိုယ်တိုင် ရှေ့တန်းက တိုက်ပွဲဝင်ရန်ကိုလည်း အဆိုပါ အစည်းအဝေးမှ ဆုံးဖြတ်ခဲ့သည်။ ထို့အတူ သခင်များ၊ မြို့မိမြို့ဖများကလည်း အထူးအစည်းအဝေးတစ်ခု ကျင်းပကာ၊ ကျောင်းသားများ အစာငတ်ခံ ဆန္ဒပြနေရခြင်းနှင့် ပတ်သက်၍ အစိုးရကို ကန့်ကွက်ရှုတ်ချပြီး ကျောင်းသားများ အစာငတ်ခံဆန္ဒပြခြင်းကို ရပ်ဆိုင်းရန် မေတ္တာရပ်ခံခဲ့ကြသည်။ ထို့အပြင် မြို့မိမြို့ဖများက ဒေါက်တာဘမော်အစိုးရနှင့် ကျောင်းသားများတွေ့ဆုံဆွေးနွေးပြီး ဖြေရှင်းနိုင်ရန် ကြိုးစားခဲ့ကြသော်လည်း ကျောင်းသားများက ဒေါက်တာဘမော် မထွက်မချင်း အစိုးရနှင့် ဆွေးနွေးရန် ငြင်းဆိုကာ ဒေါက်တာဘမော်အစိုးရ နုတ်ထွက်ပေးရန်ကိုသာ ဆက်လက်တောင်းဆိုခဲ့ကြပါသည်။

၁၉၃၉ ခု၊ ဖေဖော်ဝါရီလ (၁၆) ရက်နေ့တွင် ဒေါက်တာဘမော် ညွန့်ပေါင်းအစိုးရဖြုတ်ချရေးအတွက် လွှတ်တော်အမတ်တချို့က လွှတ်တော်တွင် အယုံအကြည်မရှိ အဆိုတင်သွင်းရာ အဆိုကို ထောက်ခံသူ (၇၀)၊ ကန့်ကွက်သူ (၃၇) နှင့် ဒေါက်တာဘမော်အစိုးရ ပြုတ်ကျသွားခဲ့သည်။ နန်းရင်းဝန်အဖြစ် ဦးပု တက်လာသည်။

ဦးပု နန်းရင်းဝန်ဖြစ်ပြီးနောက် ဦးပုအစိုးရ၊ မြို့မိမြို့ဖကိုယ်စားလှယ်များ၊ ကျောင်းသားခေါင်းဆောင်များ သုံးပွင့်ဆိုင်ဆွေးနွေးပွဲကို (၂၀၊ ၂၊ ၁၉၃၉) နေ့တွင် စတင်ဆွေးနွေးကြပြီး (၂၇၊ ၂၊ ၁၉၃၉) နေ့တွင် နန်းရင်းဝန်ဦးပု၊ မြို့မိ

မြို့ဖဥက္ကဋ္ဌဦးသွင်၊ ကျောင်းသားသမဂ္ဂမှ ကိုလှရွှေတို့ (၃) ဦး လက်မှတ်ရေးထိုးကာ သုံးပွင့်ဆိုင်ဆွေးနွေးပွဲ သဘောတူညီချက်ကို ထုတ်ပြန်နိုင်ခဲ့သည်။

အဆိုပါ သဘောတူညီချက်တွင် ကျောင်းသားများဘက်မှ သပိတ်မှောက်ခြင်းကို ရပ်ပေးရန်နှင့် အစိုးရဘက်က –

(၁) သပိတ်မှောက်သည့်အတွက် ကျောင်းသားများကိုအရေးမယူရန်၊
(၂) ရေနံမြေသပိတ်တွင် ပါဝင်သူများကိုလည်း အရေးယူခြင်း မပြုရန်၊
(၃) အဖမ်းခံထားရသော ကျောင်းသားများနှင့် ရေနံမြေ အလုပ်သမားများအား ပြန်လွှတ်ရန်၊
(၄) စာမေးပွဲများကို အနည်းဆုံး (၃) လခွာပြီးမှ စစ်ရန်၊
(၅) ၁၉၃၈ ခုနှစ်၊ ဒီဇင်ဘာလ (၂၀) ရက်နေ့တွင် ဖြစ်ပွားခဲ့သော ပုလိပ်နှင့် ကျောင်းသားအကြား ဖြစ်ပွားခဲ့သည့် ကိစ္စအတွက် စုံစမ်းရေးကော်မတီ ဖွဲ့ပြီး စုံစမ်းရန်တို့ပါဝင်သည်။

သဘောတူညီချက်ကို လက်မှတ်ရေးထိုး ထုတ်ပြန်ပြီးနောက် ကျောင်းသားသပိတ်ကော်မတီ ဥက္ကဋ္ဌကိုလှရွှေ၏ လက်မှတ်နှင့် ကျောင်းသားများ သပိတ်လှန်ကြောင်း ကြေညာချက်ထုတ်ပြန်ခဲ့သည်။ ဤနည်းဖြင့် တတိယကျောင်းသားသပိတ်သည် အောင်မြင်စွာနှင့် ပြီးဆုံးသွားသည်။

တတိယကျောင်းသားသပိတ်ကြီး ပြီးဆုံးသွားပြီးနောက် ဦးပုအစိုးရက ရန်ကုန်တက္ကသိုလ်အက်ဥပဒေကို ပြင်ဆင်သည့် ဥပဒေကို ၁၉၃၉ ခု၊ ဇွန်လ (၁၅) ရက်နေ့တွင် အတည်ပြုပေးခဲ့ရသည်။ သို့သော်အဆိုပါ ရန်ကုန်တက္ကသိုလ်အက်ဥပဒေကို ပြင်ဆင်သည့် ဥပဒေအား ကျောင်းသားများက လက်မခံသဖြင့် ၁၉၃၉ ခုနှစ်ထဲမှာပင် ရန်ကုန်တက္ကသိုလ်အက်ဥပဒေကို ထပ်မံပြင်ဆင်ပေးခဲ့ရသည်။ ဦးပု အစိုးရလက်ထက်တွင် ရန်ကုန်တက္ကသိုလ်အက်ဥပဒေကို ၁၉၃၉ ခုနှစ် အက်ဥပဒေ အမှတ် (၁၃) ဖြင့်လည်းကောင်း၊ ဒုတိယအကြိမ် ပြင်ဆင်သည့်ဥပဒေကို ၁၉၃၉ အက်ဥပဒေ အမှတ် (၂၀) ဖြင့်လည်းကောင်း ထုတ်ပြန်ကြေညာခဲ့ရသည်။

တတိယကျောင်းသားသပိတ် အောင်မြင်စွာ ပြီးဆုံးသွားသည့် အချိန်မှ ဒုတိယကမ္ဘာစစ်ဖြစ်ပွားသည့် ၁၉၄၂ ခုနှစ်အထိ အချိန်ကာလအတွင်း ကျောင်းသားလှုပ်ရှားမှု ကြီးကြီးမားမား မရှိခဲ့ပေ။ ဒုတိယကမ္ဘာစစ် ပြီးဆုံးချိန်မှစ၍ မြန်မာနိုင်ငံလွတ်လပ်ရေးရရှိသည့် ၁၉၄၈ ဇန်နဝါရီလ (၄) ရက်နေ့အထိ

ကာလအတွင်းတွင် ကျောင်းသားသမဂ္ဂများသည် ဖဆပလအဖွဲ့ချုပ်အပါအဝင် တခြားအဖွဲ့အစည်းများနှင့် ပူးပေါင်းကာ မြန်မာနိုင်ငံလွတ်လပ်ရေးလှုပ်ရှားမှု၌ ပါဝင်ခဲ့ပြီး ပညာရေးစနစ် ပြုပြင်ပြောင်းလဲရေးနှင့်ပတ်သက်သည့် လှုပ်ရှားမှုများ မပြုလုပ်ခဲ့ပေ။

၁၉၄၈ ခုနှစ် လွတ်လပ်ရေးရရှိပြီး (၃) လခန့်အကြာတွင် မြန်မာနိုင်ငံ၌ ပြည်တွင်းစစ် စတင်ဖြစ်ပွားပြီး အစိုးရအဖွဲ့သည် "ရန်ကုန်အစိုးရ" ဟု အခေါ်ခံရသည့် အခြေအနေရောက်ရှိခဲ့သည်။ ထိုအချိန်တွင် အစိုးရသည် စစ်အသုံးစရိတ်ကို များစွာသုံးပြီး စစ်နိုင်ရေးအတွက်သာ ကြိုးပမ်းနေ၍ ပညာရေးအသုံးစရိတ်ကို အနည်းငယ်သာ သုံးစွဲနိုင်ခဲ့သည်။ ပညာရေးတွင် လွတ်လပ်သည့် နိုင်ငံတစ်နိုင်ငံနှင့် ကိုက်ညီသင့်လျော်သည့် ပညာရေးစနစ်တစ်ခုကို ချမှတ်ရေးဆွဲနိုင်ချိန် မရပဲ ဗြိတိသျှအစိုးရလက်ထက် တစ်လျှောက်လုံး အသုံးပြုခဲ့သည့် ကိုလိုနီပညာရေးစနစ်ကိုသာ မွမ်းမံဖာထေးပြီး ဆက်လက်အသုံးပြုခဲ့သည်။

ထို့ကြောင့် ၁၉၄၈ ခုနှစ်မှ ၁၉၅၇ ခုနှစ်အတွင်း ကျောင်းသားများအနေဖြင့် ဖာထေးထားသည့် ကိုလိုနီပညာရေးစနစ်ကို ပြုပြင်ရေး၊ ပညာရေးအသုံးစရိတ်တိုးမြှင့်ပေးရေး၊ ဆရာကျောင်းသားအချိုး မျှတရေး၊ သင်ထောက်ကူပစ္စည်းပြည့်စုံရေး၊ ကျောင်းအဆောက်အအုံ တိုးချဲ့ဆောက်လုပ်ရေး စသည့် ပညာရေးဆိုင်ရာ တောင်းဆိုချက်များနှင့် ပြည်တွင်းစစ်ရပ်စဲရေးဟူသည့် အမျိုးသားရေးဆိုင်ရာ တောင်းဆိုချက်များကို တောင်းဆိုကာ လှုပ်ရှားမှုများ ပြုလုပ်ခဲ့ကြသည်။ သို့သော် သပိတ်မှောက်သည့်အဆင့်ထိ မပေါ်ပေါက်ခဲ့ပေ။

၁၉၅၇ ခုနှစ် ဇွန်လတွင် နိုင်ငံတော်ဝန်ကြီးချုပ်ဦးနု ခေါင်းဆောင်သော "ပညာရေးစုံစမ်းမှုကော်မတီ" တစ်ရပ်ကို ဖွဲ့စည်းခဲ့သည်။ အဆိုပါ ကော်မတီသည် ပညာရေးစနစ်သစ်တစ်ခု ရေးဆွဲရာတွင် ပြည်သူလူထု၊ ကျောင်းသားမိဘ၊ ကျောင်းဆရာ၊ ကျောင်းသားများ စသည့် ပညာရေးနှင့်ပတ်သက်သည့် ပုဂ္ဂိုလ်အားလုံး၏ အကြံဉာဏ်၊ အကူအညီနှင့် ပူးပေါင်းဆောင်ရွက်မှုတို့ အထူးလိုကြောင်း သဘောပေါက်ပါသည်။ ထိုအခြေအနေတွင် ရန်ကုန်တက္ကသိုလ်ကျောင်းသားသမဂ္ဂက ကျောင်းသားပေါင်းစုံပညာရေး နှီးနှောဖလှယ်ပွဲတစ်ခု ပြုလုပ်ကာ ရရှိသည့် အကြံဉာဏ်များကို "ပညာရေးစုံစမ်းမှုကော်မတီ" သို့ တင်သွင်းနိုင်ရန်အတွက် အစိုးရက ကူညီဆောင်ရွက်ပေးရန် တောင်းဆိုခဲ့သည်။ အစိုးရနှင့် ကျောင်းသားသမဂ္ဂတို့ တစ်နှစ်နီးပါးအကြိမ်ကြိမ် ဆွေးနွေး

ကြပြီး ရလဒ်အနေဖြင့် "ပြည်ထောင်စုမြန်မာနိုင်ငံလုံးဆိုင်ရာ ကျောင်းသားများ ပညာရေးနှီးနှောဖလှယ်ပွဲ" ကို ၁၉၅၈ ခုနှစ်၊ ဩဂုတ်လ (၉) ရက်နေ့မှ (၁၃) ရက်နေ့အထိ ရန်ကုန်တက္ကသိုလ်ဘွဲ့နှင်းသဘင်ခန်းမတွင် ပြုလုပ်နိုင်ခဲ့သည်။

ၾင်းတွင် တက္ကသိုလ်နှင့် ကောလိပ်ကျောင်းသားသမဂ္ဂများ အားလုံးပါဝင်လက်တွဲဆောင်ရွက်ခဲ့ကြပြီး စာတမ်းပေါင်း (၁၄) စောင် ရေးသားတင်သွင်းနိုင်ခဲ့သည်။ ၎င်းတို့ကို နှီးနှောဖလှယ်ပွဲ ပြင်ဆင်ရေးကော်မတီဥက္ကဋ္ဌက ဝန်ကြီးချုပ် ဦးနုထံ တရားဝင်အခမ်းအနားနှင့် လွှဲပြောင်းပေးအပ်ခဲ့သည်။

၎င်းအပြီး (၂) လခန့်အကြာ ၁၉၅၈ ခုနှစ်၊ အောက်တိုဘာလ (၂၈) ရက် နေ့တွင် ဗိုလ်ချုပ်နေဝင်းသည် ပါလီမန်တွင် အာဏာသိမ်းယူကာ အိမ်စောင့်အစိုးရ ဝန်ကြီးချုပ် ဖြစ်လာခဲ့သည်။ ပညာရေးနှီးနှောဖလှယ်ပွဲ စာတမ်းများလည်း အစပျောက်သွားခဲ့သည်။

၁၉၅၈ ခုနှစ်နှင့် ၁၉၆၀ ခုနှစ်အတွင်းတွင် ကျောင်းသားသမဂ္ဂများသည် ပညာရေးစနစ် ပြုပြင်ပြောင်းလဲရေး လှုပ်ရှားမှုများ မပြုလုပ်နိုင်ခဲ့ပဲ အမျိုးသားရေးလုပ်ငန်းဖြစ်သည့် ရွေးကောက်ပွဲ အမြန်ကျင်းပရေးနှင့် အရပ်သားအစိုးရထံ အာဏာပြန်လွှဲရေး လှုပ်ရှားမှုများကိုသာ ပြည်သူများ၊ နိုင်ငံရေးပါတီများ၊ အဖွဲ့အစည်းများနှင့် ပူးပေါင်း လှုပ်ရှားခဲ့ရသည်။

၁၉၆၀ ခုနှစ် ရွေးကောက်ပွဲတွင် ဦးနုခေါင်းဆောင်သည့် ပထစပါတီ အနိုင်ရပြီး ဦးနု ဝန်ကြီးချုပ် ပြန်ဖြစ်လာသည်။ ထိုကာလသည် အစိုးရနှင့် ကျောင်းသားသမဂ္ဂများကြား ဆက်ဆံရေးအကောင်းမွန်ဆုံးအချိန် ဖြစ်သည်။ ကျောင်းသားသမဂ္ဂနှင့် အစိုးရပူးပေါင်းကာ ပညာရေးစနစ်ပြုပြင် ပြောင်းလဲရေးကို ဆောင်ရွက်ရန် တာစူနေချိန် ၁၉၆၂ မတ်လ (၂) ရက်နေ့တွင် ဗိုလ်ချုပ်နေဝင်း ထပ်မံအာဏာသိမ်းရာ ဝန်ကြီးချုပ်ဦးနု ထိန်းသိမ်းခံခဲ့ရသည်။ ၁၉၆၂ ဇူလိုင်လ (၇) ရက်နေ့တွင် "၇ ရက် ဇူလိုင် ကျောင်းသားအရေးအခင်း" ဖြစ်ပေါ်ပြီး ဇူလိုင် (၈) ရက်နေ့ နံနက်ပိုင်း တွင် သမိုင်းဝင် တကသအဆောက်အအုံကြီး မိုင်းခွဲဖျက်ဆီးခံခဲ့ရသည်။ ထိုအချိန်ကစ၍ စစ်အာဏာရှင်များသည် နာမည်အမျိုးမျိုးပြောင်းကာ တိုင်းပြည်ကို နှစ် (၅၀) အုပ်ချုပ်ရာ၌ ကျောင်းသားသမဂ္ဂများသည် တရားဝင်ရပ်တည်ခွင့်မရရှိပဲ ပုန်းလျှိုးကွယ်လျှိုးသာ လှုပ်ရှားနိုင်ခဲ့ကြသည်။ ထိုကာလတစ်လျှောက်လုံး ကျောင်းသားလှုပ်ရှားမှုများသည် အမျိုးသားရေးတာဝန်ဖြစ်သည့် စစ်အာဏာရှင်စနစ် ဆန့်ကျင်ရေး၊ ဒီမိုကရေစီ

ပြန်လည်ရရှိရေး လုပ်ငန်းများကိုသာ အဓိကထားဆောင်ရွက်ခဲ့ကြပြီး ပညာရေးစနစ် ပြုပြင်ပြောင်းလဲရေးလုပ်ငန်းများ လုပ်ဆောင်နိုင်ခြင်း မရှိခဲ့ပေ။

## ၂၀၁၅ ကျောင်းသားသပိတ်

၂၀၁၀ အထွေထွေရွေးကောက်ပွဲအပြီး ဦးသိန်းစိန် သမ္မတ ဖြစ်လာကာ မြန်မာနိုင်ငံသည် ဒီမိုကရေစီလမ်းကြောင်းကို စတင်လျှောက်လှမ်းပြီဟု တိုင်းပြည်နှင့်ကမ္ဘာကို ကြေညာခဲ့သည်။ နိုင်ငံတကာတွင် အမြင်ကောင်းစေရန် ဖြေလျှော့မှုတချို့ပြုလုပ်ပေးပြီး အပေါ်ယံပြောင်းလဲမှုတချို့ လုပ်ဆောင်ခဲ့သည်။ ၎င်းတွင်ပညာရေးပြုပြင်ပြောင်းလဲမှုဆိုသည့် လုပ်ငန်းတစ်ခုလည်း ပါဝင်သည်။ ပညာရေးပြုပြင်ပြောင်းလဲမှုအနေနှင့် ပညာရေးဆိုင်ရာ ဥပဒေကြမ်းများကို ပြုစုပြဋ္ဌာန်းရန် ပြင်ဆင်သည်ကို တွေ့ရသည်။ ၎င်းတွင် "အမျိုးသားပညာရေး ဥပဒေကြမ်း" လည်း ပါဝင်သည်။ "အမျိုးသားပညာရေး ဥပဒေကြမ်း" ကို ၂၀၁၃ အတွင်း စတင်ရေးဆွဲကာ ၂၀၁၄ စက်တင်ဘာတွင် အများပြည်သူ သိရှိနိုင်ရန်နှင့် ဝေဖန်အကြံပြုနိုင်ရန် နိုင်ငံပိုင်သတင်းစာများ၌ ဖော်ပြခဲ့သည်။

ထိုအချိန်မှစ၍ တက္ကသိုလ်ဆရာအသင်းအဖွဲ့များ၊ ကျောင်းသားသမဂ္ဂများ၊ ပညာရေးစနစ်ပြုပြင်ပြောင်းလဲရေး နိုင်ငံလုံးဆိုင်ရာကွန်ရက် Network for National Education Reform (NNER) တို့ ပေါ်ပေါက်လာခဲ့သည်။ ပညာရေးစိတ်ဝင်စားသူများက အဆိုပါ "အမျိုးသားပညာရေးဥပဒေကြမ်း" တွင် ဗဟိုချုပ်ကိုင်မှုများပြားနေသည့်အချက် အပါအဝင် ချို့ယွင်းချက်များနှင့် လိုအပ်ချက်များကို ထောက်ပြကာ ကန့်ကွက်စာများကို ထုတ်ပြန်ကြေညာခဲ့သည်။ အလားတူပင် ဆရာအဖွဲ့အစည်းများနှင့် ကျောင်းသားသမဂ္ဂများကလည်း ကန့်ကွက်ကြောင်း ကြေညာချက်များ ထုတ်ပြန်ခဲ့ကြသည်။

၂၀၁၄ ခုနှစ်၊ နိုဝင်ဘာလ (၁၂) နှင့် (၁၃) ရက်နေ့တွင် မြောက်ဒဂုံရှိ နာရေးကူညီမှုအသင်း (ရန်ကုန်) ခန်းမ၌ မြန်မာနိုင်ငံလုံးဆိုင်ရာ ကျောင်းသားထုအရေးပေါ်အစည်းအဝေးတစ်ခုကို ကျင်းပပြုလုပ်ကာ "အမျိုးသားပညာရေးဥပဒေ" နှင့်ပတ်သက်၍ သဘောထားထုတ်ပြန်ချက် ထုတ်ပြန်ပြီး ကျောင်းသားများ သပိတ်တိုက်ပွဲဝင်ရန် ဆုံးဖြတ်ခဲ့ကြသည်။ သပိတ်တိုက်ပွဲကို ဦးဆောင်ရန်အတွက် အဖွဲ့ဝင် (၁၅) ဦး ပါဝင်သည့် "ဒီမိုကရေစီပညာရေးလှုပ်ရှားမှုဦးဆောင်ကော်မတီ" ကို ဖွဲ့စည်းကာ ထိုကော်မတီက "အမျိုးသားပညာရေး

ဥပဒေ” နှင့်ပတ်သက်ပြီး တောင်းဆိုချက် (၁၁) ချက် တောင်းဆိုခဲ့သည်။ ထို့နောက် နိုဝင်ဘာလ (၁၄) ရက်နေ့မှစတင်၍ ရန်ကုန်မြို့ နေရာအချို့တွင် လှည့်လည်ဆန္ဒပြခဲ့ကြသည်။ ကျောင်းသားများသည် (၄) ရက် ဆန္ဒပြပြီး ရက် (၆၀) သပိတ်နားကြောင်း ကြေညာခဲ့သည်။ ရက် (၆၀) အတွင်း အစိုးရမှ တုံ့ပြန်မှုမရှိလျှင် တစ်ပြည်လုံးအတိုင်းအတာနှင့် ဆန္ဒပြပွဲများ ပြန်လည် ပြုလုပ်မည်ဟုလည်း ကြေညာခဲ့သည်။

၂၀၁၄ နိုဝင်ဘာလ (၁၈) ညနေပိုင်းတွင် ဒီမိုကရေစီပညာရေး ဦးဆောင်ကော်မတီမှ သတင်းစာရှင်းလင်းပွဲတစ်ခုပြုလုပ်ပြီး အမျိုးသားပညာရေးဥပဒေနှင့် ပတ်သက်၍ (၁) အစိုးရ (၂) လွှတ်တော် (၃) ပညာရေးစနစ် ပြုပြင်ပြောင်းလဲမှု နိုင်ငံလုံးဆိုင်ရာကွန်ရက် (NNER) (၄) ဒီမိုကရေစီ ပညာရေးလှုပ်ရှားမှု ဦးဆောင်ကော်မတီတို့ လေးပွင့်ဆိုင် တွေ့ဆုံဆွေးနွေးညှိနှိုင်းရန် တောင်းဆိုခဲ့သည်။ ရက် (၆၀) ပြည့်သည့်နေ့အထိ အစိုးရက တစ်စုံတစ်ရာ တုံ့ပြန်မှုမရှိသောကြောင့် ပင်မ ကျောင်းသားသပိတ်စစ်ကြောင်းသည် (၂၀၊ ၁၊ ၂၀၁၅) ရက်နေ့တွင် မန္တလေးမြို့မှ ရန်ကုန်မြို့သို့ စတင်ချီတက်ခဲ့သည်။

၎င်းသည် လမ်းတစ်လျှောက်တွင် ပြည်သူလူထု၏ တစ်ခဲနက် ထောက်ခံအားပေးမှုကို ရရှိခဲ့ပြီး အရှိန်အဟုန် အလွန်အားကောင်းလာခဲ့သည်။ ထို့ကြောင့် စစ်ကြောင်းစတင်ပြီး (၈) ရက်အကြာ (၂၈၊ ၁၊ ၂၀၁၅) နေ့တွင် ဦးသိန်းစိန်အစိုးရက ပညာရေးလေးပွင့်ဆိုင်ဆွေးနွေးပွဲပြုလုပ်ရန် သဘောတူခဲ့ရသည်။

ပညာရေးလေးပွင့်ဆိုင်ဆွေးနွေးပွဲ ပထမနေ့ကို (၁၊ ၂၊ ၂၀၁၅) ရက်နေ့တွင် ရန်ကုန်တက္ကသိုလ် စိန်ရတုခန်းမ၌လည်းကောင်း၊ တတိယနေ့နှင့် စတုတ္ထနေ့ ဆွေးနွေးပွဲများကို (၁၀၊ ၂၊ ၂၀၁၅) နှင့် (၁၄၊ ၂၊ ၂၀၁၅) နေ့များတွင် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးအတွင်းရှိ လွှတ်တော်အဆောက်အအုံ၌ လည်းကောင်း ကျင်းပပြုလုပ်ခဲ့သည်။ ဆွေးနွေးပွဲ ဒုတိယနေ့ကို (၃၊ ၂၊ ၂၀၁၅) နေ့တွင် နေပြည်တော်ပညာရေးဝန်ကြီးဌာနခန်းမ၌ ကျင်းပရန် ချိန်းဆိုထားသော်လည်း အကြောင်းအမျိုးမျိုးကြောင့် ဆွေးနွေးပွဲ မပြုလုပ်နိုင်ခဲ့ပေ။

ပညာရေးလေးပွင့်ဆိုင်ဆွေးနွေးပွဲတွင် ကျောင်းသားနှင့် NNER တို့ ပြုစုထားသည့် “အမျိုးသားပညာရေးဥပဒေကို ပြင်ဆင်သည့် ဥပဒေကြမ်း” ကို လက်ခံအတည်ပြုခဲ့ပြီး အဆိုပါ ဥပဒေကြမ်းကို ပညာရေးဝန်ကြီးဌာနမှ တာဝန်ယူ၍ အမျိုးသားလွှတ်တော်သို့ တင်သွင်းခဲ့သည်။ ဥပဒေကြမ်းသည် လွှတ်တော် လုပ်ထုံးလုပ်နည်းအတိုင်း ဖြတ်သန်းနေစဉ်၊ ၂၀၁၅ ခုနှစ်၊ မတ်လ (၁၀) နေ့တွင်

လက်ပံတန်းမြို့၌ ပင်မ ကျောင်းသားသပိတ်စစ်ကြောင်းအား အစိုးရက အကြမ်းဖက်နှိမ်နင်း ဖြိုခွဲခဲ့ပြီး သပိတ်စစ်ကြောင်းမှ ကျောင်းသားများနှင့် ဝန်းရံပြည်သူ (၇၀) ကျော်တို့ ဖမ်းဆီးခံရသည်။

ပင်မသပိတ်စစ်ကြောင်း အကြမ်းဖက်ဖြိုခွဲခံရပြီးနောက် ကျောင်းသားနှင့် NNER က ပြုစုပြီး ပညာရေးလေးပွင့်ဆိုင်ဆွေးနွေးပွဲမှ လက်ခံအတည်ပြုခဲ့သည့် "အမျိုးသားပညာရေးဥပဒေကို ပြင်ဆင်သည့် ဥပဒေကြမ်း" သည် လွှတ်တော်အဆင့်ဆင့်ကို ဖြတ်သန်းရာတွင် ဖြတ်တောက်ခံရခြင်းနှင့် ထပ်မံပြင်ဆင်ခံရခြင်းများ ကြုံခဲ့ရ၍ အတည်ပြု ပြဋ္ဌာန်းပြီးချိန်တွင် မူလပြုစုထားသော ဥပဒေကြမ်းမှ (၇၀) ရာခိုင်နှုန်း ဖြတ်တောက်ခံထားရသည်ကို တွေ့ရလေသည်။

သမ္မတ ဦးသိန်းစိန်လက်ထက် ကျောင်းသားများနှင့် ပြည်သူများ၏ ပညာရေးစနစ်ပြုပြင်ပြောင်းလဲရေး ကြိုးပမ်းမှုကြီးသည် အစိုးရ၏ ဖိနှိပ်ဖြိုခွင်းမှုကို ခံခဲ့ရကာ ကျောင်းသားများနှင့် ဝန်းရံပြည်သူများ ဖမ်းဆီးခံရသည်ကလွဲ၍ တိုးတက်ပြောင်းလဲမှုရလဒ်အနေဖြင့် မည်မည်ရရ ဘာမျှမရရှိလိုက်ခဲ့ပေ။ သို့သော် မြန်မာနိုင်ငံကို ပုံစံအမျိုးမျိုးနှင့် နှစ်ပေါင်း (၅၀) ကျော် အုပ်ချုပ်ခဲ့သည့် စစ်အာဏာရှင် အစိုးရများလက်ထက်တွင် "ကျောင်းသားသမဂ္ဂ" ဆိုသည့် စကားလုံးကို မီဒီယာများ၌ လုံးဝဖော်ပြခွင့်မရခဲ့သည့် အခြေအနေမှ ကျောင်းသားသပိတ်၏ အကျိုးကျေးဇူးကြောင့် ဦးသိန်းစိန်အစိုးရ ပြဋ္ဌာန်းခဲ့သည့် "အမျိုးသား ပညာရေးဥပဒေကို ပြင်ဆင်သည့်ဥပဒေ" တွင် အဆင့်မြင့်ပညာကျောင်းများ၌ ဆရာသမဂ္ဂများနှင့် ကျောင်းသားသမဂ္ဂများကို သက်ဆိုင်ရာ တက္ကသိုလ်ပဋိညာဉ်နှင့်အညီ လွတ်လပ်စွာ ဖွဲ့စည်းခွင့်ပြုသည့် ပုဒ်မတစ်ခု ထည့်သွင်းဖော်ပြပေးခဲ့ရသည်။ ဤရလဒ်သည် ယခင်စစ်အစိုးရအဆက်ဆက် လက်ထက်နှင့် နှိုင်းယှဉ်လျှင် ကျောင်းသားများ၏ အောင်မြင်မှုတစ်ခုပင် ဖြစ်သည်။

## ကိုးကားချက်များ

National Network for Education Reform၊ (၂၀၁၅)၊
*အမျိုးသားပညာရေးဥပဒေကို ပြင်ဆင်သည့် ဥပဒေကြမ်း*

*ပေါ်ပေါက်လာရန် လှုပ်ရှားဆောင်ရွက်ခဲ့မှု မှတ်တမ်းများ*၊ National Network for Education Reform။

ဒီမိုကရေစီဖက်ဒရယ်ပညာရေးနှင့်အခြားပညာရေး စနစ် ပြုပြင်ပြောင်းလဲရေးကျောင်းသားသမဂ္ဂအရေး ဆောင်းပါးများ၊ (၂၀၁၇)၊ ဧကရာဇ်စာပေ။

ကေညီပိတ်၊ (၂၀၁၄)၊ *၁၉၂၀ ကျောင်းသားသပိတ်ကိုယ်တွေ့ (ပထမအကြိမ်)*၊ မလိခစာပေ။

ခင်မောင်လေး၊ ဗိုလ်၊ (၂၀၁၄)၊ *၁၉၃၆-၃၈ ကျောင်းသားသပိတ်နှင့် တက္ကသိုလ်ကျောင်းသားသမဂ္ဂသမိုင်းအစ*၊ ခေတ်ပြတိုက်စာပေ။

မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ၊ (၁၉၇၀)၊ *အမျိုးသားနေ့နှင့်အမျိုးသား ပညာရေးလှုပ်ရှားမှုသမိုင်းအကျဉ်း*၊ မြန်မာ့ဆိုရှယ်လစ် လမ်းစဉ်ပါတီ။

ရန်ကုန်တက္ကသိုလ်သမိုင်း ပြုစုရေးသားရေးအဖွဲ့၊ (၁၉၉၅)၊ *ရန်ကုန်တက္က သိုလ်သမိုင်း ၁၉၂၀-၁၉၉၅*၊ တက္ကသိုလ်များသမိုင်း သုတေသနဌာန။

လေးမောင်၊ ဦး၊ (၂၀၁၂)၊ *မြန်မာနိုင်ငံရေးသမိုင်း[နှစ်အုပ်တွဲ]*၊ စာပေလောကစာအုပ်တိုက်။

# My Participation in the 1996 Student Movement

**Lay Lay Mon**

## Abstract

In this 2016 article, Lay Lay Mon reflects on her student activist experiences, her time in prison and her professional career. For Lay Lay Mon, activists from generations X, Y and Z fail to meet the high standards set by earlier generations of political activists. She outlines four differences between these activist generations and three of her core political objectives.

## Introduction

I am 38 years old; I was born in Yangon in 1978 to parents who were very involved in politics. My father was a civil servant and my mother, whose family has a military background, was from Hsipaw Township, Northern Shan State. I have been in prison twice, for 12 years in total. The first time was from 1997 to 2005, and the second time was from 2007 to 2011. I started working in 2012 as a journalist. At the time of writing, in 2016, I work as a Senior Broadcast Journalist for the Democratic Voice of Burma.

I started to learn about politics in 1988 when I was in fifth grade. I had the opportunity to participate in the *Ah Ka Tha*, or Basic Education Student Union, and protested with the union at the Basic Education High School 2 (the Yarmakwin school), and with the Basic Education Middle School, Tamwe Township, which I attended. I learned about politics from practicing it, not by studying, and it was a wild experience.

In my view, learning about politics should begin with theory and move on to practice. This helps people become responsible citizens. But I myself never had the chance to learn about high level political theory. I grew up in Myanmar where human rights are not guaranteed, and I had to struggle to express my political views on the street.

When I was just a teenager I participated in the 1996 student demonstrations, leading a section with other older student leaders, who were applying their experiences from the previous 1988 uprising. On 9 December 1996, when I was studying the first year of my botany degree, I took part in a Dagon University student demonstration. At that time, I worked as a coordinator for the Dagon University Student Union (DUSU). In 1997, with the arrest of the *Da Ka Tha*, which is the Central Executive Committee of the DUSU, I was sentenced to 10 years in prison under section 5/J of the Emergency Act and section 17 of the 1962 Printers and Publishers Registration Law, along with another 13 students. I was only 17 years and eight months old, and I was imprisoned for eight years in the Insein and Thayarwaddy prisons. I was finally released under an amnesty in 2005 after the dismissal of Intelligence Chief Khin Nyunt's faction from the ruling military regime. The title of the amnesty that freed me was "Free the Prisoners on Independence Day".

## My Professional and Political Life

After being released from prison in January 2005, I continued to be involved in politics, following Min Ko Naing of the 1988 generation. I furthered my professional career by learning and working as a freelance translator and writer for Teen Magazine, with the help of Ma Thida (Sanchaung), who was one of my acquaintances in prison. I also took the chance to attend university, but not as a day student, as I was only accepted into a distance education university under a Myanmar language degree specialization. At 27 years old I was again a first-year student, though this time doing a distance education degree. At the same time, I studied media literacy and learned about journalism during English classes for former political prisoners at the American Center (AC). Following that, despite failing the intermediate level of 'English 5' at the AC, I was chosen to participate in high level courses on women's leadership at the British Council, which I started but never finished. That was my educational journey in the first two years after being freed from prison.

The 2007 Saffron Revolution happened while I was attending my second year of distance education. I was imprisoned again for 11 years for joining the revolution and following the banner of the 88 generation, led by Min Ko Naing. I was charged with article 6 (conspiracy and defamation of the state) of section 505(B). I was imprisoned for four years, moved around from prison to prison, from Insein, to Mandalay, and Shwebo, from which I was finally released in October 2011, after filing an appeal. I was 33 years old when I got out of prison the second time. When I finally completed my university education and received a bachelor's degree, I was 36 years old. I did not attend the graduation ceremony. At that time, I was working for an international media organization.

## Notes on Student Politics and Different Generations

Students do not come from the gutter. We are peacocks from the campuses, we are fighting peacocks. Every student generation should pass on the thoughts of their own student generation to the next. If I have the opportunity to discuss my longstanding political objectives, let me use the terms of hope, vision and representativeness.

**Hope:** I want to see the next generation of students evolve from students into political actors in a more systematic way.

**Vision:** My vision is the next generation of students learning how to negotiate through political dialogue and to advance democracy in our society for future generations.

**Representativeness:** The act of representing others in student politics needs to change according to the political system, the timeline, the conditions, the scope and the structure of the student politic.

Regarding hope, I strongly recommend the work and thought of U Nu. Highly qualified politicians and national leaders were

originally youths and students before they achieved their senior positions in education and politics, for instance, U Nu and General Aung San. U Nu writes about how to guide the next generation based on his work as a student and a political leader. His writing on 'students and politics' is worth reading for generation X and Y students to understand U Nu's political legacy. U Nu and his generation experienced World War II.

Another book I recommend is *Lat Thi Bone Thakin Ba Tin*,[1] which was written by Thakin Ba Tin. This book is about Ireland and Burma, both of which have strong patriotic spirits. The colonizers, the British, respected, recognized, and admired these two countries, even though the British were the rulers of "the empire on which the sun never sets". Thakin Ba Tin points out that the British struggled to occupy both nations, which were nationalistic until they gained independence. As a member of generation X, I admire the generations that struggled during independence and view them as worthy of respect in terms of Myanmar politics. They knew about the world without TV, smartphones, and computers. To compete in the world, they had to be highly advanced regarding political and personal qualities, they had instinctual awareness and knowledge, and can be referred to as a strong model generation. The preceding generations were strong model generations who achieved Burma's independence, even though most of the people born during World War II had very troubled lives.

For Myanmar, people born between 1960 and the early 1980s are known as generation X, and those born between the early 1980s and 1994 belong to generation Y, but there is no precise data or agreement on labeling these generations. Generation Z, born after 1995, cannot survive in the world without the help of modern technology such as computers, phones, and so on. The majority of the self-concept theories that generation Z people imitate come from the previous generation, so we can refer to them as the 'empty generation'.

[1] ဗတင်၊ သခင် (လက်သီးပုန်း-)၊ ၁၉၆၈။

People from the older generations struggled in terms of politics even under the 'Bamboo Curtain' policy of the military regime. Similarly, in terms of armed revolution and protest demonstrations, no generation has produced new political or revolutionary ideas from 1960 to the present. Instead they replicate those of the older generations. As a result, it is possible to argue that generation Z, the empty generation, has been destined to be brainwashed since the days of the Burma Socialist Programme Party. It has been very rare for high-level Burmese politicians to emerge as leaders who could broadly speak out and proclaim civil rights and human rights in the same way as truly global leaders like Dr. Martin Luther King and John F. Kennedy.

These points can be considered both conventional and acceptable today, in Myanmar's contemporary situation. We cannot build a new democratic society because this country has a tradition of locking up student activists. When given the choice of "confrontation or compromise", most of our political leaders prefer confrontation. We do not have a habit of negotiation, which leads to pressure, threats, and coercion, and we have not had the chance to thrive in a civilized society.

We cannot create a new society using this approach. We only replicate the same revolution of the previous generation in our modern time. Thus, we cannot have a new generation with an open mind for the future. Note that replicating and imitating are different. By replicating, you lack your own individuality; it is like stealing, and limits creativity. Imitation on the other hand is the approach of 'collect, imitate, act'. You feed your own political thoughts first, and then imitate the ideas relevant to you. Because of replicating, this new generation is becoming a generation of emptiness, the zero generation: a generation that is replicating the older generation and choosing only confrontation as its form of revolution.

For this reason, we have to back away from replicating when it comes to the ideas of representation and representativeness. We have to aim for a new way of thinking, based on what the current political reality is, and we need to change our student

movement and behaviors. If we are only basing our activities on previous experiences, in practice, our actions will become harsher, and the result will not be smooth. It does not result in a win-win situation.

If we study social theory on the other hand, we can transition our experience smoothly and achieve a good result. Based on my experience, I think it will give us a good, dignified stance. When we present a new idea, we steam upstream using our revolutionary thinking as the engine. So, this is revolutionary. That is the key point. If I knew the theory well enough back then, I would have chosen a gentler approach. I do not like being put in prison.

In order to build a democratic society, we need more democratic leaders produced by civilian education institutions. Learning how to transition from study to politics will sew good political seeds for the future. This is my analysis of my current generation and of future generations. My perspective is held out of personal and historical respect for the previous generations. It is not based on ideology.

The previous student generations that came before are different from my own generation in four strong ways. The first is that they are like teachers with strong minds like whetstones, capable of sharpening and passing on their revolution, their ideas, and their ideologies to the next generation. They look at the new generation as a clay figure that can be molded and carved, and they are willing to offer their brains and ideas to the younger generation.

Second, they have honed their perception and conviction. They struggle on their own. They have strong visions and clear ideologies.

Third, they are able to choose paths to survive. They devoted themselves to things that reproduced politics, such as literature, novels, poems, translations, education. It is called going underground. They were able to see the world without technology like computers and cellphones. Since they had strong enthusiasm and a long-term survival path in politics, it is hard not to respect them.

Fourth, they were ready to give all they have learned to the new generations. They lacked prejudice toward the new generations.

Even in an oppressive political system that tortured them, they were able to pass down seeds to grow and flourish in the next generation. One of their weak points is that they could not share with us the legacy of "unity". They mixed problems with the revolution. Some older generations are stuck in an old system and cannot strike out with new ideas. This is partly due to political fatigue. They became political pensioners, their emotions leading to anger; they attempt to divide others and feel alienated.

My generation lives as deviants instead of living like young leaders. There are many opportunists. Instead of having their own character, people continue to replicate those of the older generation. They seem to put these older people first, but they still want to be shoulder to shoulder with them. We do not have minds like whetstones. We lack strong convictions and high ambitions.

Most of my own generation follow wrong paths, such as playing games, using drugs, replicating others, and living as opportunists. Instead of giving it their all, they are reluctant to share and even have the habit of giving misleading messages. My generation cannot move forward without technology. They claim their own ideas, ideologies, and theories, but they are merely replicating the older ideas with the support of technology. Their ideas expand only a little with the support of technology.

But one good thing about this generation is that instead of creating problems, they tend to look for unity, solutions, and peace more than the previous generation.

## References

ဗတင်၊ သခင် (လက်သီးပုန်း-)၊ (၁၉၆၈)၊ *လက်သီးပုန်း*၊ စာပန်းချီတိုက်။

# ကျောင်းသားလှုပ်ရှားမှုနှင့် စပ်လျဉ်း၍ ၁၉၉၆ ဒဂုံတက္ကသိုလ် ကျောင်းသားသမဂ္ဂ စည်းရုံးရေးမှူး အတွေ့အကြုံနှင့် အမြင်အယူအဆ

လေးလေးမွန်

## စာတမ်းအကျဉ်း

ဤဆောင်းပါးသည် ၁၉၉၆ ကျောင်းသားလှုပ်ရှားမှု၏ တစ်စိတ်တစ်ဒေသ ဖြစ်သည့် ဒဂုံတက္ကသိုလ် ကျောင်းသားဆန္ဒပြမှုများ အပေါ်တွင် အခြေခံထား သော စာရေးသူ၏ အတွေ့အကြုံနှင့် အတွေးအမြင်ကို ပွင့်လင်းစွာ တင်ပြထား ခြင်းဖြစ်သည်။ ဤဆောင်းပါးသည် ခေတ်အဆက်ဆက် ကျောင်းသားလူငယ် များကြားရှိ မျိုးဆက်ကွာဟမှုကို အဓိကထောက်ပြဝေဖန်ထားသဖြင့် ထူးခြား သည်။ အဲန်အယ်လ်ဒီအစိုးရ အာဏာရခါစ ၂၀၁၆ ခုနှစ်ဝန်းကျင်ခန့်တွင် ၎င်း သုံးသပ်မိသော ကျောင်းသားမျိုးဆက်၏ အခြေအနေကို သိရှိခွင့်ရစေသည်။

## မိတ်ဆက်

ကျွန်မအသက် ၃၈နှစ်။ ကျွန်မကို ၁၉၇၈ ခုနှစ်မှာ ရန်ကုန်မြို့မှာ မွေးဖွားခဲ့တာ ပါ။ မိဘတွေက နိုင်ငံရေးကို အားပေးခဲ့သူတွေပါ။ ဖခင်က အစိုးရဝန်ထမ်း ဖြစ်ခဲ့ ပြီး မိခင်ကတော့ ရှမ်းပြည်မြောက်ပိုင်း သီပေါဇာတိပါ။ မိခင်ဘက်ကတော့ တပ်အသိုင်းအဝိုင်းကပါ။ လက်ရှိ DVB နိုင်ငံခြား သတင်းဌာနမှာ broadcast journalist စီနီယာရုပ်သံသတင်းထောက်အဖြစ် အလုပ်လုပ်နေပါတယ်။ ထောင်က (၁၉၉၇-၂၀၀၅) အထိ တစ်ကြိမ်၊ (၂၀၀၇-၂၀၁၁) အထိတစ်ကြိမ် ထောင်ထဲ စုစုပေါင်း (၁၂) နှစ် နေထိုင်ခဲ့ပြီး ၂၀၁၁ အောက်တိုဘာမှာ လွတ်ခဲ့ပါ တယ်။ ၂၀၁၂ မှာ အလုပ်စဝင်ခဲ့ပါတယ်။ အခုဆို ရုပ်သံသတင်းထောက်အဖြစ် လုပ်ကိုင်နေတာ (၅) နှစ်ကျော်ပါပြီ။

နိုင်ငံရေးကို စသိခဲ့တာက ၁၉၈၈ ခုနှစ် (၅) တန်းကျောင်းသူဘဝမှာပါ။ အထက (၂) တာမွေ၊ ရာမကွင်းကျောင်းနဲ့ ကျွန်မတက်ခဲ့တဲ့ အလက (၁) တာမွေ ကျောင်းတို့ ပူးပေါင်းပြီး ဆန္ဒပြခဲ့ရာမှာ (၁၀) နှစ်အရွယ် (၅) တန်း ကျောင်းသူ အဖြစ်နဲ့ အကာသ (အခြေခံပညာကျောင်းသားများသမဂ္ဂ) တွေ ဦးဆောင်မှု

နောက်ကနေ ပါဝင်ခွင့်ရခဲ့တယ်။ ကျွန်မက နိုင်ငံရေးကို အတွေ့အကြုံနဲ့ စခဲ့တာပါ သီအိုရီနဲ့စခဲ့တာ မဟုတ်တဲ့အတွက် အရိုင်းဆန်ပါတယ်။ ဘာကြောင့် ဒါကိုပြောရလည်းဆိုရင် ခေတ်စနစ်အရ၊ ကြီးပြင်းခဲ့တဲ့ကာလအရနဲ့ ကိုယ်တိုင် အသိအရ နိုင်ငံရေးဆိုတာ အတွေးအခေါ်သီအိုရီတွေက စသင့်ပြီး နောက်တစ်ဆင့် အတွေ့အကြုံကို အကောင်အထည်ဖော်မှ နိုင်ငံရေးဆိုတာ အဆင့်မြင့်ပြီး နိုင်ငံသားကောင်းတစ်ဦး စဖြစ်အောင် ပြုလုပ်ပေးပါလားဆိုတဲ့ အသိကြောင့် ဖြစ်ပါတယ်။ ကျွန်မအတွက်တော့ နိုင်ငံရေးကို အဆင့်အတန်း မြင့်မြင့် သင်ပေးနိုင်တဲ့ နိုင်ငံအနေနဲ့ မရရှိခဲ့ပါဘူး။ မြန်မာနိုင်ငံမှာ လူ့အခွင့်အရေးဆိုတာ မွေးရာပါအခွင့်အရေး မဟုတ်ခဲ့သလို ကြီးပြင်းချိန်မှာ နိုင်ငံသားအခွင့်အရေးကို မရရှိခဲ့တာကြောင့် လူ့အခွင့်အရေး၊ နိုင်ငံသား အခွင့်အရေးဆိုတာကို ခွဲခြားသိမြင်ဖို့အတွက် လမ်းပေါ်ထွက် နိုင်ငံရေး (ခေါ်) ထိပ်တိုက်ရင်ဆိုင်ရေးလမ်းစဥ်ကိုသာ စတင်ခဲ့ရလို့ လူငယ်တစ်ယောက်အဖို့ သီအိုရီ မရှိပဲ နိုင်ငံရေးကို ကိုယ့်ဘာသာ ရုန်းကန်ရင်း အတွေ့အကြုံတွေကနေ သီအိုရီကို ပြန်လည်သင်ယူ တတ်မြောက်ခဲ့ရသူ ဖြစ်ပါတယ်။

အဲဒီနောက် အသက် (၁၇) နှစ်အရွယ် ၁၉၉၆ ကျောင်းသားဆန္ဒပြမှု မှာတော့ အရင် ၁၉၈၈ အရေးအခင်းက အတွေ့အကြုံနဲ့ပေါင်းပြီး ဦးဆောင် ကျောင်းသားတွေနဲ့အတူ ဦးဆောင်ကဏ္ဍတစ်ခုအနေနဲ့ ဆန္ဒပြရာမှာ အတူ ပါဝင်ခဲ့တယ်။ အချိန်က ၁၉၉၆၊ ဒီဇင်ဘာ (၉) ရက်နေ့ ဒဂုံတက္ကသိုလ် ကျောင်းသားလှုပ်ရှားမှုမှာ ပထမနှစ်ကျောင်းသူအဖြစ်နဲ့ပါ။ ရုက္ခဗေဒဘာသာ သင်ယူနေပြီး ဒဂုံတက္ကသိုလ်မှာ နေ့ကျောင်းတက်နေတာပါ။ ဒဂုံတက္ကသိုလ် ကျောင်းသားသမဂ္ဂမှာ စည်းရုံးရေးမှူးအဖြစ်နဲ့ အလုပ်လုပ်ခဲ့ပြီး ၁၉၉၇ မှာ ဒကသ (ဒဂုံတက္ကသိုလ်ကျောင်းသားသမဂ္ဂ) စီအီးစီတွေ ဖမ်းဆီးရာမှာ အရေးပေါ်ပုဒ်မ ၅/ည၊ ပုံနှိပ် (၁၇) နဲ့ထောင် (၁၀) နှစ် ကျခဲ့တယ်။ အမှုတွဲ (၁၃) ယောက်မှာ မိန်းကလေးကျောင်းသူ စည်းရုံးရေးမှူးအနေနဲ့ ကျခဲ့တယ်။ အဲ့ဒီ အချိန်မှာ အသက် (၁၈) နှစ်ပြည့်ဖို့ (၄) လ လိုသေးပါတယ်။

အင်းစိန်ထောင်နဲ့ သာယာဝတီထောင်မှာ (၈) နှစ် နေခဲ့ရပြီး စစ် ထောက်လှမ်းရေးတွေ ပြုတ်ကျသွားပြီးနောက်မှာတော့ လွတ်လပ်ရေးနေ့ကို ကြိုဆိုသောအားဖြင့်ဆိုတဲ့ ခေါင်းစဥ်နဲ့ ထောက်လှမ်းရေးက မလျော်မကန် ဖမ်းဆီးလို့ ထောင်ကျနေရတဲ့ ကျောင်းသားတွေကို ၂၀၀၅ မှာ ထောင်က

လွတ်ခဲ့တယ်။ ဒါက ပထမအကြိမ် ထောင်ကျခဲ့တဲ့ အပိုင်းပါ။ ထောင်ထဲ ဝင်ချိန်က ၁၇ နှစ်ကျော်ကျော်ပါ။ ပြန်လွတ်လာချိန်မှာ အသက် ၂၇ နှစ်ပါ။

## နိုင်ငံရေး နဲ့ ပညာရေးပိုင်း

၂၀၀၅ ဇန်နဝါရီလမှာ ထောင်က လွတ်မြောက်ခဲ့ပြီးနောက် ၂၀၀၅-၂၀၀၇ မှာ မင်းကိုနိုင်ဦးဆောင်တဲ့ ၈၈ မျိုးဆက်ကျောင်းသားများ ခေါင်းစဥ်အောက်မှာ ပါဝင်လှုပ်ရှားမှုတွေ ဆက်လုပ်ခဲ့တယ်။ ထောင်ကထွက်ပြီး သိပ်မကြာဘူး အတူပူးပေါင်းပါဝင်ခဲ့တယ်။ တစ်ဖက်မှာလည်း အကျဉ်းထောင်ထဲမှာ သိကျွမ်းခဲ့တဲ့ မသီတာ(စမ်းချောင်း)အကူအညီနဲ့ သူ့ရဲ့ ဆယ်ကျော်သက်မဂ္ဂဇင်း (Teen Magazine) မှာ အလွတ်တန်း ဘာသာပြန် စာရေးသူအဖြစ်နဲ့ သင်ယူရင်း အလုပ်လုပ်ခဲ့တယ်။

တစ်ဆက်တည်းမှာပဲ ကျောင်းပြန်တက်ခွင့်ရပေမယ့် Day တက်ခွင့် မရတော့ဘူး။ အဝေးသင်တက္ကသိုလ်ပဲ လက်ခံတဲ့အတွက် မြန်မာစာမေဂျာ ပြောင်းပြီး တက်တယ်။ ကျောင်းတက်ချိန်မှာ အသက် ၂၇ နဲ့ ပထမနှစ် အဝေးသင်ပြန်တက်ရတာပါ။

တစ်ဖက်မှာလည်း အမေရိကန်စင်တာမှာ နိုင်ငံရေးအကျဉ်းသားဟောင်းတွေကို အင်္ဂလိပ်စာသင်တန်းတွေ အခမဲ့တက်ခွင့်ရတဲ့အတွက် တက်ပြီး ဂျာနယ်လစ်ဇင်ကိုပါ လေ့လာရင်း media literacy ပြီးထားပါတယ်။ နောက်ထပ် အင်္ဂလိပ်စာအတန်းခွဲ high intermediate level 5 အရောက်မှာ စာမေးပွဲကျတယ်။ ဗြိတိသျှကောင်စီမှာတော့ high level women's leadership အရွေးခံရတယ်။ ပြီးအောင်မတက်ခဲ့ရဘူး။

အဝေးသင် ဒုတိယနှစ်တက်နေတဲ့အချိန်မှာ ရွှေဝါရောင်အရေးအခင်း ဖြစ်တယ်။ ၂၀၀၇ စက်တင်ဘာမှာ အဖမ်းခံရပြီး မင်းကိုနိုင်ဦးဆောင်တဲ့ ၈၈ မျိုးဆက်ခေါင်းစဥ်နဲ့ ထောင် (၁၁) နှစ်ကျခဲ့တယ်။ ပထမအကြိမ် ထောင်က ထွက်ပြီး (၂) နှစ်အတွင်း ပညာရေးပါ။

ထောင်ကျတော့ သင်းဖွဲ့ (၆) ပုဒ်မနဲ့ နိုင်ငံတော်အကြည်ညိုပျက်စေမှု (၅၀၅-ခ) တို့နဲ့ပါ။ အယူခံ (၄) နှစ်နိုင်တဲ့အတွက် ထောင်မှာ (၄) နှစ်နေခဲ့ရပြီး လွတ်ငြိမ်းချမ်းသာနဲ့ ၂၀၁၁ အောက်တိုဘာမှာ ပြန်လွတ်လာတယ်။ အင်းစိန်-မန္တလေး-ရွှေဘိုထောင် အဆင့်ဆင့်ပြောင်းခဲ့ပြီး ရွှေဘိုထောင်ကနေ နောက်ဆုံး

လွတ်မြောက်လာတာပါ။ စုစုပေါင်း ထောင်ထဲ (၂) ကြိမ် (၁၂) နှစ် နေခဲ့ရပါတယ်။

၂၀၁၁ ပြန်ထွက်လာချိန်မှာ အသက် (၃၃) နှစ်ပါ။ ဒုတိယနှစ် အဝေးသင် ပြန်တက်ပြီး ၂၀၁၄ အသက် (၃၆) နှစ်မှာ ကျောင်းပြီးပါတယ်။ ဘွဲ့တော့ သွားတက်မယူခဲ့ပါဘူး။ အခု နိုင်ငံခြားသတင်းဌာနမှာ အလုပ်လုပ်နေပါတယ်။

## ကျောင်းသားနိုင်ငံရေးနှင့် မတူညီသောမျိုးဆက်များအကြောင်း မှတ်စုများ

ကျွန်မတို့ဟာ မြောင်းထဲကလာတဲ့ ကျောင်းသားမဟုတ်ပဲ ကျောင်းထဲကလာတဲ့ ဒေါင်းပါ။ ခွပ်ဒေါင်းပါ။ မျိုးဆက်ကျောင်းသား တစ်ယောက်အဖြစ်နဲ့ နောက်မျိုးဆက် လက်ဆင့်ကမ်းဆိုတာ ကျောင်းသားမျိုးဆက်တိုင်းမှာ ရှိရပါလိမ့်မယ်။ အဲ့ဒီအတွက် ကျွန်မမှာ ရည်ရွယ်ချက် (၃) ခုနဲ့ အမြဲနေထိုင်ပါတယ်။

ပထမက မျှော်လင့်ချက်၊ ဒုတိယက မျှော်မှန်းချက်၊ တတိယက ကိုယ်စားပြုမှုပါ။ ရည်ရွယ်ချက် (၃) ချက်ကို အဓိပ္ပာယ်ဖွင့်ရမယ်ဆိုရင်

**မျှော်လင့်ချက်** = နောက်မျိုးဆက်တွေကို ကျောင်းသားဘဝကနေ နိုင်ငံရေးနယ်ပယ်ကို စနစ်တကျကူးပြောင်း တတ်စေချင်တယ်။

**မျှော်မှန်းချက်** = စေ့စပ်ညှိနှိုင်းတတ်တဲ့ စားပွဲဝိုင်းအလေ့အကျင့်ကို ကျင့်သုံးပြီးတော့ ဒီမိုကရက်တစ် လူမှုဝန်းကျင်ကို အဆင့်မြင့်မြင့် နောက်မျိုးဆက်တွေ လက်ဆင့်ကမ်းတတ်စေချင်တယ်။

**ကိုယ်စားပြုမှု** = ကျောင်းသားလှုပ်ရှားမှုနယ်ပယ်နဲ့ အသွင်သဏ္ဍာန်၊ နိုင်ငံရေးစနစ်နဲ့ ခေတ်အရ ပြောင်းလဲကိုယ်စားပြုဖို့ လိုပြီဆိုတဲ့ အချက် (၃) ခုနဲ့ စစေချင်တယ်။

ပထမအချက်ဖြစ်တဲ့ မျှော်လင့်ချက်ဆိုရာမှာ ဦးနုရဲ့ ‘ကျောင်းသားနှင့် နိုင်ငံရေး’ စာအုပ်ကို အဓိကညွှန်းချင်ပါတယ်။ ဗိုလ်ချုပ်အောင်ဆန်း၊ ဦးနု စတဲ့ ခေါင်းဆောင်တွေက ကျောင်းသားနဲ့ နိုင်ငံရေးနယ်ပယ်ကို အဆင့်ရှိရှိ ကူးပြောင်းလာခဲ့သူ၊ သြဇာရှိသူ ကိုယ်ရည်ကိုယ်သွေးအရ တန်ဖိုးရှိတဲ့ လူငယ်ဘဝကနေ နိုင်ငံတော်အဆင့်ထိ ကူးပြောင်းတတ်ခဲ့ကြသူတွေ ဖြစ်ခဲ့ပါတယ်။

ဦးနုရေးသားခဲ့တဲ့ ကျောင်းသားနဲ့ နိုင်ငံရေးစာအုပ်ဟာ သူ့ရဲ့အတွေးအခေါ်နဲ့ လုပ်ဆောင်ချက်တွေကို နောက်မျိုးဆက်တွေကို လက်ဆင့်ကမ်းပေးတတ်ဖို့ လမ်းညွှန်ခဲ့ပါတယ်။ အဲဒီ့အတွက် (X) မျိုးဆက် (Y) မျိုးဆက်ထဲက ရည်ညွှန်းချက်တစ်ခုအဖြစ် ညွှန်းချင်ပါတယ်။ ဒီပုဂ္ဂိုလ်တွေက ဒုတိယကမ္ဘာစစ် အတွင်း တည်မီခဲ့သူတွေလည်း ဖြစ်ပါတယ်။

ထပ်ဥပမာပေးရမယ်ဆိုရင် စာရေးဆရာသခင်ဗတင်ရဲ့ (လက်သီးပုန်း သခင်ဗတင်)[1] အိုင်ယာလန်လွတ်လပ်ရေးနောက်ခံပြုထားတဲ့ လက်သီးပုန်း အမည်ရစာအုပ်ထဲမှာ ရေးထားတာ ရှိတယ်။ အဲဒါကတော့ ဗြိတိသျှတွေဟာ နေမဝင်အင်ပါယာ အရှင်သခင်အဖြစ် ကမ္ဘာမှာ အုပ်စိုးခဲ့ပေမယ့် သူတို့ လေးစား အသိအမှတ်ပြုတဲ့နိုင်ငံ၊ ချီးကျူးမိတဲ့နိုင်ငံ၊ မျိုးချစ်စိတ်ဓာတ် အလွန်ပြင်းထန် တဲ့နိုင်ငံ (၂) ခု တွေ့ရှိခဲ့ပါတယ်တဲ့။ တစ်ခုက မြန်မာနိုင်ငံနဲ့ နောက်တစ်ခုက အိုင်ယာလန်နိုင်ငံတို့ပဲ ဖြစ်ပါတယ်။ ဒီနိုင်ငံ(၂)ခုကို ခက်ခက်ခဲခဲ တိုက်ခဲ့ရသလို လွတ်လပ်ရေးပေးရတဲ့အထိ မချီးကျူးပဲနေလို့မရတဲ့ မျိုးချစ်စိတ် ထက်သန်တဲ့ နိုင်ငံဖြစ်ကြောင်း လက်သီးပုန်းသခင်ဗတင်က ရေးသားထားပါတယ်။ ဒါကြောင့် ဒီမျိုးဆက်တွေကို မြန်မာ့နိုင်ငံရေးအရ မဟာလူသားတွေအဖြစ်နဲ့ တင်စားထိုက်တဲ့ (X) မျိုးဆက်စစ်စစ်တွေလို့ မြင်မိတာ ဖြစ်ပါတယ်။

ဒါက X, Y မျိုးဆက်တွေဟာ ကမ္ဘာကြီးအကြောင်းကို တီဗွီ၊ ဖုန်း၊ ကွန်ပျူတာ...စတာတွေ မရှိသေးပဲနဲ့ သိမြင်ခဲ့သလို ကိုယ့်နိုင်ငံကိုလည်း ကမ္ဘာနဲ့ ယှဉ်နိုင်အောင် နိုင်ငံရေးမှာကော ပင်ကိုဗီဇ၊ အသိအမြင်၊ ဗဟုသုတ အားလုံးက ပါ အလွန်ကို အဆင့်မြင့်ခဲ့သူတွေမို့ အားကောင်းတဲ့ စံပြမျိုးဆက်အဖြစ် ရည်ညွှန်းပါတယ်။ ဒုတိယကမ္ဘာစစ်အတွင်း မွေးဖွားခဲ့သူတွေ အများစုဟာ ဖိစီးမှုအမြင့်ဆုံးကာလနဲ့အတူ အားကောင်းတဲ့ စံပြခေါင်းဆောင်တွေအဖြစ် မြန်မာနိုင်ငံ လွတ်လပ်ရေးကို အရယူခဲ့တဲ့ အလွန်တော်တဲ့ မျိုးဆက်တွေ ဖြစ်ခဲ့ ပါတယ်။

Z မျိုးဆက်တွေကတော့ ကမ္ဘာကြီးအကြောင်းကို အထောက်အကူပြု ဒစ်ဂျစ်တယ်ပစ္စည်းတွေဖြစ်တဲ့ ကွန်ပျူတာ၊ စမတ်ဖုန်း စတဲ့ အိုင်တီနည်းပညာ တွေမရှိပဲ ရပ်တည်နိုင်စွမ်းမရှိတော့လို့ပါ။ ကိုယ်ပိုင် အတွေးအခေါ်သီအိုရီတွေ

[1] ဗတင်၊ ၁၉၆၈။

ကို နိုင်ငံရေးအရ ပုံတူကူးချတဲ့ နိုင်ငံရေးမျိုးဆက်အဖြစ်၊ ဗလာမျိုးဆက်အဖြစ် ရည်ညွှန်းပါတယ်။

မြန်မာနိုင်ငံတစ်ခုတည်းအနေနဲ့ မျိုးဆက်အရ ၁၉၆၀-၁၉၈၀ အထိ X လိုလို၊ Y လိုလို သတ်မှတ်လို့ရသလို ၁၉၈၀ နောက်ပိုင်းကနေ ၁၉၉၄ အထိ မျိုးဆက်တွေကို X လိုလို၊ Y လိုလို မျိုးဆက်လို သတ်မှတ်လို့ ရနိုင်ပါတယ်။ ဒါပေမဲ့ အတိအကျထုတ်ဖော်ဖို့ စစ်တမ်းကို အခုထိ မရယူနိုင်ခဲ့ပါဘူး။ ဒါဟာ စစ်အာဏာရှင်လက်ထက်ကစပြီး ဝါးကန့်လန့်ကာ Bamboo Curtain မူဝါဒ ထဲကနေ နိုင်ငံရေးအရ ရုန်းကန်နိုင်ခဲ့တဲ့ မျိုးဆက်တွေကို တွေ့မြင်နိုင်ပါတယ်။ ဒါပေမဲ့ ထူးခြားစွာ ထောက်ပြလို့ရတာက ၁၉၆၀ ကနေ ဒီကနေ့အထိ မျိုးဆက် အားလုံးဟာ နိုင်ငံရေး အယူအဆသစ်၊ တော်လှန်ရေးအယူအဆသစ်တွေ ထွက်ရှိမလာပဲ ထိပ်တိုက်ရင်ဆိုင်ရေး၊ လက်နက်ကိုင်တော်လှန်ရေး၊ လမ်းပေါ် ထွက် နိုင်ငံရေးတွေကို ကြည့်ခြင်းအားဖြင့် ပုံတူကူးချတဲ့ နိုင်ငံရေးမျိုးဆက်တွေ ကိုသာ တွေ့မြင်ရနိုင်တဲ့အတွက် Z မျိုးဆက်၊ ဗလာမျိုးဆက်ဟာလည်း နိုင်ငံရေးအရ မ.ဆ.လလက်ထက်ထဲက စတင်နေပြီလို့တောင် ဆိုနိုင်ပြီ ဖြစ်ပါတယ်။

ဘာနဲ့ချိန်ထိုးထောက်ပြလို့ရသလဲဆိုတော့ ၁၉၆၅ မှာ ဒေါက်တာ မာတင် လူသာကင်း၊ ဂျွန်အက်ဖ်ကနေဒီတို့လို ခေါင်းဆောင်တွေ ကမ္ဘာမှာ ပေါ်ထွက်ခဲ့ ပေမယ့် မြန်မာမှာ အဆင့်မြင့်နိုင်ငံရေးသမားကောင်းတွေဟာ နိုင်ငံသား အခွင့်အရေး၊ လူ့အခွင့်အရေးကို အကျယ်တဝင့်ရှင်းပြ၊ ကြွေးကြော်ပြနိုင်တဲ့ ခေါင်းဆောင်တွေအဖြစ် ပေါ်ထွက်မှုအရမ်းရှားပါး နေခဲ့ပါတယ်။ (အငြင်း ပွားစရာလည်းရှိသလို လက်ခံလို့ရတဲ့ ခေတ်စနစ်လည်း ဖြစ်ပါတယ်)

ဘာ့ကြောင့်လဲဆိုတော့ ဒီနိုင်ငံက ပညာရေးနယ်ပယ်ကနေ နိုင်ငံရေး နယ်ပယ်ကို ကူးတာနဲ့ ထောင်ချတဲ့ဓလေ့ပဲ ရှိတဲ့အတွက် ဒီမိုကရက်တစ် လူမှု ဝန်းကျင်ကို စနစ်တကျ မတည်ဆောက်နိုင်ဘူး။ confrontation နဲ့ compromise မှာ ထိပ်တိုက်ရင်ဆိုင်မှု လမ်းစဥ်ကိုပဲ ရွေးခဲ့တာကြောင့် စေ့စပ်ညှိနှိုင်းတတ်တဲ့ စားပွဲဝိုင်းအလေ့အထကို မပြုလုပ်နိုင်ဘူး။ ထိပ်တိုက် ရင်ဆိုင်တဲ့လမ်းစဥ်က ဖိအားပေးတယ်၊ ခြိမ်းခြောက်တယ်၊ အကျပ်ကိုင်တယ်။ ယဥ်ကျေးတဲ့လူ့အဖွဲ့အစည်းကို ရှင်သန်ကြီးထွားခွင့်မပေးပါဘူး။ အဲ့ဒီလမ်းစဥ် က လူမှုဝန်းကျင်အသစ်ကို မဖန်တီးနိုင်ပဲ အရင်မျိုးဆက်ဟောင်းတွေ သူတို့

ခေတ်အခါမှာလုပ်ခဲ့တဲ့ တော်လှန်ရေးကို ပုံတူကူးချပြီး မတူတဲ့ခေတ်စနစ်မှာ ကျင့်သုံးတယ်။

အဲ့ဒီအတွက် လတ်ဆတ်တဲ့မျိုးဆက်၊ အနာဂတ်ကို ရည်သန်တဲ့ ပွင့်လင်း လွတ်လပ်တဲ့စိတ်ရှိတဲ့ open-minded မျိုးဆက်ကို မရတော့ဘူး။ ပုံတူ ကူးတာနဲ့ တုပတာနဲ့ ကွာတယ်။ ပုံတူကူးတာက ကိုယ်ပိုင်ဟန်မပါဘူး။ ခိုးချ တယ်၊ ဘောင်ကျဉ်းတယ်။ တုပတာက စုံ၊တုံ၊ပြု ဆိုတဲ့ လမ်းစဥ်ကို ရွေးတယ်။ သူက နိုင်ငံရေးဝမ်းစာ အရင်ဖြည့်ပြီးမှ တုပတာ အတုခိုးတာ။ အဲဒီအတွက် မျိုးဆက်က အဆင့်မမီတဲ့ zero generation ဗလာမျိုးဆက်၊ နိုင်ငံရေး မျိုးဆက်ကတော့ ပုံတူကူးနိုင်ငံရေးဖြစ်တဲ့ ထိပ်တိုက်ရင်ဆိုင်တဲ့ တော်လှန်ရေး နယ်ပယ်ကိုပဲ ရွေးချယ်တဲ့ မျိုးဆက်ဖြစ်နေတယ်။

အဲ့တာကြောင့် ကိုယ်စားပြုမှုပိုင်းမှာ ပုံတူကူးတဲ့ နယ်ပယ်တွေကို ကျော်ခိုင်းရမယ်။ ကွင်းချိန်းနေပြီဆိုတဲ့ အတွေးအခေါ်အသစ်ဘက်ကို မျက်နှာမူဖို့ နိုင်ငံရေးစနစ်အပေါ်လိုက်ပြီး ကျောင်းသားလှုပ်ရှားမှုရဲ့ အသွင်သဏ္ဍာန်ကို ပြောင်းလဲကျင့်သုံးဖို့လိုတာပါ။

အတွေ့အကြုံကိုပဲ အခြေပြုရင် အပြုအမူတွေ ကြမ်းတမ်းတယ်၊ ရလဒ်က မချောမွေ့ဘူး။ win-win လည်း မဖြစ်ဘူး။ သီအိုရီအခြေခံရင်တော့ အတွေ့အကြုံမှာ ချောချောမွေ့မွေ့ အသွင်းကူးပြောင်းနိုင်တယ်၊ ရလဒ် ကောင်းတယ်၊ သိက္ခာရှိတဲ့ ရပ်တည်မှုကို ပေးတယ်လို့ ကျွန်မ အတွေ့အကြုံ ရမြင်တယ်။ အဲ့ဒီမှာ ပြောချင်တာက အသိဉာဏ် အရွေ့အပြောင်းတစ်ခုကို တင်ပြတဲ့နေရာမှာ အဆန်သဘောကို သွားတဲ့အတွက် တော်လှန်ရေး သဘောဆောင်တယ်ဆိုတဲ့ အချက်ပဲ။ သီအိုရီကို ကျွန်မကျေညက်ခဲ့ရင် ညင်သာတဲ့လမ်းစဥ်ကိုပဲ ကျွန်မလိုက်မှာ ကျွန်မ ထောင်ကျတာကို ကြိုက်နှစ်သက်ခဲ့မှာ မဟုတ်ဘူး။

အချုပ်ကိုကောက်ရရင် ဒီမိုကရက်တစ် လူမှုဝန်းကျင်ကို တည်ဆောက်ဖို့ အတွက် ပညာရေးက မွေးထုတ်လိုက်တဲ့ ဒီမိုကရက်တစ် ခေါင်းဆောင်များ လိုအပ်ပါတယ်။ ပညာရေးကနေ နိုင်ငံရေးကို စနစ်တကျ ကူးပြောင်း တတ်အောင် သင်ယူရင် နိုင်ငံရေးမျိုးစေ့ကောင်းကောင်းကို ကျွန်မတို့ ရလိမ့် မယ်လို့ မြင်တယ်။ ဒါက ကျွန်မ ရောက်နေတဲ့ လက်ရှိမျိုးဆက်နဲ့ နောင်လာမယ့် မျိုးဆက်ကို လှမ်းကြည့်ပြီး သုံးသပ်ဆွေးနွေးတာပါ။

ကျွန်မတို့ရှေ့က ကျောင်းသားမျိုးဆက်တွေကို ကျွန်မမြင်တဲ့ အပိုင်းအရ လူပုဂ္ဂိုလ်အရ လေးစားခြင်းနဲ့ သမိုင်းအရလေးစားခြင်းပဲ ဖြစ်ပါတယ်။ ဝါဒအရ လေးစားမှုကို အခြေမခံခဲ့ဘူး။ တစ်ဖက်မှာလည်း ကျွန်မ မမီလိုက်တဲ့ သမိုင်းထဲကမျိုးဆက်နဲ့ ခေတ်ပြောင်းတော်လှန်ရေးထဲက မျိုးဆက်တွေကို လေ့လာတဲ့အခါမှာ သူတို့မှာ အားကောင်းတဲ့ အချက်က ကျွန်မတို့မျိုးဆက်နဲ့ မတူတဲ့အချက် (၄) ခုကို တွေ့ရတယ်။

(၁) ခားသွေးကျောက်နဲ့တူတဲ့ စိတ်ခာတ်ရှိတယ်။ (သူတို့ တော်လှန်ရေး၊ သူတို့ရဲ့ အတွေးအခေါ်၊ သူတို့ဝါဒတွေကို နောက်မျိုးဆက်ကို ပေးနိုင်စွမ်းရှိတဲ့ ခားသွေးကျောက်နဲ့တူတဲ့ ဆရာတွေဖြစ်တယ်။ သူတို့က ကိုယ်တွေကို ရွှံ့ရုပ် တွေလိုပဲ ကြည့်တယ်၊ ပုံသွင်းမယ်၊ ပုံလောင်းမယ်၊ ထွင်းထု ပေးမယ်၊ သူတို့ လုံးပါးပါးသွားမှာ၊ လူငယ်တွေက သူတို့ဦးနှောက် ဖောက်စားမှာကို လိုလို လားလား ခံယူချင်စိတ်ရှိတဲ့ ဆရာတွေပါ။)

(၂) ခံယူချက်၊ ခံယူစိတ်ကို ပြင်းပြင်ထန်ထန် မွေးမြူထားတယ်။ ခံယူတဲ့ စိတ်ခာတ် (သူတို့ဘာသာရုန်းကန်တယ်၊ အတွေးအခေါ် အားကောင်းတယ်၊ ဝါဒအယူပြတ်သားတယ်၊ ခိုင်မာတယ်။)

(၃) ရှင်သန်မယ့်လမ်းကြောင်း ရွေးချယ်တတ်တယ်။ (ကျောင်းဆရာ၊ ဘာသာပြန်ဆရာ၊ ကဗျာ၊ ဝတ္ထု၊ စာပေတွေမှာ အဓိက Cell တွေကို မွေးထုတ်ဖို့ မြုပ်နှံပစ်လိုက်ကြတယ်။ UG တွေလို့ခေါ်လို့ရတယ်။ အထူး သဖြင့် ကွန်ပျူတာ၊ ဆဲလ်ဖုန်းတွေလို ဘာနည်းပညာမှမရှိပဲ ကမ္ဘာကြီးကို ကြည့်နိုင်ခဲ့တယ်။ ဆက်လက်ရှင်သန်နိုင်ဖို့ ရေရှည်လမ်းကြောင်းတွေကို နိုင်ငံရေးဖွဲ့ကြီးပုံတွေအရ မလေးစားလို့မရတဲ့ မျိုးဆက်တွေပါ။)

(၄) ဆရာစား မချန်သူတွေ ဖြစ်တယ်။ သူတို့မျိုးဆက်တန်းတွေမှာသာ မလိုတမာစိတ်ထားတာ။ မျိုးဆက်သစ်တွေ မွေးဖို့အတွက်ဆို လူငယ်တွေ အပေါ် မလိုမုန်းထားစိတ်၊ မနာလိုစိတ်နဲ့ ဆရာစားချန်လေ့မရှိကြတာ တွေ့ရ တယ်။

ဒီ (၄) ခုလုံးက ကိုယ်ပိုင်ဟန်တွေချည်းပဲ။ မြန်မာအချင်းချင်း နိုင်ငံရေးအရ ဖိနှိပ်ညှဥ်းပန်းနှိပ်စက်ခံနေရတဲ့ နိုင်ငံရေးစနစ်ထဲကနေတောင် နောက်မျိုးဆက်ကို ရသလောက်မွေးထုတ်ပေးနိုင်ခဲ့တာ ကိုယ်တွေ အမွေရခဲ့တဲ့ အသိတွေဖြစ်နေလို့ပါ။

မကောင်းတာတစ်ချက်ကတော့ သူတို့က ညီညွတ်ရေးအမွေကို မပေးနိုင်ပဲ ပြဿနာတွေကို တော်လှန်ရေးတွေနဲ့ ရောဖန်တီးပေးတတ်ကြတာ တွေ့ရတယ်။ တချို့လူကြီးတွေက ခေတ်စနစ်တစ်ခုမှာ ရပ်ကျန်ခဲ့ပြီး အတွေးအခေါ်အသစ်တွေကို ထပ်မထုတ်နိုင်တာတွေလည်း နိုင်ငံရေးပင်ပန်းနွမ်းနယ်မှုအဖြစ်မြင်ရတယ်။ သူတို့တွေက နိုင်ငံရေးပင်စင်နာ (pensioner) တွေ ဖြစ်သွားကြတယ်။ (အဲ့ဒီအတွက် သူတို့ စိတ်ခံစားမှုတွေက စိတ်ချဉ်ဖောက်တာ၊ သွေးခွဲတာ၊ လူရာမဝင်တာတွေ ဖြစ်ပေါ်လာတယ်) ဒါပေမဲ့ တစ်ဖက်မှာလည်း ကျွန်မတို့မျိုးဆက်တွေက လူငယ် ဆိုတာထက် လူလည်တွေအဖြစ်နဲ့ ရှင်သန်ကြတယ်။ အချောင်သမားစိတ်တွေ များတယ်။ ကိုယ်ပိုင်ဟန်တွေအစား ပုံတူကူးချတာတွေနဲ့ပဲ ဆက်သွားကြတယ်။ ဒီလူကြီးတွေကို လူရာသွင်းသလိုလို၊ ရှေ့တန်းတင်သလိုလိုနဲ့ ပခုံးချင်းယှဉ်တာတွေ လုပ်ကြတယ်။

ဒါပေမဲ့ ကျွန်မတို့မှာ ခေးသွေးကျောက်စိတ် မမွေးကြဘူး။ ပြင်းထန်တဲ့ ခံယူချက်၊ ကြီးမားတဲ့ မျှော်မှန်းချက် မရှိကြဘူး။ ရှင်သန်မယ့်လမ်းကြောင်းကို ဂိမ်း၊ ဆေး၊ ကော်ပီလုပ်တဲ့ အချောင်သမားဘက်ကို မှားမှားယွင်းယွင်း ရွေးချယ်တယ်။

ဆရာစားချန်တယ်ဆိုတာထက် share (မျှဝေ) တတ်တဲ့ စိတ်ဓာတ်ထိမ်ချန် လိုက်ကြတယ်။ Message အမှားတွေ ပေးတတ်တဲ့ အကျင့်တွေပါ တွေ့ရတယ်။ နည်းပညာမပါပဲ ဘာမှရှေ့ဆက်လို့မရတော့တဲ့ မျိုးဆက်တွေ မလွဲမသွေ ဖြစ်လာခဲ့တယ်။ ကိုယ်ပိုင်ဝါဒ၊ ကိုယ်ပိုင်အတွေးအခေါ် အသိအမြင်၊ ကိုယ်ပိုင်သီအိုရီတွေဟာ ကိုယ်ပိုင်လို့ ငြင်းခုံလို့ရပေမယ့် အထောက်အကူတွေအပေါ် အမှီပြုပြီး ပုံတူကူးချထားတဲ့ အသိအမြင်တွေသာ ဖြစ်နေပါတယ်။ အနည်းငယ် သစ်ဆန်းပေမယ့် အနှစ်ချုပ်က နည်းပညာအထောက်အပံ့တွေနဲ့သာ အကျယ်ချဲ့ထားတာ ဖြစ်ပါတယ်။ ကောင်းတာတစ်ချက်က မျိုးဆက်သစ်တွေအားလုံး ပြဿနာအစား ပြေလည်ရေး၊ ညီညွတ်ရေးကို အရင်မျိုးဆက်ထက် ငြိမ်းချမ်းရေးကို အားကောင်းမောင်းသန် ရှာဖွေလာတာတော့ တွေ့မြင်ရပါတယ်။

## ကိုးကားချက်များ

ဗတင်၊ သခင် (လက်သီးပုန်း-)၊ (၁၉၆၈)၊ *လက်သီးပုန်း*၊ စာပန်းချီတိုက်။

# Opportunities and Challenges for Student Unions

**Phyoe Phyoe Aung**

## Abstract

Written in 2016, this article discusses the opportunities and challenges for student unions at a time of political change, focusing on the ongoing (re-)institutionalization of the All Burma Federation of Student Unions and the tension between this process and the longer-term, repressive political context that encouraged the continuation of underground organizing. Tensions also existed between proxy organizations formed by school authorities and legitimate student unions.

## Introduction

This article is based on my presentation at the "Student Activism in Burma: Inspirations, Aspirations and Representation" workshop organized by the Myanmar Institute for Democracy on 19 November 2016. Before my own speech, reputable student leaders from different student union generations presented on issues related to student unions and their historically valuable activities. These included U Hla Shwe, Dr. Min Thein, U Tin Aye Kyu, Ko Thet Tun, Ko Sai Kyaw Nyunt, Ma Lay Lay Mon, and Ko Zayah Oo. The successful event included question and answer sessions and allowed active members from their respective student unions to enthusiastically discuss the on-the-ground experiences shared by representatives of different generations.

I have always believed that with its strong spirit and glorious experiences, with its pure and indestructible soul, the All Burma Federation of Student Unions (ABFSU) will embrace every one of our comrades from different generations and exist for many years to come.

This article continues in eight parts. The first four sections concern internal affairs which are related directly to the student unions:

1. Representativeness of student unions within campuses.
2. Systematic planning and delegation of an institutionalized organization.
3. Trust-building among student union members.
4. Unity.

The next four concern the external challenges that student unions encounter:

5. Different political contexts over time.
6. The popularity of the ABFSU.
7. The status and legitimacy of the ABFSU.
8. Attitudes of authorities toward student unions.

When going through these eight points it becomes clear that they are interrelated.

## Representativeness of Student Unions Within Campuses

We have been repeatedly questioned by different stakeholders whether current student unions can genuinely represent the students within their respective campuses. In a country where different military regimes have ruled by fear and systematically oppressed and crushed apart student unions, many students were forcibly isolated from unions, student leaders, political movements, and student activities from late 1962 until 2015 when civilian leaders won that year's general elections and formed government. Specific fears were relayed not only by students themselves but also by lecturers, professors, rectors, and staff in the education sector. Aside from these, due to being systematically wiped from history, and because of university authorities' strict control of free campaigning, organizing, and movement within campuses, the ABFSU has been separated from students and considered a harmful institution. Thus, the

organization's campaigning works within campus have been weakened.

## Systematic Planning and Delegation of an Institutionalized Organization

I find many organizations in our country to be weak in setting out rules and regulations related to accountability and responsibility and strictly complying with preexistent rules. In other words, although specific duties were assigned according to applicable organizational structures, there has been no systematic planning and delegation of institutionalized organization in many of today's student unions. The unsystematic working patterns of the ABFSU, with its members who are familiar mostly with working only underground, will negatively impact its organization, operations and mutual understanding among members, and provoke derivative and repeating problems in the long run. Therefore, members must get familiar with organizational meetings, consultation workshops, and delegations before and after working hours, excepting confidential information. While striving to solve complexities within the organization, movements will be delayed, and hence, time, money, and valuable energy could be lost in vain due to endlessly recurring problems. Therefore, if we can immediately solve the institutionalization problem, which is the primary cause, our comrades will be able to get rid of the problems mentioned above and develop a more prosperous and relevant ABFSU.

## Trust-building Among Student Union Members

Trust-building issues among members can be resolved once the ABFSU is well established as an institutionalized organization. Endless conflicts will arise among student union members due to loosely planned actions if the organization is only occupied by cult followers and opportunists rather than those who joined after thoroughly understanding the policies which have already existed. Therefore, students, especially student union members,

should be clear about the needs of the ABFSU, the policies to be set out, and tactics to be applied.

When the 2007 ABFSU was formed as an underground organization by book club members and went on to carry out movements, there were no mobile phones or communication devices and very poor internet access. However, few trust issues arose among members because we could build trust and coordinate smoothly among our comrades. As we all understood during those days that we could be arrested once any secret information was revealed, we minimized the number of members as much as we could. Although there are still security concerns in 2016, we are now able to organize and perform our activities freely to a certain extent, and therefore, we no longer need to minimize our members. Because too much secrecy within the organization would amplify trust issues, it is essential that the ABFSU delegate specific tasks according to an organizational structure already agreed to by all members, and that there is transparency within the organization, at least to an extent.

## Unity

When we talk about unity among the student unions, many would agree that this implies "conferences". Since the early days, student union members have discussed rules and regulations, elections, and activities at conferences. We would like to maintain these good practices; the ABFSU and other student unions currently face existential challenges such as dissension and weaknesses in campaigning. Speaking of "unity", it is essential not to lack specific policies. The existence of a unity based only on individuals, rather than on policies, will face difficulties in the long run.

Reforming the institutionalization of the organization is also essential. Unity attained through effective negotiation based on policy can only portray a successful congress rather than deliver it. A conference with new generation student union members who are unfamiliar with the culture of an organizing congress would be flawed. However, suppose we can show the

spirit of the student union and the strength of unity by reuniting the power of students with carefully planned strategies. In that case, I am sure that student unions will be able to open a new page in history.

## Different Political Contexts Over Time

The years before 1962, when the organization could stand officially within campuses, was the golden age of the ABFSU. However, confrontation after the 7 July 1962 events, which turned to political repression; student movements within 1974-76 (even though these were not entirely maneuvers of the student union); the rebirth of the ABFSU among students and civilians during the 1988 revolution; student movements in 1996-98 attempting to organize the ABFSU and demand political freedom; the organization of the ABFSU just before the Saffron Revolution in 2007; and the attempt to reform the ABFSU in 2013, were all activities carried out mostly underground. Movement strategies and the means of communication of university student unions, ethnic minority student unions, township and district level student unions, basic education student unions, as well as today's ABFSU, in its current institutional form since 2012, are mixed with secrets and non-institutional structures and their organizational structures are not announced publicly. This is due to the country's political instability.

Myanmar's political context is one where it is difficult to trust authorities in good faith and this has an enormous impact on politically active organizations like student unions. Although this new transition period could be an opportunity for student unions, it could become trickier at any time. Under the rules of previous military regimes, underground organization and movement systems were most appropriate, since union members faced arrest. In January 2012, the ABFSU Central Organizing Committee, along with official organizational delegations, was formed by our 2007/2008 ABFSU members in collaboration with the members from 2003. Although there were many forms of threats and impediments under the rule of the nominally

civilian government from 2011-2015 (still a partially military government), there were no arrests made on the basis of organizing student unions.

Impediments remained, including the twenty-four-hour arbitrary detention of at least a dozen student union members from different parts of the country before 1987's 25th Anniversary of the 7 July 1962 protest against the military coup, and the imprisonment of hundreds of student union members who protested against the National Education Law in 2014-15 and their supporters. Although the organizational structure of the ABFSU was announced publicly because of these situations, some parts were still kept secret to prevent security breaches and unnecessary exposure. Even though the National League for Democracy (NLD) government took power in 2015, today in 2016 the ABFSU is still the most prominent enemy of the Ministry of Home Affairs, according to a Union Minister of Security and Border Affairs report to the Magway Regional Parliament, which depicted student movements as transgressive. During the present moment, when there is much political awakening and the return of many political movements, and transparency is believed to be improving in politics, at least to some extent, the ABFSU movement needs to be more widespread among students and the general public and should spread according to advocacy strategies. However, we still need to take extra precautions against security breaches since nothing can be taken for granted during this period. Since we are currently in the middle of a transition period, we must take our part in writing the student union history's while continuously analyzing the changes in prevailing political dynamics.

## The Popularity of the ABFSU

As a result of being systematically written out of history by different military regimes, the phrase "student union representative" was replaced with "student representative" in amendments to the National Education Law in parliament. This meant the prestigious ABFSU was degraded to just one of many student

welfare organizations. It is a tragedy that ABFSU is perceived by many as an ordinary student organization that engages in political activities both inside and outside the student community. The popularity of ABFSU increased after it stood with workers and farmers in fighting for their rights, as well as for leading the education protest movements in 2014 and 2015. However, after the new government took over in 2015, the ABFSU has become like an abandoned organization due to negative propaganda by government lobbyists against the union, the inability to implement activities due to problems the union alone cannot solve, and conflicts and dissension within the organization. In order for the ABFSU, once a prestigious organization in history, to be able to return with its five key policies, it is essential that it stay close to the general public and not be isolated from the student community. It is crucial to keep in mind that the organization cannot be called a student union if it is separated from the students.

## The Status and Legitimacy of the ABFSU

After 1962, the establishment and movements of student unions were targeted, prosecuted, and considered by the military junta to be political transgressions, right up until the 2007 ABFSU. Although no one has been detained for establishing a new student union since 2012, there are still threats, investigations, and misdirection in different ways by university authorities and government institutions (e.g., military intelligence under the Ministry of Home Affairs). Therefore, students who participated in the democracy education protests in different parts of the country in 2014 and 2015 demanded to acknowledge the legitimacy of student unions in National Education Law. The amended law enacts rights to organize the student unions under respective charters of universities. However, university acts were being drafted without any transparency. It indicates that the legitimate status of the existing student unions is not guaranteed by the regulations. An important fact is that the lack of recognition of current student unions in the original law gives fearful

bureaucratic university authorities absolute power to control the unions. The present student unions exist in the same way as other student organizations even though they do not have any legitimate status. Student unions that are not legally recognized either must carry out their establishment, campaigning, and activities within narrow boundaries verbally set by university authorities, or end up facing objections. Another huge challenge for the ABFSU is the emergence of proxy student organizations, which were formed by university authorities to substitute for unions. Even though organizations with unrepresentative origins usually do not last long, we need to be cautious about these since they are intended to detach students from the union and blemish the student unions' importance in history.

## Attitudes of Authorities Toward Student Unions

Since different military regimes have successively treated student unions as a prominent enemy, antagonistic narratives are deeply rooted in government institutions. By closely monitoring student union leaders and their activities like criminal gangs, and portraying student union members as rebellions or radicals, authorities can harm student unions at any time. The NLD government cannot save student unions from the predation of the Ministry of Home Affairs, since they are also trapped within the 2008 Constitution. Moreover, they also failed to legally recognize the legitimate status of the ABFSU. Therefore, there have been clashes between the ABFSU and lower-level administrative bureaucrats overwhelmed by fear and with weak political awareness. Hence, university authorities, ward administrators, and police intelligence consecutively committed legal prosecutions.

## Conclusion

The discussion above is only my opinion. While I barely suggest solutions to overcome the challenges presented, I firmly believe that solutions able to work on the actual ground will emerge only if our new generations face these current issues and future challenges. History will determine whether these solutions are right or wrong. Therefore, I welcome the new steps of our younger generations, who are honest and brave and in whom we put our trust. In order to move forward with the confidence of our elder generations, the most important thing is to overcome all challenges by ourselves, since the future is now in the hands of a new generation.

# ကျောင်းသားသမဂ္ဂများ၏ အခွင့်အလမ်းနှင့် စိန်ခေါ်မှုများ

ဖြိုးဖြိုးအောင်

## စာတမ်းအကျဉ်း

၂၀၁၆ ခုနှစ်က ရေးသားခဲ့သော ဤဆောင်းပါးသည် ၂၀၀၇ ခုနှစ်တွင် ဗကသကို စုပေါင်းလျှို့ဝှက်၍ ပြန်လည်ဖွဲ့စည်းခဲ့ရသည့် အခြေအနေမှ ၂၀၁၂ခုနှစ်တွင် လှုပ်ရှားခွင့် ပိုမိုရရှိလာသည့်အခါ ဗကသများအဖွဲ့ချုပ်နှင့် အခြားတက္ကသိုလ် သမဂ္ဂများကြားရှိ ဆက်ဆံရေးနှင့် ဆောင်ရွက်ပုံ၊ ပြည်သူများအကြား ကျောင်းသားသမဂ္ဂ၏ ပုံရိပ် ပျောက်ကွယ် မသွားရအောင် ကြိုးပမ်းအားထုတ်ကြပုံ၊ ကျောင်းသားသမဂ္ဂ အစစ်နှင့် ကျောင်းအာဏာပိုင်တို့အလိုကျ ဖွဲ့စည်းထားသောသမဂ္ဂ (proxy) ကြားရှိ အနေအထားအပြင် အစိုးရနှင့် သမဂ္ဂကြားရှိ တင်းမာမှုများနှင့် အခြေအနေများကိုပါ ဖော်ပြထားသည်။

## မိတ်ဆက်

၂၀၁၆ နိုဝင်ဘာလ (၁၉) ရက် Orchid Hotel မှာ Myanmar Institute of Democracy (MID) က ဦးစီးကျင်းပခဲ့တဲ့ Student Activism in Burma: Inspiration, Aspiration and Representation Workshop (ခေတ်အဆက် ဆက် ကျောင်းသားလှုပ်ရှားမှု - မျှော်လင့်ချက်၊ မျှော်မှန်းချက်နှင့် ကိုယ်စားပြုမှု ပညာရပ်ဆိုင်ရာဆွေးနွေးပွဲ) မှာ ကျွန်မ တင်ပြဆွေးနွေးခဲ့တဲ့ အကြောင်းအရာများအပေါ် အခြေခံပြီးယခုဆောင်းပါး ဖြစ်ပေါ်လာတာ ဖြစ်ပါတယ်။

ခေတ်အဆက်ဆက်က ကျောင်းသားခေါင်းဆောင်တွေ ဖြစ်ကြတဲ့ လေးစားရတဲ့ ဘဘဦးလှရွှေ၊ ဒေါက်တာမင်းသိမ်း၊ ဦးတင်အေးကြူ၊ ကိုသက်ထွန်း၊ ကိုစိုင်းကျော်ညွန့်၊ မလေးလေးမွန်၊ ကိုဇေယျာဦးတို့က ကျွန်မ ရှေ့ကနေ ကျောင်းသားသမဂ္ဂနဲ့ ကျောင်းသားလှုပ်ရှားမှုတွေကို ခေါင်းစဥ်အလိုက် သမိုင်းနဲ့ချီပြီး တန်ဖိုးရှိလှစွာ တင်ပြဆွေးနွေးခဲ့ကြပြီးတော့ တက်ရောက်လာတဲ့ ကျောင်းသားမျိုးဆက်ဟောင်း၊ မျိုးဆက်သစ်များရဲ့ မေးခွန်းများ ပြန်လည်ဆွေးနွေးမှုများနဲ့ မြိုင်ဆိုင်ခဲ့ပါတယ်။ အစီအစဥ် နောက်ပိုင်းမှာလည်း လက်ရှိသမဂ္ဂအသီးသီးက ကျောင်းသားသမဂ္ဂမျိုးဆက်

တွေရဲ့ ပကတိအခြေအနေကို တင်ပြဆွေးနွေးခြင်းက စိတ်ပါဝင်စားစရာ၊ ကျေနပ်အားရစရာ ကောင်းလှတဲ့အတွက် အထူးအောင်မြင်တဲ့ ဆွေးနွေးပွဲ တစ်ခု ဖြစ်ခဲ့ပါတယ်။

ဒီလို တက်ကြွတဲ့ စိတ်ဓာတ်တွေနဲ့ ထက်မြက်တဲ့ သမိုင်းတွေကြောင့် ကျောင်းသားသမဂ္ဂဆိုတဲ့ သန့်စင်ခိုင်မာအားကောင်းတဲ့ သမိုင်းဝိညာဉ်ဟာ ကျွန်မတို့မျိုးဆက်အသီးသီးကို ရစ်ပတ်တွယ်နှောင်ထားပြီး နောင်ခေတ် အဆက်ဆက်တိုင် တည်မြဲခိုင်မာသွားဦးမယ်ဆိုတာကို ကျွန်မ အမြဲယုံကြည်ခဲ့ တာပါ။

ကျွန်မဆွေးနွေးခဲ့တဲ့ သမဂ္ဂတွေရဲ့အခွင့်အလမ်းနဲ့ စိန်ခေါ်မှုတွေကို ခုဆောင်းပါးမှာ အပိုင်း (၈) ပိုင်းနဲ့ တင်ပြချင်ပါတယ်။ ကျောင်းသားသမဂ္ဂတွေ နဲ့ တိုက်ရိုက်သက်ဆိုင်နေတဲ့ သမဂ္ဂအတွင်းပိုင်းကို ခေါင်းစဥ် လေးခု ခွဲထား ပါတယ်။

(၁) သမဂ္ဂများ၏ ကျောင်းတွင်း ကျောင်းသားထုကို ကိုယ်စားပြုနိုင်မှု
(၂) အဖွဲ့အစည်းပုံစံ စနစ်တကျ တာဝန်ခွဲဝေမှုများနဲ့ ဖွဲ့စည်းနိုင်မှု
(၃) သမဂ္ဂဝင်အချင်းချင်း ယုံကြည်နားလည်မှု
(၄) ညီညွတ်ရေး ကျောင်းသားသမဂ္ဂတွေအပေါ် ပြင်ပရဲ့စိန်ခေါ်မှုတွေကို လည်း အပိုင်းလေးပိုင်း ခွဲထားပါတယ်
(၅) မတူညီတဲ့ နိုင်ငံရေးနောက်ခံခေတ်အခြေအနေ
(၆) ပြည်သူအကြား သမဂ္ဂ၏ ရေပန်းစားမှု
(၇) သမဂ္ဂ၏ တရားဝင်ရပ်တည်နိုင်မှု
(၈) အာဏာပိုင်အဖွဲ့အစည်းများ၏ သမဂ္ဂအပေါ် သဘောထားအမြင်များ

ဒီခေါင်းစဥ် (၈) ခုဟာ တစ်ခုနဲ့တစ်ခု အပြန်အလှန် ကွင်းဆက်သဏ္ဍာန် ချိတ်ဆက်နေတာကို တွေ့ရပြီး အဲဒီအချက် တစ်ခုချင်းစီနဲ့ ပတ်သက်လို့ ကျွန်မရဲ့ သီးခြားအမြင်တွေကို ဖော်ပြဆွေးနွေးမှာ ဖြစ်ပါတယ်။

## (၁) သမဂ္ဂများ၏ ကျောင်းတွင်း ကျောင်းသားထုကို ကိုယ်စားပြုနိုင်မှု

လက်ရှိ ကျောင်းသားသမဂ္ဂတွေဟာ ကျောင်းသားထုကို အမှန်တကယ် ကိုယ်စားပြုနိုင်မှု ရှိ၊ မရှိဆိုတဲ့ မေးခွန်းကို ကျွန်မတို့တွေ အမေးခံခဲ့ကြရတယ်၊ အမေးခံနေကြရဆဲပါ။ ၁၉၆၂ နောက်ပိုင်း စစ်အစိုးရအဆက်ဆက်ရဲ့ သမဂ္ဂ အပေါ် ဖိနှိပ်၊ ဖြိုခွဲမှုတွေနဲ့ အကြောက်တရား ကြီးစိုးခဲ့တဲ့ တိုင်းပြည်မှာ ဥပဒေပြု ဖိနှိပ်မှုတွေကြောင့် ကျောင်းသားသမဂ္ဂ၊ ကျောင်းသားခေါင်းဆောင်၊ နိုင်ငံရေး လှုပ်ရှားမှု၊ ကျောင်းသားလှုပ်ရှားမှု ဆိုတာတွေကို ဝေးဝေးရှောင်ခဲ့ကြတာ ခု ၂၀၁၅ ရွေးကောက်ပွဲတွေ ကျင်းပပြီး အရပ်သားအစိုးရ အာဏာရချိန်ထိပါပဲ။ ခုထိ အဲ့ဒီ အကြောက်တရားကို ကျောင်းသားတွေသာမက ဆရာ၊ ဆရာမတွေ၊ ပါမောက္ခတွေ၊ ပါမောက္ခချုပ်တွေနဲ့ ပညာရေးဝန်ထမ်းတွေက ဆက်လက် သယ်ဆောင်နေရတဲ့အပြင် စနစ်တကျ ဖျက်ဆီးဖျောက်ဖျက်ထားတဲ့ သမိုင်းနဲ့ ကျောင်းတွင်း လွတ်လပ်စွာ စည်းရုံး၊ ဖွဲ့စည်း၊ လှုပ်ရှားခွင့်ဟာ ကျောင်းအာဏာ ပိုင်တွေရဲ့ ထိန်းချုပ်ခြင်းခံထားရတဲ့အတွက် သမဂ္ဂဟာ ကျောင်းသားတွေ အတွက် အလှမ်းကွာဝေးတဲ့ အန္တရာယ်ရှိ အဖွဲ့အစည်းတစ်ခု ဖြစ်လာခဲ့သလို သမဂ္ဂတွေရဲ့ ကျောင်းတွင်းစည်းရုံးရေး အကြီးအကျယ် အားနည်းခဲ့ရပါတယ်။ လက်ရှိချိန်ထိ ကျောင်းတွင်း ရွေးကောက်ပွဲလုပ်ပြီး ကျောင်းသားထုရဲ့ ကိုယ်စားပြုမှုကို ရယူနိုင်တဲ့ ကျောင်းသားသမဂ္ဂဆိုတာ လက်ချိုးရေလို့ ရလောက်အောင် နည်းပါးတဲ့အပြင် အဲ့ဒီရွေးကောက်ပွဲတွေမှာတောင် ကျောင်းတွင်းကျောင်းသား အများစုရဲ့ စိတ်ဝင်စားပူးပေါင်းပါဝင်မှု ရ၊ မရ ဆိုတာကလည်း စိန်ခေါ်မှုတစ်ခု ဖြစ်လာပါတယ်။ ဒါဟာ နှစ်ပေါင်းများစွာ ကျောင်းသားထုနဲ့ သမဂ္ဂအကြား သွေးခွဲခံခဲ့ရမှုရဲ့ရလဒ်ပါ။ သမိုင်းအဖျောက်ခံ ထားရတဲ့ တိုင်းပြည်မှာ သမဂ္ဂရဲ့အခိပ္ပာယ်နဲ့ တန်ဖိုးကို မသိနားမလည်ကြတာ ဟာ ကြောက်စရာ အန္တရာယ်ရှိ အဖွဲ့အစည်းတစ်ခုအဖြစ် မြင်တာထက် ပိုလာပါ တယ်။ သမဂ္ဂဟာ ကျောင်းသားထုကို ကိုယ်စားမပြု၊ ကျောင်းသားထုနဲ့မဆိုင်တဲ့ သီးခြားနိုင်ငံရေးအဖွဲ့တစ်ခုလိုလို ကျောင်းသားအများစု ကိုယ်တိုင်မြင်လာ တာကို ခြေဖျက်နိုင်ဖို့ လက်ရှိသမဂ္ဂမှာ တာဝန်ထမ်းဆောင်နေကြတဲ့ ကျောင်းသားသမဂ္ဂခေါင်းဆောင်များက တာဝန်ယူပြီး ကျောင်းသားထုနဲ့သမဂ္ဂ တစ်သားတည်းဖြစ်ကြောင်း သက်သေပြနိုင်ဖို့ အထူးလိုအပ်ပါတယ်။

## (၂) အဖွဲ့အစည်းပုံစံစနစ်တကျ တာဝန်ခွဲဝေမှုများနဲ့ ဖွဲ့စည်းနိုင်မှု

ကျွန်မတို့တိုင်းပြည်မှာ ခုချိန်ထိ အဖွဲ့အစည်းတော်တော်များများဟာ တာဝန်ယူတာဝန်ခံမှုဆိုင်ရာ စည်းမျဉ်းစည်းကမ်းတွေ ရေးဆွဲနိုင်ခြင်းနဲ့ ရေးဆွဲထားတဲ့ စည်းမျဉ်းစည်းကမ်းတွေကို အပြည့်အဝ လိုက်နာနိုင်ခြင်းတွေ အားနည်းနေသေးတာကို တွေ့ရပါတယ်။ တစ်နည်းအားဖြင့် ဖွဲ့စည်းပုံအရ တာဝန်သတ်မှတ်ထားပေမယ့် အဲ့ဒီတာဝန်အတိုင်း တာဝန်ယူမှု တာဝန်ခွဲဝေမှုမျိုး မရှိကြတာ၊ မဖွဲ့စည်းနိုင်သေးတာကို လက်ရှိ ကျောင်းသားသမဂ္ဂ အတော်များများမှာ တွေ့ရပါတယ်။ ၁၉၆၂ နောက်ပိုင်း မြေအောက်လှုပ်ရှားမှုပုံစံတွေနဲ့သာ ကျွမ်းဝင်ခဲ့ရတဲ့ သမဂ္ဂဟာ ခုချိန်ထိ ကြုံတဲ့တက်နဲ့ အဆင်ပြေသလို လှော်နေခြင်းများက ရေရှည်မှာ သမဂ္ဂရဲ့စည်းရုံးရေး၊ လည်ပတ်မှုနဲ့ အချင်းချင်းကြားယုံကြည်နားလည်မှုတွေကို ကျဆင်းစေပြီး ဆင့်ကဲပြဿနာတွေ ဖြေရှင်းရင်းရှေ့မရောက်တဲ့ အဖြစ်တွေကို ကြုံခဲ့ရ၊ ကြုံနေကြရမှာပါ။ လုံခြုံရေးအရ လျှို့ဝှက်သင့်တာမျိုးကလွဲလို့ ဖွဲ့စည်းပုံကျ ဆွေးနွေးတိုင်ပင်တဲ့ အစည်းအဝေးတွေ၊ သဘောတူဆုံးဖြတ်တဲ့ ပုံစံတွေနဲ့ တာဝန်ယူလုပ်ဆောင်မှုတွေဟာ အလုပ်မတိုင်ခင်ရော အလုပ်ပြီးချိန်မှာပါ ရှင်းလင်းကျေလည်နေဖို့ သိပ်အရေးကြီးပါတယ်။ အဖွဲ့အစည်းတွင်း ရှုပ်ထွေးနေမှုတွေကိုပဲ ဖြေရှင်းဖို့ ရုန်းကန်နေရင်းနဲ့ သမဂ္ဂရဲ့ မဖြစ်မနေသွားရမယ့် လုပ်ငန်းစဥ်တွေအတွက် နှောင့်နှေးကြန့်ကြာမှုတွေ ပေါ်ပေါက်လာပြီး ဆင့်ပွားပြဿနာတွေကြောင့် မလိုလားအပ်ပဲ အချိန်တွေ၊ ငွေတွေ၊ တန်ဖိုးရှိလှတဲ့ စွမ်းအင်တွေ ကုန်ဆုံးသွားနိုင်ပါတယ်။ မူလဇာစ်မြစ်အကြောင်းခံဖြစ်တဲ့ အဖွဲ့အစည်းပုံစံကျဖို့ အရေးကို အလျင်အမြန်ဖြေရှင်းနိုင်ရင် အထက်ပါ ပြဿနာတွေ ကင်းဝေးပြီး ပိုအောင်မြင်၊ ခိုင်မာ၊ အားကောင်းတဲ့ သမဂ္ဂကို မြင်ရမှာမလွဲပါဘူး။

## (၃) သမဂ္ဂဝင်အချင်းချင်း ယုံကြည်နားလည်မှု

အဖွဲ့အစည်းပုံပေါ် စနစ်တကျ ဖွဲ့စည်းနိုင်တဲ့ အဆင့်အထိရောက်လာရင် အချင်းချင်းမယုံကြည်တဲ့ ပြဿနာဟာ ရာခိုင်နှုန်းတစ်ခုအထိ ပြေလည်ပြီး သား ဖြစ်မှာပါ။ မူအပေါ် အမှန်တကယ် နားလည်စွဲမြဲပြီး သမဂ္ဂအလုပ်ထဲ ပါဝင်လာတဲ့သူတွေထက် ပုဂ္ဂိုလ်စွဲ ဒါမှမဟုတ် အခွင့်အရေးတစ်ခုလို အသုံးချ ချင်သူတွေ များလာရင်တော့ လုပ်နည်းလုပ်ဟန် အမှားတွေကြားမှာ သမဂ္ဂဝင် အချင်းချင်းကြား မပြေလည်ခြင်းသံသရာ လည်နေပါလိမ့်မယ်။ ဒါကြောင့် ကျောင်းသားသမဂ္ဂ ဘာကြောင့်လိုအပ်တာလဲ၊ ဘယ်လိုမူဝါဒတွေနဲ့ သွားမှာလဲ၊ ဘာနည်းနာတွေ သုံးမှာလဲ ဆိုတာတွေကို ကျောင်းသားထုကြား အထူးသဖြင့် ကျောင်းသားသမဂ္ဂ အဖွဲ့ဝင်တွေကြားမှာ ရှင်းလင်းနားလည်နေဖို့ လိုအပ်ပါ တယ်။ ၂၀၀၇ ဗကသကို စာဖတ်ဝိုင်းက စာဖတ်ဝါသနာပါတဲ့ ကျောင်းသားတွေ စုပေါင်းလျှို့ဝှက်ဖွဲ့စည်းပြီး လှုပ်ရှားမှုတွေ ပြုလုပ်ခဲ့စဉ်က အခုလို ဖုန်း၊ အင်တာနက်ဆက်သွယ်ရေး အားကောင်းခြင်း မရှိခဲ့ပေမယ့် ကျွန်မတို့တွေဟာ ရဲဘော်ရဲဘက်အချင်းချင်း ယုံကြည်မှုကို ရှေ့တန်းတင်ပြီး အဆင်ပြေ ချောမွေ့အောင် ချိတ်ဆက်လုပ်ကိုင် ဆောင်ရွက်နိုင်ကြတာကြောင့် နားလည်မှု လွဲမှားတဲ့ ပြဿနာကြုံရတာမျိုး နည်းပါးပါတယ်။ အချိန်ကာလကလည်း လုံခြုံရေးကျိုးပေါက်တာနဲ့ ဖမ်းဆီးအရေးယူ ခံရမယ်ဆိုတဲ့အသိ ကျွန်မတို့ အားလုံးမှာ ရှိကြချိန်ဖြစ်တာမို့ ကျွန်မတို့တွေက စုဖွဲ့မှုလျှို့ဝှက်စွာ စုစည်း၊ ကျစ်လစ်ကြပါတယ်။ ခုအချိန်ဟာ လုံခြုံရေးအပြည့်အဝ စိတ်မချရသေးပေမဲ့ အတိုင်းအတာတခုအထိ ဖွဲ့စည်းလှုပ်ရှားနိုင်တဲ့ အခြေအနေမျိုးဖြစ်တာကြောင့် သမဂ္ဂဝင်တွေဟာ ယခင်မြေအောက်ကာလကလို ကျစ်လျစ်လို့ မရနိုင်ပါဘူး။ အဖွဲ့အစည်းအတွင်း အလွန်အကျွံ လျှို့ဝှက်လွန်းတာကလည်း မယုံကြည်မှု ပြဿနာကို ကြီးမားစေမှာမို့ အများသဘောတူ ကြိုတင်ရေးဆွဲထားတဲ့ ဖွဲ့စည်းပုံကျ ဖွဲ့စည်းတာဝန်ခွဲဝေမှုမျိုးနဲ့ အတိုင်းအတာတစ်ခုအထိ ရှင်းလင်း မြင်သာစေမှုမျိုးတို့ဟာ အဖွဲ့အစည်းအတွင်း မဖြစ်မနေလိုအပ်ကြောင်း တင်ပြ လိုပါတယ်။

## (၄) ညီညွတ်ရေး

သမဂ္ဂတွေရဲ့ ညီညွတ်ရေးနဲ့ပတ်သက်ပြီး ပြောကြရင် ညီလာခံက အဖြေပဲလို့ အများစုယူဆကြပါတယ်။ ညီလာခံမှာ စည်းမျဉ်းစည်းကမ်းတွေ၊ ရွေးကောက်ပွဲတွေ၊ နောက်တစ်ချိန်ညီလာခံ မကျင်းပမီအထိ လုပ်ငန်းစဉ်တွေကို ဆွေးနွေးချမှတ်တာတွေဟာ ဟိုးအရင်ကတည်းက တည်ရှိခဲ့တဲ့ အစဉ်အလာတွေပါ။ ခုချိန်မှာ အဲ့ဒီအစဉ်အလာကောင်းကို သွားချင်ပါလျက် ခက်ခဲနေဆဲ အခြေအနေတွေ၊ သမဂ္ဂရပ်တည်ရေး၊ ညီညွတ်ရေးပြိုကွဲနေမှု၊ စည်းရုံးရေး ကျဆင်းမှုစတဲ့ ပြဿနာတွေကို ဗကသကအစ အခြားသမဂ္ဂတွေပါ ကြုံနေရပါတယ်။ ညီညွတ်ရေးဆိုတဲ့ နေရာမှာလည်း ညီညွတ်ရင်ပြီးစတမ်း (ကျွန်မတို့ အခေါ် မူမဲ့ညီညွတ်ရေး) မျိုး မဖြစ်ဖို့ လိုပါတယ်။ မူဝါဒမပါပဲ လူပုဂ္ဂိုလ် အပေါ်မှာပဲ အခြေခံတဲ့ ညီညွတ်ရေးဟာ ရေရှည်မှာခိုင်မာဖို့ မလွယ်ပါဘူး။ အဖွဲ့အစည်းပုံစံကျဖို့ လိုအပ်သလိုပဲ မူဝါဒအပေါ်အခြေခံတဲ့၊ စနစ်တကျ ဆွေးနွေးညှိနှိုင်းတဲ့ ညီညွတ်ရေးမျိုးကသာ အောင်မြင်တဲ့ ညီလာခံတစ်ခုကို ခေါ်ဆောင်နိုင်မှာပါ။ နှစ်ပေါင်းများစွာ ညီလာခံနဲ့ ဝေးကွာနေခဲ့ရတဲ့ ကျွန်မတို့ သမဂ္ဂမျိုးဆက်သစ်တွေရဲ့ ညီလာခံဟာ ပြီးပြည့်စုံနိုင်ဖို့တော့ ခက်ပါလိမ့်မယ်။ ဒါပေမဲ့ ကြိုတင်ပြင်ဆင်မှု အားကောင်းကောင်းနဲ့ ကျောင်းသားထုရဲ့ အင်အားကို ပြန်လည်စုစည်းနိုင်ပြီး သမဂ္ဂရဲ့ဝိညာဉ်အပြည့်နဲ့ ညီညွတ်ခြင်း အားမာန်ကို ပြန်လည်ပြသ နိုင်တယ်ဆိုရင်ပဲ သမိုင်းသစ်ကို ဖွင့်လှစ်နိုင်မှာ အသေအချာပါပဲ။

## (၅) မတူညီတဲ့ နိုင်ငံရေးနောက်ခံ ခေတ်အခြေအနေ

၁၉၆၂ ရှေ့ပိုင်း သမဂ္ဂရဲ့ ကျောင်းထဲမှာ တရားဝင်ရပ်တည်နိုင်ခဲ့တဲ့ ရွှေရောင်ခေတ်တွေကလွဲလို့ ဆဲဗင်းဇူလိုင်နောက်ပိုင်း သမဂ္ဂကို နိုင်ငံရေးအရ ကျောင်းတွင်းဖိနှိပ်ခံရမှုတွေ၊ ၁၉၇၄-၇၅-၇၆ ကျောင်းသား လှုပ်ရှားမှုတွေ ရှိပေမဲ့ သမဂ္ဂအမည်မခံနိုင်ခဲ့တဲ့ ကာလတွေ၊ ရှစ်လေးလုံး အရေးတော်ပုံနဲ့အတူ လူထုကြား၊ ကျောင်းသားထုကြားမှာ သမဂ္ဂ ပြန်လည်မွေးဖွားလာခဲ့တဲ့ကာလ၊ သမဂ္ဂတရားဝင်ဖွဲ့စည်းနိုင်ရေးအပြင် နိုင်ငံရေးတောင်းဆိုမှုတွေနဲ့ ပေါ်ပေါက်ခဲ့တဲ့ ၁၉၉၆-၉၈ ကျောင်းသားလှုပ်ရှားမှုကာလ၊ ၂၀၀၃ ဗကသ ပြန်လည်ဖွဲ့စည်းဖို့ ကြိုးစားတဲ့ကာလ၊ ၂၀၀၇ ရွှေဝါရောင်တော်လှန်ရေးကာလ မတိုင်ခင်လေး အချိန်ကိုက် ပြန်လည်ဖွဲ့စည်းခဲ့တဲ့ ဗကသများအဖွဲ့ချုပ်တို့မှာ အများစုဟာ

မြေအောက်လျှို့ဝှက်စုဖွဲ့ လှုပ်ရှားမှုပုံစံဖြစ်ခဲ့ပြီး ၂၀၁၂ ဖွဲ့စည်းပုံကျ ဖွဲ့စည်းခဲ့တဲ့ ဗကသများအဖွဲ့ချုပ်ကစပြီး ယခုတည်ရှိ ဖွဲ့စည်းနေကြတဲ့ ဗကသများအဖွဲ့ချုပ် အပါအဝင် တက္ကသိုလ်သမဂ္ဂများ၊ လူမျိုးစုသမဂ္ဂများ၊ မြို့နယ်/ခရိုင်သမဂ္ဂများ၊ အခြေခံပညာသမဂ္ဂများ စသဖြင့် ပေါ်ပေါက်ဖွဲ့စည်းလာခဲ့ကြတဲ့ သမဂ္ဂတွေ ကတော့ ဖွဲ့စည်းမှုပုံစံ တရားဝင် လူသိရှင်ကြားထုတ်ဖော်ပေမယ့် လှုပ်ရှားမှု နည်းနာနဲ့ ဆက်သွယ်ဆောင်ရွက်မှု ပုံစံတွေကတော့ လျှို့ဝှက်ပုံစံတွေ၊ အဖွဲ့အစည်း ပုံစံမကျမှုတွေနဲ့ ရောထွေးနေပါတယ်။ ဒါဟာ မတည်ငြိမ်တဲ့ နိုင်ငံရေး နောက်ခံ အခြေအနေအပေါ်မှာ မူတည်ပြီး ဖြစ်လာခဲ့ရတာပါ။ အပြည့်အဝယုံကြည်ဖို့ ခက်ခဲနေဆဲ နိုင်ငံရေးအခြေအနေဟာ ကျောင်းသား သမဂ္ဂလို နိုင်ငံရေးတက်ကြွတဲ့ အဖွဲ့အစည်းတွေအပေါ် အကျိုးသက်ရောက်မှု ကြီးမားပါတယ်။ ဒီလို စပ်ကူးမတ်ကူးကြားကာလမျိုးဟာ သမဂ္ဂတွေအတွက် အခွင့်အလမ်းတစ်ခုဖြစ်လာနိုင်သလို အချိန်မရွေး ဒုက္ခပေးနိုင်တဲ့ အန္တရာယ် အဖြစ်လည်း ရှိနေပါတယ်။ ယခင် စစ်အာဏာရှင်အစိုးရကာလမှာ ကျွန်မတို့ ကျောင်းသားသမဂ္ဂတွေ ဖွဲ့စည်းတာနဲ့ လှုပ်ရှားမှု ပြုလုပ်သည်ဖြစ်စေ၊ မလုပ်ဘူး ဖြစ်စေ ဖမ်းဆီးထိန်းသိမ်း ခံကြရတာကြောင့် လျှို့ဝှက်ဖွဲ့စည်း၊ လှုပ်ရှားတဲ့ ပုံစံဟာ ကျွန်မတို့အတွက် အထူးသင့်တော်ခဲ့ပါတယ်။ ၂၀၁၂ ဇန်နဝါရီမှာ ကျွန်မ တို့ ၂၀၀၇-၂၀၀၈ ဗကသတွေအပြင် ၂၀၀၃ ဗကသတွေနဲ့ ပူးပေါင်းပြီး ဗကသ များအဖွဲ့ချုပ် ဗဟိုစည်းရုံးရေးကော်မတီကို တရားဝင်ဖွဲ့စည်းပုံ တာဝန်ခွဲဝေမှု နဲ့အတူ ထုတ်ပြန်ဖွဲ့စည်းခဲ့ပါတယ်။ အဲဒီ့စပ်ကြားအစိုးရ (ကျွန်မတို့အခေါ် စစ်တစ်ပိုင်းအစိုးရ) ကာလမှာတော့ ခြိမ်းခြောက်၊ တားဆီးမှုတွေဟာ ပုံစံ အမျိုးမျိုးနဲ့ ရှိပေမဲ့ ဖွဲ့စည်းရုံနဲ့ ဖမ်းဆီးတာမျိုး မရှိခဲ့ပါဘူး။ ကျွန်မတို့ရဲ့ လှုပ်ရှားမှုတွေကို နည်းမျိုးစုံနဲ့ ဟန့်တားနှောင့်ယှက်ဖို့ ကြိုးစားခဲ့တာကတော့ ဆဲဗင်းဇူလိုင် နှစ်ငါးဆယ်ပြည့် အခမ်းအနားမတိုင်ခင် တစ်နိုင်ငံလုံးအနှံ့ သမဂ္ဂ ကျောင်းသား အနည်းဆုံး တစ်ဒါဇင်ခန့်ကို (၂၄) နာရီ ထိန်းသိမ်းခဲ့တာရယ်၊ ၂၀၁၄-၁၅ ပညာရေးဥပဒေ သပိတ်မှောက်သမဂ္ဂကျောင်းသားနဲ့ ဝန်းရံသူများ ရာနဲ့ချီကို ထောင်သွင်းအကျဉ်းချခဲ့တာတွေကို တွေ့ရပါတယ်။ ဒီလို အခြေအနေတွေကြောင့်လည်း သမဂ္ဂကို ဖွင့်ထုတ်ဖွဲ့စည်းကြပေမယ့် အချို့ အပိုင်းတွေကိုတော့ လုံခြုံရေးစည်းမပေါက်ရလေအောင် မဆုံးရှုံးသင့်ပဲ ဆုံးရှုံးရ တာမျိုး မဖြစ်ရလေအောင် ဆက်ပြီးလျှို့ဝှက်ကြရပါတယ်။ ယခု NLD အစိုးရ လက်ထက်ဖြစ်သော်လည်း ၂၀၀၈ ဖွဲ့စည်းပုံကို မကျော်လွှားနိုင်သေးတဲ့

အခြေအနေမှာ သမဂ္ဂတွေဟာ ပြည်ထဲရေးရဲ့ နံပါတ် (၁) ရန်သူအဖြစ် ဆက်ရှိနေသေးတယ်ဆိုတာ မကွေးတိုင်းဒေသကြီးလွှတ်တော်မှာ နယ်လုံဝန်ကြီးက ကျောင်းသားသမဂ္ဂတွေရဲ့လှုပ်ရှားမှုကို အခြားရာဇဝတ်မှုတွေနည်းတူ အစီရင်ခံစာတင်သွင်းခဲ့တာကို ကြည့်ခြင်းအားဖြင့် သိနိုင်ပါတယ်။ နိုင်ငံရေးတစ်စုံတစ်ရာ ပွင့်လင်းလာပြီလို့ အများစုယုံကြည်ကြတဲ့၊ နိုင်ငံရေးနိုးကြားမှု လှုပ်ရှားမှုတွေ ပြန်လည်များပြားလာတဲ့ ဒီနေ့အခြေအနေမှာ ကျောင်းသားသမဂ္ဂတွေရဲ့ ဖွဲ့စည်း လုပ်ကိုင်ဆောင်ရွက်ခြင်းတွေဟာ စည်းရုံးရေးသဘောတရားအရ ယခင်ထက် ပိုကျယ်ပြန့်စွာ ကျောင်းသားထုကြားနဲ့ ပြည်သူကြားကို ထိုးဖောက်နိုင်ဖို့ လိုအပ်လာပါတယ်။ အလုံးစုံ စိတ်ချလို့မရတဲ့ အခြေအနေမှာ လုံခြုံရေးသတိကလည်း မေ့ဖျောက်ထားလို့ မရပါဘူး။ စပ်ကူးမတ်ကူး အချိန်အခါမို့ ဖြစ်ပေါ်နေတဲ့ နိုင်ငံရေးအကူးအပြောင်းတွေကို မျက်ခြည်မပြတ်သုံးသပ်လိုက်ပါရင်း မူရင်းသမဂ္ဂရဲ့ သမိုင်းပေးတာဝန်တွေကိုလည်း ဆက်လက်ထမ်းဆောင်သွားကြရမှာပါ။

## (၆) ပြည်သူအကြား သမဂ္ဂ၏ ရေပန်းစားမှု

စစ်အာဏာရှင်ခေတ်တစ်လျှောက်လုံး ရည်ရွယ်ချက်ရှိရှိ သမိုင်းဖျောက်ခဲ့တဲ့ ရလဒ်က အစဉ်အလာကြီးမားခဲ့တဲ့ သမဂ္ဂကို လွှတ်တော်တွင်း အမျိုးသားပညာရေးဥပဒေကို ပြင်ဆင်တဲ့ ဥပဒေမှာ သမဂ္ဂကိုယ်စားလှယ်ဆိုတဲ့ စကားလုံးအစား ကျောင်းသားကိုယ်စားလှယ်အဖြစ် ပြောင်းလဲခဲ့ပြီး သာရေးနာရေးကျောင်းသားအဖွဲ့အစည်းတွေထဲက တစ်ခုအဖြစ် သတ်မှတ်ခံခဲ့ရတာ ဖြစ်ပါတယ်။ ကျောင်းသားထုတွင်းရော ပြင်ပမှာပါ ဗကသဆိုတာ နိုင်ငံရေးလှုပ်ရှားတဲ့ သာမန်ကျောင်းသားအဖွဲ့အစည်းတစ်ခု အဖြစ်သာ မြင်နေကြတာကိုလည်း ဝမ်းနည်းစရာ တွေ့မြင်နေရပါတယ်။ အလုပ်သမား၊ လယ်သမား၊ ပြည်သူတွေရဲ့ အခွင့်အရေးဆိုင်ရာတိုက်ပွဲတွေမှာ ပြည်သူတွေဖက်က ရပ်တည်ပြီး ပါဝင်ကူညီခဲ့ကြတာ၊ ၂၀၁၄-၁၅ ပညာရေးသပိတ်လို ကျောင်းသားအခွင့်အရေးတိုက်ပွဲကို ဦးဆောင်နိုင်ခဲ့တာတွေက ကျောင်းသားသမဂ္ဂအပေါ် ပြည်သူလူထုအကြား စိတ်ဝင်စားမှုပိုပြီး မြင့်တက်လာခဲ့ပါတယ်။ ၂၀၁၅ အစိုးရသစ်တက်ပြီးနောက်ပိုင်း သမဂ္ဂအပေါ် အဆိုးမြင်ဝါဒ ဖြန့်ချိခံရမှုတွေ၊ သမဂ္ဂကိုယ်တိုင်က မဖြေရှင်းနိုင်တဲ့ ပြဿနာတွေနဲ့ လုံးထွေးရင်း လုပ်ငန်းစဉ်တွေ အကောင်အထည် မဖော်နိုင်တာတွေ၊ အဖွဲ့အစည်းတွင်း ပြဿနာတွေနဲ့

အကွဲအပြဲ သတင်းတွေကြောင့် ပြည်သူရဲ့စိတ်ဝင်စားမှုလျော့ကျပြီး မေ့လျော့ခံ အဖွဲ့အစည်းတစ်ခုအဖြစ် တည်ရှိနေခဲ့ပါတယ်။ တစ်ချိန်က သမိုင်းကြီးခဲ့တဲ့ သမဂ္ဂဟာ ဗကသ မူ (၅) ချက်နဲ့အညီ ပြည်သူလူထုအကြား ဂုဏ်သတင်း ကောင်းတွေနဲ့ ပြန်လည်ထွက်ပေါ်နိုင်ဖို့ ပြည်သူလူထုနဲ့ နီးကပ်နေဖို့ လိုအပ် သလို တစ်ချိန်တည်းမှာပဲ အခြေခံအင်အားဖြစ်တဲ့ ကျောင်းသားထုနဲ့လည်း လုံးဝကင်းကွာလို့ မရပါဘူး။ ကျောင်းသားထုနဲ့ ကင်းကွာခဲ့ရင် ကျောင်းသား သမဂ္ဂ မဟုတ်တော့တာကိုလည်း သတိချပ်စေလိုပါတယ်။

## (၇) သမဂ္ဂ၏ တရားဝင်ရပ်တည်နိုင်မှု

၁၉၆၂ နောက်ပိုင်း ကျောင်းသားသမဂ္ဂတွေဖွဲ့စည်း လှုပ်ရှားမှုမျိုးတွေကို နိုင်ငံရေးပြစ်မှုအဖြစ် ဖမ်းဆီးအရေးယူခဲ့တာဟာ ၂၀၁၇ ဗကသများအဖွဲ့ချုပ် အထိ ဖြစ်ပါတယ်။ ၂၀၁၂ ကစပြီး သမဂ္ဂဖွဲ့လို့ ဖမ်းဆီးတာမျိုး မရှိတော့ပေမယ့် ကျောင်းတွင်းအာဏာပိုင်၊ အစိုးရအုပ်ချုပ်ရေး (ပြည်ထဲရေးလက်အောက်မှ ထောက်လှမ်းရေးကဲ့သို့) အဖွဲ့အစည်းတွေက နည်းမျိုးစုံနဲ့ ခြိမ်းခြောက်၊ စစ်ဆေးသတင်းယူထောက်လှမ်း၊ နှောင့်ယှက်တာမျိုးတွေက ယနေ့အထိ ရှိနေ ဆဲပါ။ ဒါကြောင့် အမျိုးသား ပညာရေးဥပဒေမှာ ကျောင်းသားသမဂ္ဂရဲ့ အခန်းကဏ္ဍကို အာမခံချက်ပေးဖို့ ဒီမိုကရေစီပညာရေး သပိတ်မှောက် သမဂ္ဂ ကျောင်းသားတွေက တောင်းဆိုခဲ့ကြပါတယ်။ ပြင်ဆင်တဲ့ ဥပဒေမှာတော့ ကျောင်းသားသမဂ္ဂဖွဲ့စည်းခွင့်ကို တက္ကသိုလ်ပဋိညာဉ်အောက်မှာ ပြဋ္ဌာန်းဖို့ ရေးခဲ့ပေမယ့် တက္ကသိုလ်အက်ဥပဒေတွေကို ပွင့်လင်းမှုကင်းမဲ့စွာ လျှို့ဝှက် ရေးဆွဲနေခဲ့တာက ရှိရင်းစွဲသမဂ္ဂတွေအပေါ် အသိအမှတ်ပြုမှု ကင်းမဲ့နေသလို တင်းကျပ်ချုပ်ချယ်တဲ့ သမဂ္ဂဆိုင်ရာ စည်းမျဉ်းစည်းကမ်းတွေသာ ထွက်ပေါ် လာနိုင်ခြေ အပြည့်ရှိပါတယ်။ အရေးကြီးတဲ့ အချက်ကတော့ မိခင်ဥပဒေမှာ အာမခံချက်မပေးခဲ့ခြင်းဟာ အကြောက်တရားကြီးစိုးတဲ့ အုပ်ချုပ်သူ ကျောင်းအာဏာပိုင်တွေက သမဂ္ဂကို အပြည့်အဝ ချုပ်ကိုင်ခွင့်ပေးလိုက်သလို ဖြစ်နေပါတယ်။ လက်ရှိအချိန်မှာတော့ ဖွဲ့စည်းပြီးကျောင်းသားသမဂ္ဂတွေဟာ အခြားကျောင်းသားအဖွဲ့အစည်းတွေနဲ့အတူ တရားဝင်ခွင့်ပြုထားခြင်း မရှိပေမဲ့ ရပ်တည်နေကြပါတယ်။ ဥပဒေအာမခံချက်မရှိတဲ့ လက်ရှိသမဂ္ဂတွေဟာ သူတို့ရဲ့ ကျောင်းတွင်းတည်ရှိမှု၊ စည်းရုံးရေးနဲ့ လှုပ်ရှားမှုတွေကို သူတို့ ကျောင်း အာဏာပိုင်တွေ နှုတ်အားဖြင့်ခွင့်ပြုတဲ့ ကျဉ်းမြောင်းတဲ့ ဘောင်အတွင်းမှာ

ပြုလုပ်ပြီး ဒါမှမဟုတ် အခြေအတင် အတိုက်အခံဖြစ်ပြီး ကျောင်းတွင်း တိုက်ပွဲတွေ ပြုလုပ်ပြီးနဲ့သာ ရင်ဆိုင်နေရပါတယ်။ သမဂ္ဂအတွက် ကြီးမားတဲ့ အနှောင့်အယှက် နောက်တစ်ခုက ကျောင်းသားသမဂ္ဂနေရာမှာ အစားထိုးဖို့ အတွက် ဖန်တီးထားတဲ့ ကျောင်းအာဏာပိုင်များက ဖွဲ့စည်းပေးတဲ့ ကျောင်းသားယူနီယံလို proxy ကျောင်းသား အဖွဲ့အစည်းတွေ ပေါ်ပေါက် လာခဲ့တာပါ။ သန္ဓေမမှန်တဲ့ အဖွဲ့အစည်းတွေဟာ ရေရှည်မခံခဲ့ပေမဲ့ ကျောင်းသားထုကို သွေးခွဲဖို့နဲ့ သမဂ္ဂရဲ့ သမိုင်းနဲ့ အစဥ်အလာကို ဖျောက်ဖျက်ဖို့ ရည်ရွယ်ရင်းဖြစ်တဲ့အတွက် သတိကြီးကြီးထားရမယ့် အခြေအနေတော့ ရှိပါတယ်။

## (၈) အာဏာပိုင်အဖွဲ့အစည်းများ၏ သမဂ္ဂအပေါ်သဘောထားအမြင်များ

စစ်အစိုးရအဆက်ဆက် သမဂ္ဂအပေါ် ရန်သူလို သဘောထားခဲ့တဲ့ အခြေအနေ ဟာ နှစ်ပေါင်းများစွာကြာခဲ့တဲ့ အစိုးရယန္တရားထဲမှာ အရိုးစွဲ နေခဲ့ပါတယ်။ လက်ရှိအချိန်ထိ သမဂ္ဂကျောင်းသားတွေကို ပုန်ကန်သူတွေ၊ အန္တရာယ်ကောင် တွေအဖြစ် ပုံဖော်ကြောက်ရွံ့နေကြတာ၊ သမဂ္ဂခေါင်းဆောင်တွေနဲ့ သမဂ္ဂတွေရဲ့ လှုပ်ရှားမှုတွေကို ရာဇဝတ်ဂိုဏ်းတွေအလား အချိန်ပြည့် စောင့်ကြည့်ပုံဖော်နေ ကြတာကို ကြည့်ခြင်းအားဖြင့် အာဏာပိုင်တွေဟာ ဥပဒေက အကာအကွယ် မပေးနိုင်သေးတဲ့ သမဂ္ဂအပေါ် အချိန်မရွေးအန္တရာယ်ပြုနိုင်တဲ့ အခြေအနေ တွေကို ဖော်ပြနေပါတယ်။ NLD အစိုးရကလည်း ၂၀၀၈ ဖွဲ့စည်းပုံအောက်မှာ ပိတ်မိနေတဲ့အတွက် ပြည်ထဲရေးရဲ့ အန္တရာယ်ပြုခြင်းခံရတဲ့ သမဂ္ဂတွေကို ကူညီနိုင်ဖို့ အခြေအနေ မရှိတဲ့အပြင် သမဂ္ဂရဲ့အခန်းကဏ္ဍကိုပါ ဥပဒေအရ အာမခံချက်ပေးဖို့ကို လျစ်လျူရှုခဲ့ရပါတယ်။ ဒါကြောင့် အကြောက်တရား ဖုံးလွှမ်းပြီး နိုင်ငံရေးအသိအားနည်းတဲ့ အောက်ခြေအုပ်ချုပ်ရေး ဗျူရိုကရက် တွေနဲ့ သမဂ္ဂအကြား ကြီးမားတဲ့ ပဋိပက္ခတွေ ဖြစ်ပေါ်နေပြီး (ကျောင်းအာဏာ ပိုင်တွေ၊ ရပ်ရွာအုပ်ချုပ်ရေးမှူးတွေ၊ ရဲထောက်လှမ်းရေး စသဖြင့်) ပြည်ထဲရေး က သမဂ္ဂအပေါ်မှာ ဥပဒေကို အသုံးချ ဖိနှိပ်ခံရမှုတွေကို ဆက်တိုက်ကျူးလွန် နေခဲ့ပါတယ်။

ကျွန်မရဲ့ တင်ပြဆွေးနွေးချက်များဟာ ကျွန်မတစ်ဦးတည်း သဘောထား အမြင်များဖြစ်လို့ လိုအပ်ချက်တွေ အများကြီးရှိတဲ့အပြင် ဘယ်လိုကျော်လွှား နိုင်မလဲဆိုတဲ့ အဖြေထုတ်ဖော်တင်ပြထားမှု မရှိသလောက်ပါပဲ။ လတ်တလော

ကြုံတွေ့နေကြရတဲ့ အခက်အခဲတွေအပြင် အနာဂတ်မှာ ကြုံလာမယ့် စိန်ခေါ်မှုတွေကို တကယ်ရင်ဆိုင်ရမယ့် ကျွန်မတို့ရဲ့ မျိုးဆက်သစ်တွေ ကိုယ်တိုင်ဆုံးဖြတ်ဖြေရှင်းမှသာ လက်တွေ့နဲ့ နီးစပ်တဲ့ အဖြေကို ရှာဖွေနိုင်လိမ့်မယ်လို့ မြင်ပါတယ်။ ဖြေရှင်းနည်း မှန်တယ်၊ မှားတယ်ဆိုတာ သမိုင်းက ဆုံးဖြတ်ပါလိမ့်မယ်။ ဒါကြောင့် တက်ကြွလန်းဆန်းမှုအပြည့်နဲ့ ကျွန်မတို့ယုံကြည်တဲ့၊ ဖြူစင်ရဲရင့်တဲ့ မျိုးဆက်သစ်တွေရဲ့ ရှေ့ခြေလှမ်းတွေကို ကြိုဆိုလျက်ပါ။ ရှေ့မျိုးဆက်တွေကလည်း ကျွန်မတို့ကို ယုံကြည်ခဲ့တာကြောင့်သာ ကျွန်မတို့ ရှေ့ဆက်နိုင်ခဲ့တာဖြစ်သလို မျိုးဆက်သစ်တွေရဲ့ လက်ထဲမှာ အနာဂတ်က ရှိနေတဲ့အတွက် အကောင်းဆုံး ရင်ဆိုင်ဖြေရှင်းဖို့ကသာ အရေးကြီးကြောင်း တိုက်တွန်းချင်ပါတယ်။

## အင်းစိန်အကျဉ်းထောင်ရောက် စိုင်းကျော်ညွန့်

၁၉၉၈ ခုနှစ်၊ နိုဝင်ဘာလ ၃ ရက်နေ့ (တန်ဆောင်မုန်းလပြည့်နေ့) ညနေခင်းတွင် ထောက်လှမ်းရေးများက ကျွန်တော်နေထိုင်ရာ အဆောင် (အမှတ် ၁၃၊ ဇေယျာသီရိလမ်း၊ လှည်းတန်း၊ ကမာရွတ်၊ ရန်ကုန်) သို့ လာရောက်ကာ "ညီလေးရေ မေးစရာရှိလို့ အစ်ကိုတို့နဲ့ ခဏလိုက်ခဲ့ပါ" ဟုပြောဆိုရာ ကျွန်တော်သည်လည်း မည်သည့်မှားယွင်းမှုကိုမျှ ပြုလုပ်ထားခြင်းမရှိဟူ၍ မိမိကိုယ်ကို ယုံကြည်သည့်အလျောက် ထွက်ပြေးငြင်းဆန်ခြင်းမရှိပဲ ရဲရဲဝံ့ဝံ့ သူတို့နောက် လိုက်ခဲ့ပေသည်။ လှည်းတန်းလမ်းဆုံရှိ ရဲစခန်းသို့ရောက်ရာ အမည်၊ ကိုယ်ရေးအကျဉ်းကို မေးပြီး တာဝန်အရဟုဆိုကာ လည်ပင်းအထိ ခေါင်းစွပ်စွပ်ပြီး ကျွန်တော်အား ကားဖြင့် တင်ခေါ်ကာ တစ်နေရာသို့ ခေါ်ဆောင်သွားတော့သည်။ ခေါင်းစွပ်ထားသဖြင့် မည်သည့်နေရာဒေသသို့ ခေါ်ဆောင်သွားသည် ဆိုသည်ကို ခန့်မှန်းရန် မလွယ်ကူပေ။

အဆုံးတွင် ကားပေါ်မှဆင်းကာ လမ်းအနည်းငယ် လျှောက်ရသည်။ အချို့နေရာတွင် ခေါင်းငုံခိုင်းသည်။ ထို့နောက် ကျွန်တော်အား ထိုင်ခုံတစ်ခုံတွင် ထိုင်ခိုင်းသည်။ ခေါင်းစွပ်ကိုကား ဖယ်ရှားပေးခြင်း မရှိသေးပဲ စွပ်မြဲစွပ်ထားသည်။ ကြည့်ရသည်မှာ အိမ်တစ်အိမ်ထဲ ရောက်သွားပုံပေါ်သည်။ ကျွန်တော်ထိုင်ရသော ထိုင်ခုံ၏ ခြေထောက်များသည် ညီညာခြင်းမရှိပဲ ကိုယ်ကိုယိမ်းလိုက်လျှင် ထိုင်ခုံအနည်းငယ် စောင်းသွားသဖြင့် သတိထားကာ ထိုင်ရသည်။ သိပ်မကြာလိုက် လူတစ်ဦးရောက်လာပြီး ကိုယ်ရေးရာဇဝင်မေးသည်။ ကျွန်တော် ကျောင်းသားများ ဆန္ဒပြပွဲတွင် မည်သို့ပါဝင်ခဲ့သည်။ အဘယ်ကြောင့် ပါဝင်ခဲ့ရသည်။ စသည်ဖြင့် မေးခွန်းပေါင်းမြောက်မြားစွာကို မေးမြန်းသည်။ လေသံအေးအေးဖြင့် မိတ်ဆွေတစ်ယောက်အား မေးသကဲ့သို့ မေးမြန်းခြင်းဖြစ်သည်။ ထို့နောက် ခဏအသံတိတ်သွားသည်။ ထိုပုဂ္ဂိုလ် ပြန်သွားပုံပေါက်သည်။ သိပ်မကြာလိုက် ငှက်ဆိုးထိုးသံကဲ့သို့သော အသံနှင့်အတူ ကျွန်တော်အား ဆဲရေးတိုင်းထွာခြင်းရော ရိုက်နှက်ခြင်း အပါအဝင် ဇာတ်ကြမ်းခင်းမည့်သူ ဝင်လာတော့သည်။

"ရှမ်းကြီးဆိုတာ မင်းလားကွ" စကားတစ်ခွန်းမှ မဖြေကြားနိုင်သေးခင်ပင် "ဖုန်း၊ တိုင်း၊ ခွပ်" စကာ ပွဲကြမ်းပါတော့သည်။ စစ်ဆေးမေးမြန်းလိုက်၊ နှိပ်စက်လိုက်ဖြင့် လုပ်ချင်သလို လုပ်တော့သည်။ ဖြေလည်း ရိုက်သည်။

ဘာမှမပြောလည်း ရိုက်သည်။ လုပ်ချင်ရာ လုပ်ပြီး ထွက်သွားသည်။ ထို့နောက် လေပြေလေးဖြင့် စစ်ဆေးသူ ရောက်လာပြန်သည်။ ၎င်းနောက် ကြမ်းကြမ်း ကိုင်တွယ်သူ ရောက်လာပြန်သည်။ ဘယ်နှစ်ကြိမ်မှန်း မမှတ်မိတော့ပါ။ အကြောင်းအရာ တစ်ခုတည်းကိုလည်း အကြိမ်ပေါင်းမည်မျှ ဖြေဆိုခဲ့ရသည် ဆိုသည်ကို မမှတ်မိနိုင်တော့ပါ။ နှိပ်စက်နည်းများသည်လည်း စုံလင်လှပေ သည်။ ထမင်းကျွေးသည့်အခါတွင်တော့ ကိုယ့်ဘာသာ ခေါင်းစွပ်ချွတ်ခိုင်း သည်။ ခေါင်းစွပ်ချွတ်ချိန်တွင် မြင်ကွင်း၌ မည်သူမျှမရှိ။ ပတ်ဝန်းကျင်ကို ထမင်းသွက်သွက်စားရင်း စူးစမ်းကြည့်ရာ မြေစိုက်ဘန်ဂလို၏ ရှေ့ခန်းတွင် ရောက်ရှိနေသည်ကို သိရှိရသည်။ (နောင်တွင် သိရှိရသည်မှာ အင်းစိန် ထောင်မကြီးနှင့် တွဲလျက်ရှိသည် အင်းစိန်အထူးထောင်ရှိ အထူးအကျဉ်းသား များကို ထားရှိသည့်နေရာဖြစ်မှန်း သိခဲ့ရသည်။) ဤသို့လျှင် မေးမြန်းလိုက်၊ ခြိမ်းခြောက်လိုက်၊ ရိုက်နှက်လိုက်ဖြင့် (၃) ရက် မြောက်သော ညတွင် ကျွန်တော့်အား ခေါ်ဆောင်သွားပြန်သည်။ ရင်ထဲ၌ကား စိုးရိမ်မှုအပြည့်။ ယခု ထက်ဆိုးသော မည့်သည့်နေရာကို ပို့ပြန်ဦးမည်နည်း။

ကျွန်တော့်အား အခန်းတစ်ခုထဲသို့ ပို့လိုက်ကြသည်။ ခေါင်းစွပ်ကို ချွတ်ပေးသည်။ ကျွန်တော်မြင်ရသည်မှာ အိပ်ရန် သစ်သားကွပ်ပျစ်၊ ဂန်ဖလား တစ်ခု၊ အခန်းဝင်ပေါက် သံတိုင်တံခါးရှေ့တွင် ရေအိုးတစ်လုံး။ စစ်ဆေး မေးမြန်းသူမရှိသည့်အတွက် ကွပ်ပျစ်ပေါ်တွင် လှဲချလိုက်သည်။ ကျွန်တော် စီးသော Walker ဖိနပ်ကိုချွတ်၍ ခေါင်းခုကာအိပ်သည်။ (၃) ရက် လုံးလုံး အိပ်စက်ရသေးခြင်း မရှိသောကြောင့် လက်ရှိဒုက္ခကို ခေတ္တမေ့ကာ နှစ်ခြိုက်စွာ အိပ်စက်လိုက်ပေသည်။

နောက်ရက်တွင် ဘေးအခန်းမှစကားသံ၊ အချင်းချင်းမိတ်ဆက်သံများကို စတင်ကြားရသည်။ အကန့်သတ်ခံရသော လူနေဘဝသို့ စတင်ရောက်ရှိခဲ့ သည်။ ရန်ကုန်စက်မှုတက္ကသိုလ် (YIT) မှ သူငယ်ချင်းများ၊ အင်းစိန် GTI မှ သူငယ်ချင်းသစ်များနှင့် စတင်ရင်းနှီးခဲ့ရသည်။ တစ်ပတ်ခန့်အကြာတွင် ဖမ်းဆီး ထားသော ကျောင်းသားများကို နှစ်အုပ်စု ခွဲလိုက်သည်။ ကျွန်တော်အပါအဝင် ရန်ကုန်စက်မှုတက္ကသိုလ် ကျောင်းသား (၅) ဦးနှင့် အင်းစိန် GTI ကျောင်းသား (၈) ဦးတို့ကို ချန်လှပ်ကာ ကျန်ကျောင်းသားများကို နေအိမ်သို့ ပြန်ခွင့် ပြုလိုက်သည်။ ၎င်းတို့နှင့် ကျွန်တော်တို့နေရသော ထောင်အခန်းများသည် ကျောချင်းကပ်ထားသဖြင့် မှတ်မှတ်ရရ သူတို့အိမ်ပြန်ခါနီးတွင် နံရံကို

အဆက်မပြတ်ထုကာ အသိပေးခဲ့ကြသည်။ ၎င်းတို့ပြန်ပြီး နောက်ရက်တွင် YIT နှင့် GTI ကျောင်းသား (၁၃) ဦးကို အင်းစိန်ထောင်မကြီးသို့ ရွှေ့ပြောင်း လိုက်ကြသည်။

ထုံးစံအတိုင်း အပြာရောင်ခေါင်းစွပ်ကို စွပ်ကာပြောင်းရွှေ့ခြင်း ဖြစ်သည်။ ထောင်မကြီးသို့ဝင် တိုက်အမှတ် (၂) (ထောင်အခေါ် ရင်ကွဲတိုက်) သို့ရောက်ရာ ကျွန်တော့်ကို ခေါင်းစွပ်ထားသော်လည်း ရင်းနှီးသည့် အသံဖြင့် "ရှမ်းကြီး ရှမ်းကြီး" ဟု ကြိုဆိုကာ အော်ဟစ်နှုတ်ဆက်သံကို ကြားရသည်။ (နောင်တွင် သိရသည်ကား အနီးသူငယ်ချင်းသည် ကျွန်တော်ပါလာသောကြောင့် အားတက်ကာ ဝမ်းမြောက်ခဲ့သည်ဟု ပြန်ပြောင်းပြောပြပါသည်။ ထူးခြားဆန်းကြယ်သော စိတ်ခံစားမှုတစ်ခုဟု ဆိုရပေမည်။)

၁၉၉၉ ခုနှစ်၊ ဇန်နဝါရီလ (၁၅) ရက်နေ့တွင် ကျွန်တော်အပါအဝင် YIT နှင့် GTI ကျောင်းသား (၁၃) ဦးတို့အား အရေးပေါ်စီမံမှုအက်ဥပဒေ၊ ပုဒ်မ ၅/ည ဖြင့် ထောင်ဒဏ် (၇) နှစ်စီ ချမှတ်လိုက်သည်။ အပြင်တရားရုံးတွင် မဟုတ်။ ထောင်အနီးတွင် အထူးခုံရုံးသဘောဖွဲ့ကာ ခုခံချေပပိုင်ခွင့် မရရှိပဲ ထောင်ဒဏ်ချမှတ်လိုက်ခြင်း ဖြစ်သည်။ ထူးခြားသည်မှာ ကျောင်းသားများသည် မည်သူကမျှ ပြစ်ဒဏ်ကို စိတ်မဝင်စား။ တရားသူကြီးပြောနေသည်များကိုလည်း ဂရုမစိုက်၊ အချင်းချင်း စကားပြောနေကြခြင်း ဖြစ်သည်။ အင်းစိန်ထောင်မကြီးတွင် (၆) လခန့် နေရပြီးနောက် ကျောင်းသားများနှင့် အခြားနိုင်ငံရေးအကျဉ်းသားများကို မြို့အသီးသီးသို့ ထောင်ပြောင်းလိုက်ကြသည်။ ထောင်ပြောင်းမည့်သူများကို စစ်ခွေးတိုက်သို့ ခေါ်သွားကာ သံခြေကျင်းများ ခတ်လိုက်ကြသည်။ ပြီးလျှင် ရန်ကုန်ဘူတာကြီးသို့ ပို့ဆောင်ကြသည်။ ရန်ကုန်မှ မန္တလေးသို့ ဆန်တက်မည့် ရထားပေါ်သို့ ထောင်ပြောင်းများအား အထူးရထားတွဲဖြင့် ပို့ဆောင်သည်။ ၎င်းနေ့ရက်သည်ကား ၁၉၉၉ ခုနှစ်၊ ဧပြီလ (၆) ရက်နေ့ဖြစ်သည်။

## မန္တလေးရောက် ရှမ်းတစ်ယောက် (အိုးဘိုထောင်)

၁၉၉၉ ခုနှစ်၊ ဧပြီလ (၇) ရက်တွင် မန္တလေး အိုးဘိုအကျဉ်းထောင်သို့ ရောက်သည်။ ကျွန်တော်နှင့် ကျောင်းသားတချို့၊ နိုင်ငံရေးအကျဉ်းသားတချို့ မန္တလေးအိုးဘိုတွင် ဂိတ်ဆုံးသော်လည်း နောက်နေ့တွင် အခြားသူများကို နယ်ထောင်အသီးသီးသို့ ဆက်လက်ပို့ဆောင်လိုက်ကြသည်။ အိုးဘိုထောင်

တွင် အဖွဲ့အစည်းအသီးသီးမှ နိုင်ငံရေးအကျဉ်းသားများကို တွေ့ဆုံရသည်။ အိုးဘိုရောက်ခါစတွင် ထောင်တွင်းလွတ်လပ်မှု အနည်းငယ်သာရှိသော်လည်း နိုင်ငံတကာကြက်ခြေနီ ICRC အကျဉ်းထောင်အတွင်း ဝင်ရောက်လေ့လာမှု ရရှိပြီး နောက်ပိုင်းနှင့် ထောင်တွင်းတိုက်ပွဲများ ဆင်နွှဲပြီးနောက်ပိုင်း ထောင်တွင်းလွတ်လပ်မှု အတော်အတန် ရရှိခဲ့သည်။ ပိုက်ကျော်ခြင်းလုံးခတ်ခြင်း၊ တိုက်တစ်တိုက်နှင့်တစ်တိုက် ကူးလူးဆက်ဆံခြင်း၊ ယဉ်ကျေးမှုစာပေနှင့် ဘာသာရေးစာပေများ ဖတ်ခွင့်ပြုခြင်း စသည်တို့ဖြစ်သည်။ အိုးဘိုထောင်တွင် ကျောင်းသားအင်အားစုများ၊ မြန်မာနိုင်ငံလုံးဆိုင်ရာ ကျောင်းသားများ ဒီမိုကရက်တစ်တပ်ဦး (ABSDF) မြောက်ပိုင်း ကျောင်းသားတပ်သားများ (ပါဂျောင် အရေးအခင်း ကြုံတွေ့ခဲ့ရသူများ)၊ အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ် (NLD) အဖွဲ့ဝင်များ၊ ၁၉၉၀ ခုနှစ် အထွေထွေရွေးကောက်ပွဲတွင် အနိုင်ရရှိခဲ့သော်လည်း လွှတ်တော်အမတ် မဖြစ်ခဲ့ရသည့် လွှတ်တော်အမတ်များ၊ ဗမာပြည်ကွန်မြူနစ်ပါတီဝင်များ စသည်ဖြင့် အရောင်အသွေးစုံလင်လှသည်။

ထောင်တွင်းတွင် ဂီတသင်ကြားသောအုပ်စု၊ တရုတ်စာ သင်ကြားသောအုပ်စု၊ အင်္ဂလိပ်စာသင်ကြားသောအုပ်စု စသည်ဖြင့် ပုံစံမျိုးစုံဖြင့် ထောင်တွင်းဘဝကို ဖြတ်သန်းကြသည်။ အချို့က နိုင်ငံရေးသဘောတရားများကို ရှင်းပြနိုင်သော ဆရာကြီးများထံမှ နိုင်ငံရေးအတွေ့အကြုံများ သင်ယူကြသည်။ ထောင်တွင်းတိုက်ပွဲများလည်း အကြိမ်ကြိမ်ဖြစ်ပွားခဲ့သည်။ ထောင်တွင်းဖိနှိပ်မှုများကို ဆန့်ကျင်သော တိုက်ပွဲ၊ စာပေများ ဖတ်ရှုလေ့လာခွင့်အတွက်တိုက်ပွဲ၊ ကျောင်းသားများ ကျောင်းစာသင်ကြားနိုင်ရေးတိုက်ပွဲ၊ ထောင်တွင်းလွတ်လပ်စွာ နေထိုင်ရရေး တိုက်ပွဲ၊ ပိုက်ကျော်ခြင်းလုံးအပါအဝင် အားကစားလုပ်ခွင့်ရရေး တိုက်ပွဲ စသည်ဖြင့် ထောင်တွင်းတိုက်ပွဲမျိုးစုံ ဆင်နွှဲခဲ့ကြသည်။ ဤသို့လျှင် ထောင်ကျခြင်းဟူသည် နိုင်ငံရေးသမားများအား နိုင်ငံရေး ဘွဲ့လွန်သင်တန်း တက်ရောက်ရသည်နှင့် အလားသဏ္ဍာန်တူနေပေတော့သည်။ အပြင်လောကတွင် နိုင်ငံရေးအကြောင်းဆွေးနွေးလျှင် ထောင်ကျနိုင်သော်လည်း ထောင်ထဲတွင်မူ နိုင်ငံရေးဆွေးနွေးဆည်းပူးရာ လွတ်လပ်နယ်မြေဟုပင် ဆိုရမည်ဖြစ်သည်။

ဤသို့လျှင် မန္တလေးအိုးဘိုထောင်တွင် နိုင်ငံရေးအကျဉ်းသားများ၏ တောင်းဆိုချက် မြင့်မားလာသည်ကို အဆုံးသတ်လိုသော ထောင်အာဏာပိုင်များ၊ ထောက်လှမ်းရေးများက ကျွန်တော်ထုဆစ်ထားသော ပန်းပုလက်ရာနှင့်

အခြားသော ကိစ္စရပ်များကို အကြောင်းပြု၍ ထောင်တွင်းနှိမ်နှင်းမှုကို ပြုလုပ်ကာ ဦးဆောင်ခဲ့သော နိုင်ငံရေး ခေါင်းဆောင်များကို ရိုက်နှက်၍ နယ်အကျဉ်းထောင်အသီးသီးသို့ ပို့လိုက်ကြသည်။ ရာဘာစွပ်ထားသော နံပါတ်တုတ်ဖြင့် ရိုက်ထားသော ဒဏ်ရာများ၊ အညိုအမဲမစွဲစေရန် ရိုက်နှက်ပြီး (၁၅) မိနစ်အတွင်း ဆရာဝန်များဖြင့် ဒဏ်ရာများကို ရေခဲအုပ်ပေးခဲ့သည်။ ကြိုတင်ပြင်ဆင် ထားသည်မှာ သိသာထင်ရှားလှပေသည်။ ထောင်ပြောင်းခံရသူ (၁၀) ဦး ရှိပါသည်။ ထိုနေ့သည်ကား ၂၀၀၀ ခုနှစ်၊ မေလ (၃၀) ရက်နေ့ ဖြစ်သည်။

## ရာမညမြေ ကျိုက်သံလန်ကို နေ့စဥ်ဖူးမြော်ခြင်း (သို့) မွန်တိုင်းရင်းသား ခေါင်းဆောင်များနှင့်တွေ့ဆုံခြင်း

၂၀၀၀ ခုနှစ်၊ မေလ (၃၁) ရက်နေ့တွင် ကျွန်တော်၊ ကိုဝဏ္ဏမောင် (သခင်ဘသောင်းမြေး)၊ ကိုထိန်လင်း၊ မောင်တင်သစ် (ကိုရည်မွန်) ပေါင်း (၄) ဦး အား မန္တလေးလေဆိပ်သို့ ပို့ဆောင်လိုက်သည်။ ကျွန်တော်တို့ (၄) ဦးအား လေယာဉ်ဖြင့် မန္တလေးမှ ရန်ကုန်သို့ ပို့ဆောင်သည်။ ရန်ကုန် လေဆိပ်ပြင်ပတွင် စစ်ကားနှစ်စီးက အသင့်စောင့်ကြိုလျက် ရှိသည်။ ကိုထိန်လင်းနှင့် မောင်တင်သစ်တို့အား မြောင်းမြအကျဉ်းထောင်သို့ပို့မည့် စစ်ကားပေါ်သို့ ခွဲ၍တက်ခိုင်းသည်။ ကျွန်တော်နှင့် ကိုဝဏ္ဏမောင်အား စစ်ကားတစ်စီးဖြင့် မော်လမြိုင်အကျဉ်းထောင်သို့ အသီးသီး ပို့လိုက်ကြသည်။ ဘဝတွင် လေယာဉ်နှင့်ကားကို အစိုးရစရိတ်ဖြင့် အလကားစီးဖူးခြင်း ပထမဦးဆုံးအကြိမ် ဖြစ်သည်။

မန္တလေးအိုးဘိုတွင် ပြသလိုက်သော အစွမ်းကြောင့် မော်လမြိုင် ရောက်ပြီး (၂) လခန့်ကြာသည်အထိ တစ်ကိုယ်လုံးကိုက်ခဲနာကျင်လျက် ရှိသည်။ ကျွန်တော်တို့အား ရောက်ရောက်ချင်းတွင် အခြားသော နိုင်ငံရေးသမားများရှိသည့် ဝင်းတွင်မထားပဲ ထောင်တွင်းပြစ်ဒဏ်ခံရသူနှင့် ကြိုးမိန့်ကျသူများကို သာထားသော ဝင်းတွင် ဦးစွာထားသည်။ ၎င်းဝင်းသည် ညအခါတွင် လွန်စွာမှ သရဲခြောက်သည်ဟု နာမည်ကြီးရာ ဝန်ထမ်းများပင်လျှင် တစ်ဦးထဲ ဝင်းအတွင်း ကင်းမလှည့်ရဲပေ။ ကျွန်တော်တို့ နေစဥ်ကာလအတွင်း ထောင်တွင်းဆန္ဒပြမှုဖြစ်ပွားရာ ပြစ်ဒဏ်ဝင်းအတွင်းသို့ ရွှေ့ပြောင်းခေါ်ယူရိုက်နှက်ရာတွင် နိုင်ငံရေး အကျဉ်းသားတစ်ဦး သေဆုံးမှုဖြစ်ပွားခဲ့သည်။ ရိုက်နှက်နေစဥ်

ကြားရသော အသံများကြောင့် မိမိကိုပါ လာရောက်ရိုက်နှက်မည်လားဟူသည့် စိုးရိမ်စိတ်ဖြစ်ပေါ်ခဲ့သည်ကို ဝန်ခံရပေမည်။ (၄) လခန့် ၎င်းပြစ်ဒဏ်ဝင်းတွင် နေခဲ့ရသည်။ ထိုဝင်းတွင် နေထိုင်စဥ်ကာလအတွင်း မည်သူနှင့်မျှ စကားပြော ဆိုရခြင်း မရှိပေ။ ထောင်တွင်းခိုင်းစေသော ထမင်းပို့ အကျဉ်းသား စသည်တို့ သာမက ထောင်ဝန်ထမ်းများပင်လျှင် ကျွန်တော်တို့နှင့် စကားမပြောကြပေ။ ကျွန်တော်တို့နှင့် စကားပြောဆိုသည်ကို တွေ့ရှိသည်ဟု တိုင်ကြားသူရှိပါက ထိုသူအား ပြစ်ဒဏ်ပေးမည်ဟု အမိန့်ပေးထားသောကြောင့် ဖြစ်သည်။ မည်သူ နှင့်မျှ စကားမပြောဆိုရပဲ နေထိုင်ရသည်မှာ လွန်စွာခက်ခဲကြောင်း ကိုယ်တွေ့ ကြုံကြိုက် လိုက်ရသည်။ တစ်နေ့တာကုန်ဆုံးရန်အတွက် မည်သို့နေထိုင် ဖြတ်သန်း ရမည်ဆိုသည်ကို ကိုယ်တိုင်လေ့လာ သင်ကြားရတော့သည်။ သခင် ပေါက်စ ထောင်ခြောက်လဟူ၍ ပြောဆိုခြိမ်းခြောက်ခဲ့သည့် ကိုလိုနီခေတ်မှ နိုင်ငံရေးအကျဉ်းသားများ အဘယ်ကြောင့် အချို့ရူးသွပ်သွားရသည်ဟူသော သဲလွန်စကို နားလည်ခဲ့ရသည်။

ထို့နောက် ကျွန်တော်တို့အား အခြားနိုင်ငံရေးသမားများအား ထားသည့် တိုက်ဝင်းသို့ ပြောင်းရွှေ့ပေးသည်။ ထိုဝင်း၏ထူးခြားမှုမှာ ဝင်းအတွင်းမှနေ၍ တောင်ပေါ်ရှိ ကျိုက်သံလန်ဘုရားကို ဖူးမြော်နိုင်ခြင်း ဖြစ်သည်။ ကျွန်တော့် အတွက် အဖိုးမဖြတ်နိုင်သည်ကား မော်လမြိုင်ထောင်အတွင်း မွန်တိုင်းရင်းသားခေါင်းဆောင်များကို တွေ့ဆုံရခြင်းပင် ဖြစ်သည်။ မွန်တိုင်းရင်းသားခေါင်းဆောင်များသည် ရှမ်းတိုင်းရင်းသားဖြစ်သော ကျွန်တော့်အား တိုင်းရင်းသားနိုင်ငံရေးကို စိတ်ရှည်စွာ ရှင်းပြသည်။ တိုင်းရင်းသားနိုင်ငံရေးသမိုင်းကို ပြောပြသည်။ ပြည်ထောင်စု၏ အရင်းခံ ပြဿနာများအကြောင်းကို ဆွေးနွေးကြသည်။ ပြည်တွင်းစစ်၏ အရင်းခံ အကြောင်းတရားများကို စူးစမ်းလေ့လာရခြင်း ဖြစ်သည်။ မော်လမြိုင်တွင် မွန်တိုင်းရင်းသား ခေါင်းဆောင်ကြီးများ၊ ဒီမိုကရေစီအင်အားစုများ၊ သက်ကြီး ဝါရင့် နိုင်ငံရေးခေါင်းဆောင်ကြီးများ၊ ကျောင်းသားများ၊ လှုပ်ရှားတက်ကြွသူ လူငယ်များ စသည်ဖြင့် စုံလင်လှပေသည်။ မော်လမြိုင်ထောင်သို့ ရောက်ရှိ ခြင်းသည် နိုင်ငံရေးသမားဘဝကို နောင်တွင် ထဲထဲဝင်ဝင်ဖြတ်သန်းရမည့် ကျွန်တော့်အတွက် အတွေ့အကြုံကောင်း၊ အထောက်အပံ့ကောင်း ဖြစ်လာ မည်ဆိုသည်ကို ထိုစဥ်က မသိရှိနိုင်ခဲ့ပေ။ တိုင်းရင်းသားနိုင်ငံရေးတွင် ပါဝင်လှုပ်ရှားစေရန်အတွက် တွန်းအားများ ဖြစ်ခဲ့မည်ဆိုသည်ကိုလည်း

အလျဉ်းမသိရှိခဲ့ပေ။ မော်လမြိုင်ဘ၀တက္ကသိုလ်ကြီးတွင် နှစ်နှစ်ကျော်ကျော်ခန့် နေထိုင်ခဲ့ရပြီးနောက် တင်းမာနေသော နိုင်ငံရေးအခင်းအကျင်းကို ဖြေလျှော့ရန်အတွက် နိုင်ငံရေးအကျဉ်းသားများကို စတင်လွှတ်ပေးရာ ကျောင်းသားနိုင်ငံရေးသီးသန့်ဖြင့် ထောင်ချခဲ့သော YIT နှင့် GTI ကျောင်းသားများကို ၂၀၀၂ ခုနှစ်၊ ဇူလိုင်လ (၂၇) ရက်နေ့တွင် ထောင် အသီးသီးမှခေါ်ယူ၍ ရန်ကုန် (၉) မိုင်ခွဲရှိ ထောက်လှမ်းရေးဝင်းတွင် စုစည်းစေကာ (၂၈) ရက်နေ့တွင် မိဘများအား အပ်နှံပေးခဲ့သည်။ ကျွန်တော်၏ အိမ်သည် လားရှိုးဖြစ်သဖြင့် ထောက်လှမ်းရေးအဆင့်ဆင့်မှ လက်ဆင့်ကမ်းတာဝန်ယူ၍ အိမ်တိုင်ရာရောက် ပို့ဆောင်ပေးခဲ့သည်။

## ၁၉၉၆-၉၈ ကျောင်းသားမျိုးဆက်များဆုံဆည်းရာ (သို့) MID

ပြင်ပလောကကို ပြင်လည်ရောက်ရှိလာပြီးနောက် ချက်ချင်း နိုင်ငံရေးလောကတွင် အခြေချရန် အခွင့်မသာခဲ့ပေ။ နိုင်ငံရေးအဝန်းအဝိုင်း မကျယ်ပြန့်သေးသည့်အပြင် ကိုယ်တိုင်လည်း ကျောင်းသားလှုပ်ရှားမှုတွင်သာ ပါဝင်ခဲ့ဖူးပြီး နိုင်ငံရေးအတွေ့အကြုံမရှိဟုဆိုလျှင်လည်း ဆိုနိုင်မည်ဖြစ်သည်။ ထို့ကြောင့် ဘဝရပ်တည်ရေးအတွက် ဝမ်းစာရှာသည့် စီးပွားရေးလုပ်ငန်းကိုသာ ဦးစားပေးနိုင်ခဲ့ပေသည်။ ထောင်တွင်းမှ နိုင်ငံရေးမှုဖြင့် ထွက်လာရသူအများစုသည် အလုပ်အကိုင်ရရန် လွန်စွာမှပင် ခက်ခဲလှသည်။ ကျွန်တော်သည် လုပ်ချင်သော အလုပ်များကို ကြိုးစားပမ်းစား လုပ်ကိုင်နိုင်ခဲ့ပါသည်။

ကျွန်တော်လုပ်ကိုင်ခဲ့ဖူးသော အလုပ်များကို ဖော်ပြရပါလျှင် ဆောက်လုပ်ရေးလုပ်ငန်းတွင် အလုပ်ကြပ် (Work Check)၊ ဆောက်လုပ်ရေးဆိုက်မန်နေဂျာ (Site Manager)၊ အနုစိတ်ဒီဇိုင်းသမား (Detail Designer)၊ စီမံကိန်းမန်နေဂျာ (Project Manager)၊ စီမံကိန်း ဒါရိုက်တာ (Projector Director)၊ လုပ်ငန်း စီမံခန့်ခွဲရေးမှူး (Chief Operating Officer)၊ ဆောက်လုပ်ရေးဆိုင်ရာ အတိုင်ပင်ခံ (Construction Consultant) စသည်တို့ကို လုပ်ကိုင်ခဲ့သည်။ အလတ်စားနှင့် အသေးစားလုပ်ငန်း (SMEs) လုပ်ငန်းအချို့၊ ကျောက်စိမ်းတူး ဖော် ရောင်းဝယ်ရေးလုပ်ငန်းစသည်ဖြင့် လုပ်ငန်းပေါင်းစုံကို လုပ်ကိုင်ခဲ့သည်။ နိုင်ငံရေးသမားဟူသည် ဆိုင်းသံဗုံသံကြားလျှင်မနေနိုင်သော ဇာတ်သမားများ နည်းတူ ကျွန်တော့်အား

နိုင်ငံရေးလောကသို့ ပြန်လည် ရောက်ရှိလာအောင် တီးခတ်လိုက်သော ဖုံသံသည်ကား ၁၉၉၆-၁၉၉၈ ခုနှစ် ကျောင်းသားလှုပ်ရှားမှု တွင် ပါဝင်ခဲ့ကြသည့် ဘဝတက္ကသိုလ်ပြန် ကျောင်းသားများစုစည်း၍ အဖွဲ့အစည်းတစ်ရပ်ထူထောင်မည်ဟူသော အသံဖြစ်သည်။

၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ (၅) ရက်နှင့် (၆) ရက်နေ့တွင် ၁၉၉၆-၉၈ ကျောင်းသားလှုပ်ရှားမှုတွင် ပါဝင်ခဲ့ကြသည့် ကျောင်းသားများညီလာခံကို ကျင်းပခဲ့သည်။ ထိုညီလာခံတွင် တက်ရောက်လာကြသော ကျောင်းသားများ၏ တညီတညွတ်ဆန္ဒမဲဖြင့် မြန်မာ့ဒီမိုကရေစီ အင်စတီကျု (Myanmar Institute for Democracy-MID) ကို ဖွဲ့စည်းတည်ထောင်ခဲ့သည်။ MID ဖွဲ့စည်းပုံစည်းမျဉ်းကို အတည်ပြုနိုင်ခဲ့သည်။ အဖွဲ့အစည်းကို ဦးဆောင်ရန် ဒါရိုက်တာ (၁၁) ဦးကို ဒီမိုကရေစီနည်းကျ အများစု၏ ဆန္ဒမဲဖြင့် ရွေးချယ်နိုင်ခဲ့သည်။ ရှေ့လုပ်ငန်းစဉ်တို့ကို ဆွေးနွေးနိုင်ခဲ့ကြသည်။ ကျွန်တော်သည်လည်း အများ၏ ဆန္ဒမဲဖြင့် ဒါရိုက်တာတစ်ဦးအဖြစ် ရွေးချယ်ခံရသည်။ MID ဒါရိုက်တာတစ်ဦးအနေဖြင့် မြန်မာ့နိုင်ငံရေးအခင်းအကျင်းကို ပြန်လည်ထိတွေ့ခွင့်ရခဲ့သည်။ MID သည် မြန်မာ့နိုင်ငံရေးလောကတွင် တစ်ထောင့်တစ်နေရာမှ အတတ်နိုင်ဆုံး ပါဝင်ဆောင်ရွက်ခဲ့ပေသည်။ MID သည် မျှော်မှန်းသည့် အဆင့်သို့ မရောက်ရှိနိုင်သေးသော်လည်း နိုင်ငံရေးလောက၏ အသိအမှတ်ပြုမှုကို အတိုင်းအတာတစ်ခုအထိ ရရှိခဲ့သည်။ မည်သို့ပင် ဆိုစေကာမူ MID သည် ၁၉၉၆-၉၈ ကျောင်းသားမျိုးဆက်တို့၏ ဆုံစည်းရာနေရာအဖြစ် ယခုထိတိုင် ရပ်တည်နေဆဲဖြစ်သည်။

## ရှမ်းတိုင်းရင်းသားများဒီမိုကရေစီအဖွဲ့ချုပ် (သို့) ဖက်ဒရယ်ပြည်ထောင်စု တည်ဆောက်ရေး

ရှမ်းတိုင်းရင်းသားများဒီမိုကရေစီအဖွဲ့ချုပ် (Shan Nationalities League for Democracy-SNLD)၊ ရှမ်းများ အရပ်အခေါ် "ကျားခေါင်းပါတီ" ၏ မယိမ်းမယိုင်သောမူဝါဒ၊ ဖက်ဒရယ်ပြည်ထောင်စု တည်ဆောက်ရေးအပေါ် မားမားမတ်မတ်ရပ်တည်နေမှု၊ ပါတီခေါင်းဆောင်များ၏ တိုင်းရင်းသားအရေးအပေါ် ဦးဆောင်ပါဝင်နေမှု စသည့်စသည့် ဂုဏ်သတင်းများကို နှစ်ပေါင်းများစွာကပင် နားရည်ဝခဲ့ပြီး ဖြစ်သည်။ ဤပါတီသို့ ရောက်ရှိကာ ဦးဆောင်သူများထဲမှ တစ်ဦးအဖြစ်

ရောက်ရှိခဲ့မည်ဟူသောအချက်ကို စဉ်းစားမျှော်မှန်းခဲ့ဖူးခြင်း အလျဉ်းမရှိခဲ့ပါ။ ဘဝဟူသည် တိုက်ဆိုင်မှုလော၊ တမင်တကာ ဖန်တီးထားမှုလော စသည်ဖြင့် ဆန်းကြယ်လှပေသည်။

MID ဒါရိုက်တာအဖြစ် တာဝန်ယူနေစဉ်ကာလအတွင်းတွင် မော်လမြိုင်ထောင်တွင် ဆုံတွေ့ရင်းနှီးခဲ့ရသည့် မွန်အမျိုးသားပါတီ၏ အထွေထွေအတွင်းရေးမှူး ဒေါက်တာမင်းစိုးလင်း ရန်ကုန်သို့ရောက်ခိုက် ရှမ်းတိုင်းရင်းသားများဒီမိုကရေစီအဖွဲ့ချုပ်၏ အထွေထွေအတွင်းရေးမှူးဖြစ်သူ စိုင်းညွန့်လွင်နှင့် တွဲဖက်အထွေထွေအတွင်းရေးမှူးဖြစ်သူ စိုင်းလိတ်(ခေါ်)စိုင်းလတို့နှင့် ကျွန်တော့်အားတွေ့ဆုံရန် စီစဉ်ခဲ့သည်။ နေရာသည်ကား ရန်ကုန် လေဆိပ်အဝင်လမ်းရှိ မီလီယံကွိုင်စားသောက်ဆိုင် (Million Coin Restaurant) တွင်ဖြစ်သည်။ ခေါင်းဆောင်များက ကျွန်တော့်အား တိုင်းရင်းသားနိုင်ငံရေးတွင် ပါဝင်လုပ်ကိုင်ရန် စည်းရုံးနိုင်ခဲ့သည်ဟု ဆိုရပေ မည်။ MID ဖွဲ့စည်းပုံစည်းမျဉ်း (MID Charter) တွင် ပါရှိသည်ကား MID ဒါရိုက်တာများသည် မည့်သည့်နိုင်ငံရေးပါတီဝင်မှ မဖြစ်ရဟူ၍ ဖြစ်သည်။ တိုင်းရင်းသားနိုင်ငံရေးတွင် ပါဝင်ဆောင်ရွက်ရန် ဆုံးဖြတ်ပြီး ဖြစ်သည့်အလျောက် MID ဒါရိုက်တာအဖြစ်မှ နုတ်ထွက်၍ ရှမ်း တိုင်းရင်းသားများ ဒီမိုကရေစီအဖွဲ့ချုပ်ပါတီသို့ ဝင်ရောက်ခဲ့သည်။

ရှမ်းတိုင်းရင်းသားများဒီမိုကရေစီအဖွဲ့ချုပ်က ဦးဆောင်ကျင်းပခဲ့သော စည်းလုံးညီညွတ်သော တိုင်းရင်းသားလူမျိုးများ မဟာမိတ် (United Nationalities Alliance – UNA) နှင့်မိတ်ဖက်များညီလာခံ (၂) ကြိမ်၊ UNA နှင့် ညီညွတ်သော တိုင်းရင်းသားလူမျိုးများ ဖက်ဒရယ်ကောင်စီ (United Nationalities Federal Council – UNFC) အစည်းအဝေးများတွင် တက်ရောက်ဆွေးနွေးခဲ့သည်။ ပြည်တွင်းငြိမ်းချမ်းရေးအတွက် နိုင်ငံရေးဆွေးနွေးပွဲများဖြစ်ပေါ်လာသောအခါ နိုင်ငံရေးဆွေးနွေးမှုဆိုင်ရာ မူဘောင်သည် မရှိမဖြစ်လိုအပ်လာသည်ကို သိရှိသည့်အလျောက် SNLD ၏ နိုင်ငံရေး ဆွေးနွေးမှုဆိုင်ရာမူဘောင်ကို ရေးဆွဲရာတွင် ဦးဆောင်ပါဝင်ခဲ့သည်။ ထို့နောက် UNA ၏ နိုင်ငံရေးဆွေးနွေးမှုဆိုင်ရာ မူဘောင်ကိုလည်း ဦးဆောင်ရေးဆွဲခဲ့သည်။ UNA ၏ မဟာမိတ်ဖြစ်သော UNFC နှင့် တွေ့ဆုံဆွေးနွေးမှုများတွင်လည်း SNLD ၏ ကိုယ်စားလှယ်အဖြစ် ကြိမ်ဖန် များစွာ ပါဝင်ခဲ့ရပေသည်။

၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ (၁၅) ရက်နေ့တွင် တိုင်းရင်းသား လက်နက်ကိုင်အဖွဲ့အစည်း(၈)ဖွဲ့နှင့် အစိုးရတို့ တစ်နိုင်ငံလုံး ပစ်ခတ်တိုက်ခိုက်မှုရပ်စဲရေး သဘောတူစာချုပ် (Nationwide Ceasefire Agreement – NCA) ကို လက်မှတ်ရေးထိုးကြသည်။ NCA အရ စစ်ဘက်ဆိုင်ရာ စောင့်ကြည့်ရေး ကော်မတီ (Joint Monitoring Committee – JMC) နှင့် ပြည်ထောင်စု ငြိမ်းချမ်းရေးဆွေးနွေးမှုပူးတွဲကော်မတီ (Union Peace Dialogue Joint Committee – UPDJC) တို့ကို တစ်နိုင်ငံလုံးပစ်ခတ်တိုက်ခိုက်မှု ရပ်စဲရေး သဘောတူစာချုပ် အကောင်အထည်ဖော်ဆောင်ရေး ညှိနှိုင်းရေးအစည်းအဝေး (Joint Implementation Coordination Meeting - JICM) က ဖွဲ့စည်းပေးရသည်။

၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ (၂၄) ရက်နေ့တွင် ကျင်းပသော ဒုတိယ အကြိမ်မြောက် UPDJC အစည်းအဝေးတွင် ရှမ်းတိုင်းရင်းသားများ ဒီမိုကရေစီ အဖွဲ့ချုပ် ကိုယ်စားလှယ်အဖြစ် စေလွှတ်ခြင်းခံရသော ကျွန်တော့်အား UPDJC နိုင်ငံရေးပါတီများအစုအဖွဲ့၏ အတွင်းရေးမှူးအဖြစ် ရွေးချယ်တင်မြှောက်ကြသည်။ ဤသို့လျှင် ပြည်တွင်းငြိမ်းချမ်းရေး၏ အဓိကမောင်းနှင်အားသဖွယ် ဖြစ်လာသည့် UPDJC တွင် အတွင်းရေးမှူးဟူသည့် ဇာတ်ကောင်နေရာ၌ အံဝင်ခွင်ကျအောင် ကြိုးစားဆောင်ရွက်ရန် တာဝန်ရှိလာတော့သည်။

၂၀၁၆ ခုနှစ်၊ ဧပြီလ (၃) ရက်နေ့မှ (၅) ရက်နေ့အထိ ကျင်းပသော မြို့နယ်ပေါင်းစုံပါတီညီလာခံတွင် ရှမ်းတိုင်းရင်းသားများဒီမိုကရေစီအဖွဲ့ချုပ်၏ တွဲဖက်အထွေထွေအတွင်းရေးမှူး-၂ အဖြစ်ရွေးချယ် တင်မြှောက်ခြင်းခံခဲ့ရသည်။ ပါတီ၏ လူငယ်များအပေါ် မြေတောင်မြှောက်မှု၊ တာဝန်ပေးရဲမှုအပေါ်တွင် များစွာအံ့သြဝမ်းသာ ဖြစ်မိပေသည်။ နှစ်အနည်းငယ်အတွင်း ပါတီ၏ တွဲဖက်အတွင်းရေးမှူးတာဝန်ကို ထမ်းဆောင်ရခြင်းသည် ပါတီ၏ ဒီမိုကရေစီ ရင့်သန်မှုနှင့် လူငယ်များအပေါ် ယုံကြည်မှုဟူသော ပြယုဂ်ကို မြင်တွေ့ရပေသည်။

ယခုလက်ရှိတွင် ကျွန်တော် စိုင်းကျော်ညွန့်အနေဖြင့် ပါတီတွင် တွဲဖက် အထွေထွေအတွင်းရေးမှူး-၂၊ UNA တွင် နည်းပညာအထောက်အကူပြု အဖွဲ့ဝင်၊ UPDJC တွင် နိုင်ငံရေးပါတီများအစုအဖွဲ့ အတွင်းရေးမှူး၊ UPDJC လုပ်ငန်းကော်မတီတွင် နိုင်ငံရေးကိစ္စရပ်များ ဆွေးနွေးမှုလုပ်ငန်းကော်မတီ အတွင်းရေးမှူးအဖွဲ့ဝင် စသည့် တာဝန်များကို ထမ်းဆောင်လျက်ရှိသည်။

ဤစာတမ်းငယ်သည် ကျွန်တော်စိုင်းကျော်ညွန့်၏ နိုင်ငံရေးဘဝ ဖြစ်သော ကျောင်းသားလှုပ်ရှားမှုတွင် ပါဝင်ခဲ့သော ဘဝဖြတ်သန်းမှုတချို့၊ ဘဝ ဖြတ်သန်းမှု ကောက်ကြောင်းများ၊ ထောင်တွင်းဖြတ်သန်းမှု အတွေ့အကြုံများ၊ နိုင်ငံရေးပါတီတွင် ပါဝင်ဆောင်ရွက်နေရသော လုပ်ငန်းတချို့၊ ရှမ်းတိုင်းရင်း သားများဒီမိုကရေစီအဖွဲ့ချုပ် ကိုယ်စား ပြည်ထောင်စု ငြိမ်းချမ်းရေးလုပ်ငန်း စဥ်တွင် ပါဝင်ဆောင်ရွက်နေမှုများကို တတ်စွမ်းသမျှ တင်ပြသရုပ်ဖော်သော ကြိုးပမ်းချက်တစ်ရပ်သာလျှင် ဖြစ်သည်။ မည်သို့ပင် ဆိုစေကာမူ ဤစာတမ်း ငယ်သည် အနာဂတ် ဒီမိုကရေစီပြည်ထောင်စု တည်ဆောက်ရေးအတွက် အုတ်တစ်ချပ်သဲတစ်ပွင့်ဖြစ်ပါစေကြောင်း ဆန္ဒပြုလိုက်ရပါတော့သည်။

# The Call of the Peacock: The Objectives of Student Movements in the 1970s

**Tin Aye Kyu**


## Abstract

In Burma, ever since there were schools and universities, there have been student movements. Students have protested because of the poor education system, social and political conditions, and because of the laws, acts, orders and rules and regulations that suppressed students. Students must be involved in politics and require student unions—necessary characteristics of democracy—in order to organize. Students have been and continue to be vital to the progress of the country and are inseparable from the public, who have long supported them.


## I

> *Progress is carried on by the few people who are passionate about it.*
>
> - Dagon Taryar

What is progress? Progress is a move from nothing to something, from being dependent to being independent, and from being a colony to a self-governed polity. If we look back at the history of Myanmar (Burma), gaining independence from British colonial rule was one instance of progress. Being victorious in the fight against fascism with the spirit of the people's freedom was also progress.

Transitions from dark to light, from a one-party dictatorship to a multiparty political system, from no democracy to democracy, from lack of human rights to enjoying them, from civil war to national peace, from a nation divided to a nation unified; these are all examples of progress. During Myanmar's struggle against colonial rule and fascism, through its attempts to gain

freedom for the whole nation, with all the efforts made to gain independence, the people most passionate about progress led the revolutionary movements and organizations.

Throughout history, who are the few that passionately carry progress forward through investing their sweat and blood? The answer is "students". Students can be defined as those who are actively studying at educational institutions and therefore moving societal progress forward. In this way, the history of the progress of Myanmar (Burma) is intertwined with the history of student movements.

Thanks to the coordination of the Rangoon College Buddhist Association, which was organized by students, the Young Men's Buddhist Association was founded in 1906. Those students, who also organized and led the Burma Youth Association, founded the *Dobama Asiayone* (We Burman Association), the central group in the independence movement.

Once the British invaded Myanmar and ended the Konbaung dynasty after the third Anglo-Burmese war, our country lost its royal army. When the *Dobama Asiayone* was founded, the *Dobama Ye Tat* (police force), an unarmed force, was organized. The All Burma Federation of Student Unions (ABFSU) also organized the Thamani Force (Steel Force). These were the core forces that made up the new Myanmar armies. From them, the Burma Right Hand Army, Burmese Defense Army, Burmese Patriotic Army, Bama Army, and People's Army were formed. Therefore, we can say that students were the origin of these new armies.

The students in unions were selfless, did not earn any money from their activities, and sacrificed themselves for the good of others. They founded the Nagani Book Club with the aim of spreading progressive ideologies. The most united organization in Myanmar history, the *Hpa Hsa Pa La*, the Anti-Fascist People's Freedom League (AFPFL), was also organized by students. Members of the union were grouped into the Thirty Comrades, as well as the Parachute Force who bravely sacrificed their lives to gain independence.

The people of Myanmar value the ABFSU, with its storied history, and love students. If there are students, there must be a

union, and a building for that union. But why should anyone organize a student union? A student union is essential in a democratic country. It is necessary to have unions for workers in every sector. Such civilian organizations provide checks and balances to hold the government to account in a democratic system. In one record by the famous Myanmar author, Theik Pan Maung Wa, he explains how students were trained to become good leaders by the Oxford University Student Union.[1]

"We have organized the All Burma Students' Union (ABSU) to train students to be united and to know what to do and how to do it. Joining the union is the duty of patriotic students", said Ko Aung San, the chairman of the union. These words still live within the Myanmar people. In building a democratic nation, a student union is necessary to build unity, to know what to do and how to do it, and for leaders and the people to be able to communicate effectively.

"The student union must be free from the undue influence of political parties", said Daw Aung San Suu Kyi at the Taunggyi National League for Democracy party office on 13 February 1989. "A student union is not a true union if it is not allowed to be involved in genuine politics", she continued. She also said, "If youths are not to be involved in politics, democracy will never develop". Therefore, students must be involved in politics. To be able to do so, student unions must be formed. Student unions are essential to democracy.

## II

Students do not come from some special walk of life. They are the sons and daughters of people. Water cannot be divided. Similarly, students and people cannot be divided. Consider fish and water. Just as fish depend on water to survive, students depend on the support of parents. If parents are not well off and cannot support their children to study at school, then children cannot continue their studies.

---

[1] ဝ၊ မောင်၊ သိပ္ပံ-၊ ၂၀၀၇။

When parents have hard times and are in difficult situations, they protest against the authorities and let their feelings out. At such times, students join their parents in the protest. Likewise, every student movement is supported by the people. To use a martial example, the students and the people are like the tip and the handle of a spear. In combat it is ineffective to use only one part. The sharp point must be fixed strongly to the handle so that the target is not missed.

From the first students strike in 1920, to those in 1936, 1938, 1962, 1974, 1975, 1976, 1977 and then the people's revolution in 1988, the support of the people has been amazing. For the students at the strike camps, everything they needed, such as bags of rice, cans of cooking oil, blankets, pillows, mosquito nets and mattresses were provided by the public, including people from Theingyi market in Rangoon and Zegyo market in Mandalay. In the U Thant uprising of 1974, people took off their jewelry and offered it to the strikers to show their respect to U Thant and show their love to students. Those who witnessed this event had goosebumps.

As students are supported by the people, they never hesitate to join and help the people whenever they are in trouble. The most famous relevant event in recent history is the strike of oil field workers led by student leader Ko Ba Hein. Up until the 1930s, oil field workers worked like cattle and their life was not of a human standard. They had no chance to enjoy the fruits of their labor. There was no guarantee for their social welfare. Although they reported their difficulties and problems to the officials concerned, no one helped them to solve their problems. Therefore, a group of strikers led by *Thakin* Po Hla Gyi marched to Rangoon to protest against the oil field authorities. Along the way common people and farmers also joined and helped the protesters.

The strike force, composed of 2,000 workers and 20,000 farmers, was suppressed by the British authorities. They imposed a curfew under section 144 of the Code of Criminal Procedure and captured the strike leaders. The strike force could not continue their journey and was stranded in Magway Division, so

the ABFSU sent two leaders, Ko Ba Swe and Ko Ba Hein, to help the strikers. The *Dobama Asiayon*e also sent representatives to help the strike force. In this joint event of workers, farmers and students, Ko Ba Hein's remarkable words of confrontation were recorded in history: "At one strike of the horse hoof, there will be burning fire".

In 1962, General Ne Win began nationalizing the country's economy—at the barrel of a gun. To make their military dictatorship official and perpetual, the ruling generals created a new constitution. Although the people were against the 1973 constitutional referendum, the military dictators still enacted the constitution with fake votes, and the 1974 Constitution was promulgated.

Following this, socialism was formally introduced by the military dictatorship, and the people of the country became very poor. As poverty-stricken workers could not stand their difficult situation, they decided to fight for their rights instead of facing starvation, and went on strike. In March 1974 a strike started at the Paleik textile factory and was joined by workers in towns down the Ayeyarwady river, before spreading across the whole country like a wildfire, sparking still further strikes.

Although the student union building was destroyed, there was union spirit in the hearts of students, and they felt that workers' problems were their own. So they joined and helped the Paleik workers' strikes with all their might. Students occupied the factory, closed the gate, and helped the striking factories to communicate with each other and exchange information. Students collected food, medicine, and other necessary items from the public and gave them to the strikers. Groups of guitarists, who regularly entertained female university students in the evening, also went to the camps and entertained the strikers to give moral support.

The military dictators at the time never dealt with any problems by identifying and solving the root causes; instead they accused political left- and right-wing forces of instigating the strike. The workers responded bravely and said, "Yes, but if it was instigation, it was one inspired by hunger".

Instead of giving the rice and oil (basic foods) asked for by the workers, the dictators gave them bullets. As far as I remember, on 6 June, at Thamaing Red Square, Ko Win Aung (a law student) was shot dead on the street. Ko Soe Win (a student from the Institute of Medicine 2), Ko Win Sein (a student from the Rangoon Institute of Technology), and Ko Khin Maung Aye (a student from the Arts and Science University) were wounded and detained. Because of the brutal suppression by the military dictators, at least 46 workers, students and civilians were shot dead and 123 were wounded in the aftermath of the 1974 strike in Rangoon alone.

If there is fuel, a spark can cause a great fire. The 1974 U Thant uprising, the 1 June 1975 anniversary of the workers' strike (also called the Shwedagon Pagoda uprising), and the 1976 centenary of the Thakin Ko Daw Hmaing uprising followed the 1974 workers' strike.

In addition to entrenching the new 1974 Constitution, the dictator Ne Win and the military also distorted the national anthem. They deleted the initial part of the anthem which says "justice, freedom, equality" and the word "Bama" was replaced by "Myanmar", although it does not rhyme with the words at the beginning: "*kaba ma kyae*". With the problematic change of "ba" into "ma", the authorities cunningly tried to destroy the unity shared by different ethnic groups in the country, and new unions were founded.

Inmates in all prisons had to sing the new national anthem each morning. Though the strikes in 1974, 1975 and 1976 had different aims, their main aim was to eliminate the military dictatorship and to repeal the 1974 Constitution. The heads of the students who were imprisoned during the strikes were bloody. They never kneeled. In the prison, they refused to sing the national anthem to show that they disapproved of the new constitution. They received brutal beatings and solitary confinement as punishment without complaint.

When civil war spread around the whole country soon after independence, some people celebrated the march for peace led by Thakin Ko Daw Hmaing. In line with the song of the ABSU:

"We march, holding the hand of the people, we always trust the people, we will always serve the people and the blood of the whole ABSU is always red", the students helped the march with all their might. They welcomed and entertained the columns of people marching for peace. With the Kay Thi Pan music band, the songs of peace spread throughout the whole country and the wings of the dove fluttered.

When a destructive natural disaster, Cyclone Nargis, struck the country in 2008, it was students who buried many of the corpses upon which flies were resting. It was a sorrowful sight to see. The military government did not take any responsibility or accountability for the response. It was also students who planted the flag of the fighting peacock at Letpadaung Taung to show that people disapproved of China's Wanbao mining project which aimed to sell off Myanmar's public natural resources, enriching the generals at the expense of the country's people and society.

Students offered free education to the poor. They personally went to war victims and offered food and clothing out of kindness and sympathy. They helped with the problems of workers, farmers, slum dwellers and children selling flowers at the roadside. Students perform the duties which history has put on their shoulders, actively fulfilling the needs of the people and helping the people to solve problems.

## III

The British colonial rulers gave the Burmese people slave education, but the imperialists still valued education. They valued students. They valued the university and the student union. Under colonial rule, students had freedom of movement. The most serious punishment given to a student was dismissal from their educational institution. The government was rarely involved in students' affairs.

After gaining independence, when the country finally had a government formed by its own citizens, the Rangoon University campus buckled under the noise of fire engines and water

cannons, which brutally blasted students. There were noises of tear gas and shooting. Every government that ruled the country tried to destroy student unions. The Rangoon University campus, with its rows of Ceylon ironwood trees, has seen much bloodshed since October 1953, when students asked for a month of holiday, and the Ava gate uprising took place. In 1956, the Minister of Education tried to replace the student union with a 'Students' Council'. They formed groups of students who were loyal to them with the aim of disintegrating student unity. After General Ne Win unlawfully took power in March 1962, the new Revolutionary Council government repealed acts two and three, the Rangoon University and Mandalay University acts. The military quickly intruded onto university campuses, shot students dead and destroyed the student union building at the University of Rangoon. Those students who did not die were captured and sent to the Coco Islands. If students evaded detention, their parents were taken as hostages. Students could not live in the cities and towns and had to seek asylum in liberated areas to continue the fight against the military government.

Similarly, students were killed, captured, and imprisoned during strikes in 1974, 1975 and 1976. The government committed an indelible offense in 1976, sentencing and executing Chin student leader Ko Tin Maung Oo, who did not commit any crime and who carried no weapon. As students could not bear the suppression, they went underground, armed themselves and participated in people's democracy movements.

During the 8888 Uprising, the Myanmar military took the power from the people once more. They showed their capacity to rule by making blood pools on streets. Some students were killed, some were imprisoned, and some fled to liberated areas and joined ethnic armed organizations.

If the military is weak, no soldier can even afford to drive a jeep. To maintain its strength, the military keeps civil wars alive and continues to rule the country with fake peace. Seventy years after gaining independence, there is no major ethnic group in Myanmar without a corresponding armed organization.

With the longest-running civil war and military dictatorship in the world, a student-led armed force was founded, like no other country in the world. Due to the unbearable oppression of military rule, students took various means to rebel against the government, depending on the type of suppression and the political situation in each context. They went on strikes in towns and cities, carried out underground operations and armed themselves to fight against the government.

## IV

Before WWII, Marxism was popular among the educated people of the world. Marxism has also long been popular among students in Burma. After getting a Bachelor of Arts degree, independence leader Ko Aung San decided not to continue his studies for a Bachelor of Laws degree and joined the *Dobama Asiayone*, taking the title *Thakin* (Master). He became actively involved in politics. When Ko Aung San and a group of students joined the *Dobama Asiayone*, the flag of the association was changed from a peacock with three colors to a hammer and a sickle (which represent workers and farmers respectively) with three colors.

Leftist content could be found in the magazines published by the union after 1936. After the fifth conference of the ABSU, the handwritten newspaper *Ah Ye Daw Pon* was published under the leadership of Ko Ba Hein, Ko Tun Shein (Bo Yan Naing) and Ko Ko. The logo of the newspaper was a hammer and a sickle. Then, in 1938, after the oil workers' strikes (which are also known as the 1300 Uprising, named after the Buddhist era year), Ko Aung San, Ko Ba Hein and Ko Hla Pe (Bo Let Yar) founded the Communist Party of Burma, influenced by international Marxist ideology.

In the 1950s, the prospect of World War III threatened the world, with a major war in Korea and a nuclear crisis in Cuba. World-famous writers, musicians, singers, scientists and educated people founded the World Peace Congress to work toward world peace and stop nuclear weapons. For some of that time, the chairman of the World Peace Council was Ko Htay Myaing

(Dagon Taryar). Ko Soe Thein was also a member. Students of the union collected a petition for world peace and against nuclear weapons.

When war erupted in Korea in 1950, the United Nations (UN) decided that it was North Korea who had invaded South Korea. The Burmese government approved of the UN decision. The Rangoon University Student Union (RUSU) did not issue a public statement at the time, as the union was mainly composed of students who supported the government. However, union members with progressive ideas were against the UN decision.

After 1950, the ABSU became a member of the International Student Union and participated in international activities. They attended an anti-nuclear weapons conference in Hiroshima, Japan. They also attended the Peking Student Union conference in 1958 and the celebration of the Tenth Anniversary of the formation of the People's Republic of China (PRC). Although they could not attend conferences in Europe, they secretly asked Burmese students there to attend student union conferences when they could.

In the 1960s the United States (US) had a reputation for trying to be 'the world police'. Not only did they colonize North America and rule the indigenous people there, but they also pretended to help certain countries in Latin America, only to interfere with these countries' local affairs. Therefore, the ABSU had a meeting and decided to protest in front of the US Embassy.

The protests against military dictatorship in Myanmar in 1974, 1975 and 1976 coincided with protests at Seoul University in Korea and Thammasat University in Thailand. Students across Asia seemed to support and encourage each other. A strike in Czechoslovakia and the Tiananmen Square protests in the PRC also gave moral support to the 8888 Uprising in Myanmar.

Student leaders from the RUSU founded in 1930, and the ABSU founded in 1936, had ideologies consonant with their times. After the ABSU was founded, generations of student leaders practiced not only patriotism but also internationalism.

They could keep track of international affairs and were in touch with student activities in other countries.

## V

In Burma, ever since there were schools and universities, there have been student movements. Students have protested because of the poor education system, and because of the laws, acts, orders and rules and regulations that suppressed students.

After the British colonists occupied Burma, they suppressed the Burmese people and crushed all rebellion. They tried to destroy the people's nationalist and patriotic spirit. To destroy the Bagan spirit, they opened a government office in Nyaung-U Township and made Bagan a jungle. Similarly, they opened government offices in Tada-U Township in order to destroy the Innwa spirit. To degrade Rakhine pride in Mrauk-U Township, they made Sittwe Town into a city. In Bago and Sagaing townships, they planned towns in the sites of palaces and the city walls became roads and streets. In Mandalay, they turned the palace compound into an army camp and declared the area out of bounds.

The British colonists demanded the people call them "master" and the people had to use the term "*payar*" when replying to them (a response usually reserved for a monk or a king). They ordered that the people must pay obeisance to British teachers and education officials. This inappropriate order was successfully opposed by students in 1903, becoming the first victory of Burmese students under British rule. The British colonists tried to legislate the Rangoon University Act which was objected to by the Burmese people as it was not appropriate for their lives. However, the colonists continued their efforts, and the first students' strike broke out.

More sparks flew from minor cases. Ko Soe Myint did not use the word "sir" in response to a roll call, and Ko Aung Myint took down a notice from a noticeboard, surmising it had expired. Because of these minor acts, these students were dismissed from Rangoon University. The editor Ko Aung San was

threatened with dismissal for editing the article, "Hell Hound at Large", which appeared in Oway magazine. Because of the same article, the chairman of the ABSU, Ko Nu, was also dismissed. The sparks became a fire, and the second student strike of 1936 broke out. In fact, the cause of this strike was the mismanagement of the country by the colonists.

In 1936, when the oil field workers' strike was suppressed, RUSU Chairman Ko Ba Hein, and Secretary Ko Ba Swe, together with representatives of the *Dobama Asiayone*, joined the strikers and helped them to march to Rangoon. Both were detained by British authorities as Ko Ba Hein's speech was deemed disrespectful. Detaining the chairman and the secretary was an insult to the students, so they marched around the secretariat opposing the section 144 curfew, previously mentioned. Tensions escalated between the students and British authorities over the years and in 1938, student Ko Aung Kyaw was killed by police during a demonstration where students blocked access to the secretariat, and the third students' strike eventually broke out.

We generally understand that the third students' strike occurred because Ko Ba Hein and Ko Ba Swe were detained by British authorities.

> When we were detained, it was like giving a signal to the students who were ready to go on strike. In fact, the strike might have been postponed if we had not taken. Whether we were abducted or not, there would definitely have been a strike sooner or later. So, detaining us was like setting sparks on an explosive. Our detention was not the only cause of the strike.[2]

This is true. Every student movement was a form of protest against colonial rule and for national freedom. Whatever the immediate cause was, students protested against suppression and unfair laws as their duty. The slogan of the first students' strike in 1920 was, "We don't want slave education". The slogan of the

[2] ဗဟိန်း၊ သခင်။ (n.d.)။

second strike in 1936 was, "Change the education system into a new one", and the third strike's was, "Provide more funds to education". Students protested against the unsuitable policies and laws of the colonists and became famous and honorable for doing so.

After independence the AFPFL won the general elections and was in power for ten years. When ex-students became incumbent politicians, they tried to control student unions and mobilize students to support their own political parties, leading to disunity between students. Burma was the most developed nation Southeast Asia in that period. However, students opposed the orders from the authorities and there was a student movement in October 1953. In fact, the students only asked for one month of holiday. The Minister of Internal Affairs, who was once a leader of a student union, solved the problem with violence, painting the wall of Ava Hall at Rangoon University with student blood.

On the last day of the seventh-grade exam in 1956, questions from the exam were leaked and published in the *Burma Times* newspaper. Instead of finding a proper and systematic solution to the problem, which was caused by the mismanagement of authorities, those very authorities simply announced that the exam would be canceled. At that time, those who passed the seventh-grade exam got good jobs. Students who were dissatisfied with the cancellation of the exam went to the newspaper and protested. The government solved the problem using weapons and a student, Harry Tan, was shot and killed.

The Mandalay University strike of 1961 is another example of the one-sided decisions and violence of the government of the time. The authorities scheduled exams without fulfilling their teaching requirements. The students first asked for classroom furniture and for university staff to deliver lectures. They also asked the authorities to postpone the exam until furniture and teachers were provided. The authorities did not consent to the students' request and used weapons and violence instead.

All these events show that student protests occur because of inappropriate laws against the people and because of students'

wishes and needs. Burmese students love to study and protest peacefully. Yet their requests have always been responded to by the authorities with force.

As mentioned, after Ne Win's military took power in 1962, the university acts were repealed. The university council, which was composed of university teaching staff, professors, students, and parents, was replaced by one formed by military officials. The freedom of youthful students was suppressed just as inmates were suppressed by prison authorities and privates were controlled by majors in the military. Student hostel regulations were like rules in the army. The authorities did not consider the nature of a university and neglected the will of students, causing problems. When students protested against the hostel rules, the authorities violently suppressed them. The student union building was bombed and destroyed.

After three strikes in 1974 and in 1975, the military imposed a section 144 curfew. During this strict military rule, why did the centenary of the Thakin Ko Daw Hmaing Uprising occur? To protest against the military dictatorship was one reason. The immediate cause was the raising of hostel fees. The previous fee of 57 Burmese Kyat was raised to 120. At that time, most government servants earned only 126 Kyat per month. So, poor students could not afford it. In training courses in Myanmar, trainees were told that it was 'out of date' to go onto the street and protest. However, in Korea, a developed country, the union building was destroyed from street protests, and in a leading democracy, America, the people took to the streets when Donald Trump became president.

The progress of a country does not depend on student movements alone. However, student movements are directly related to the government's attitude toward education and students and its unjustly strict rules and regulations.

## VI

To sum up, students are those who are currently studying and working for progress. Student unions are necessary

characteristics of democracy. Students join and support the movements of the people regardless of the time and situation. The nature of student movements depends on the policy controlling the degree of suppression inflicted by the government. International student movements, which have relevance to the lives of Burmese people, influence Burmese students' movements. Student movements are not just concerned with the progress of a country but also the management, intelligence, and opinion of the government. The aim of the student strikes in Burma in 1974, 1975 and 1976 was to eliminate the military dictatorship and to repeal the 1974 Constitution.

## References

ဗဟိန်း၊ သခင်။ (n.d.)။ *ကျောင်းသားအရေးတော်ပုံ*။ ဗမာနိုင်ငံလုံးဆိုင်ရာကျောင်းသားများသမဂ္ဂအသင်း။

ဝ၊ မောင်၊ သိပ္ပံ-။ (၂၀၀၇)။ *အောက်စဖို့ဒ်တက္ကသိုလ်ခရီးသွားမှတ်တမ်း*၊ တကောင်းစာအုပ်တိုက်။

# ဒေါင်းအိုးတဝေဝေ
# (၇၄၊ ၇၅ ၊၇၆ ကျောင်းသားလှုပ်ရှားမှုနဲ့ ရည်ရွယ်ချက်)

တင်အေးကြူ


## စာတမ်းအကျဉ်း

ဤဆောင်းပါးတွင် အာဏာရှင်အစိုးရ၏ ဖိနှိပ်မှုများအကြောင်းကို လည်းကောင်း၊ ၁၉၇၀ပြည့်လွန်ကာလ ကျောင်းသားလှုပ်ရှားမှုများအကြောင်း ကိုလည်းကောင်း ဖော်ပြထားပြီး အဘယ်ကြောင့် ယင်းလှုပ်ရှားမှုများ ပေါ်ပေါက်ရကြောင်းကိုလည်း ယင်းခေတ်၏ နိုင်ငံရေးအခြေအနေနှင့် စီးပွားရေး အခြေအနေများနှင့် ယှဉ်ထိုးသုံးသပ်တင်ပြထားသည်။


## ၁

> တိုးတက်မှုကို တပ်မက်တဲ့လူနည်းစုက သယ်ဆောင်တယ်။
> - ဒဂုန်တာရာ

တိုးတက်မှုဆိုတာဘာလဲ။ မရှိရာက ရှိလာတာ။ မလွတ်လပ်ရာက လွတ်လပ်လာတာ။ တစ်ပါးကျွန်ဘဝက ကိုယ့်မင်းကိုယ့်ချင်း ဖြစ်လာတာ။ ဗမာပြည် သမိုင်းကို ပြန်ပြောင်းကြည့်ရင် အင်္ဂလိပ်နယ်ချဲ့ရဲ့ ကိုလိုနီဘဝကနေ လွတ်လပ်တဲ့ နိုင်ငံဖြစ်လာတာဟာ တိုးတက်မှုပဲ။ ဖက်ဆစ်ကျွန်ဘဝကနေ ဖက်ဆစ်ဆန့်ကျင်ရေး၊ ပြည်သူ့လွတ်မြောက်ရေး စိတ်ဓာတ်အခြေခံနဲ့ တော်လှန်တိုက်ပွဲဝင်လို့ အောင်ပွဲခံအနိုင်ယူခဲ့တာဟာလည်း တိုးတက်မှုပဲ။

အဲဒီလို မှောင်ရာက လင်းလာတာ။ တစ်ပါတီအာဏာရှင်စနစ်ကနေ ပါတီစုံ ဒီမိုကရေစီစနစ် ပြောင်းလဲလာရတာ၊ ဒီမိုကရေစီမရှိရာက ဒီမိုကရေစီ ရှိလာ တာ၊ လူ့အခွင့်အရေးမရှိရာကနေ လူ့အခွင့်အရေး အပြည့်အဝရလာတာ၊ ငြိမ်းချမ်းရေးကင်းမဲ့လို့ ပြည်တွင်းစစ်ဖြစ်နေရာက ပြည်တွင်းငြိမ်းချမ်းရေး ရလာတာ၊ ဝါးအစည်းပြေသလို တစ်မျိုးသားလုံး သွေးကွဲ၊ စိတ်ဝမ်းကွဲ

မညီမညွတ်ဖြစ်နေရာက အမျိုးသားသွေးစည်း ညီညွတ်ရေးရလာတာတွေဟာ တိုးတက်မှုတွေပါပဲ။

အဲဒီတိုးတက်မှုတွေကို သမိုင်းတစ်လျှောက်တပ်တပ်မက်မက်၊ ခုံခုံမင်မင် သွေးနဲ့အသက်နဲ့ရင်းပြီး သယ်ဆောင်ခဲ့ကြတဲ့၊ သယ်ဆောင်နေကြတဲ့ လူနည်းစု ဟာ ဘယ်သူတွေပါလဲ။ ကျောင်းသားတွေပါပဲ။ ဒါ့ကြောင့် ဗမာပြည်ရဲ့ သမိုင်း ဟာ ကျောင်းသားသမဂ္ဂသမိုင်းသာ ဖြစ်တယ်။

ကိုလိုနီခေတ်၊ ဖက်ဆစ်တော်လှန်ရေးကာလ၊ အမျိုးသား လွတ်မြောက် ရေး၊ လွတ်လပ်ရေးကြိုးပမ်းမှုသမိုင်းစဉ်များရဲ့ ဦးဆောင်တပ်ဦးအဖွဲ့အစည်း များကို ပြန်လည်လေ့လာရင် တပ်မက်တဲ့ လူနည်းစုဖြစ်သူ ကျောင်းသားများ ကသာ ခေါင်းဆောင်ဖွဲ့စည်းခဲ့ကြောင်း အထင်အရှား တွေ့မြင်ရမှာ ဖြစ်ပါ တယ်။ ကျောင်းသားများက စတင်ဖွဲ့စည်းလိုက်တဲ့ ရန်ကုန်ကောလိပ် ဗုဒ္ဓဘာသာအသင်း (Rangoon College Buddhist Association) ရဲ့ တိုက်တွန်းဆော်သြမှုကြောင့် ဗုဒ္ဓဘာသာ ကလျာဏယုဝအသင်း (Young Men Buddhist Association) ဆိုတဲ့ ပထမဆုံးအသင်းဖွဲ့ စတင်ပေါ်ပေါက်ခဲ့ရတယ်။

ကျောင်းသားတွေကပဲ ဦးဆောင်ဖွဲ့စည်းခဲ့တဲ့ "ဗမာနိုင်ငံလုံးဆိုင်ရာ လူငယ်အဖွဲ့ချုပ်" ကို အခြေပြုပြီး အဲဒီလူငယ်ကျောင်းသားတွေကပဲ "တို့ဗမာ အစည်းအရုံး" ဆိုတဲ့ နယ်ချဲ့ဆန့်ကျင်ရေးသမိုင်းရဲ့ အထင်ကရ အသင်းကြီးကို ဦးဆောင်ဖွဲ့စည်းခဲ့ကြတယ်။ လွတ်လပ်ရေးတိုက်ပွဲအတွက် အဓိကကျတဲ့ အဖွဲ့အစည်းကြီးဖြစ်ခဲ့တယ်။

ကုန်းဘောင်မင်းဆက်ပြတ်ပြီး နယ်ချဲ့တို့ စတင်အုပ်ချုပ်ခဲ့တဲ့ ကာလ ကတည်းက ကိုယ်ပိုင်တပ်မတော်ရယ်လို့ ကျွန်တော်တို့နိုင်ငံမှာ မရှိတော့ပါ ဘူး။ တို့ဗမာအစည်းအရုံးပေါ်ပေါက်လာမှ "တို့ဗမာရဲတပ်" ဆိုပြီး လက်နက်မဲ့ တပ်တွေ စစ်ချီတက်ဖို့သက်သက် ပေါ်လာပါတယ်။ ကျောင်းသားသမဂ္ဂ ကလည်း သံမဏိတပ်ဆိုပြီး ဖွဲ့ပါတယ်။ ဒီတပ်တွေဟာ ဗမာ့တပ်မတော်ရဲ့ အမြုတေတွေပါ။ အဲဒီကမှ ဗမာ့လက်ရုံးတပ်၊ ဗမာ့ကာကွယ်ရေးတပ်၊ ဗမာ့ မျိုးချစ်တပ်မတော်၊ ဗမာ့တပ်မတော်၊ ပြည်သူ့တပ်မတော်ရယ်လို့ ဖြစ်လာရ တာ။ ဒါ့ကြောင့်တပ်မတော်အစ ကျောင်းသားကပါ။

တက္ကသိုလ်ကျောင်းသားများသမဂ္ဂက မွေးထုတ်ပေးလိုက်တဲ့ ကျောင်းသားကြီးတွေကပဲ ကိုယ်ကျိုးအတွက် စီးပွားမရှာ၊ အများအကျိုး နိုင်ငံ့အကျိုးအတွက် အနစ်နာခံစွန့်စားခဲ့ကြတယ်။ တိုးတက်တဲ့ အယူဝါဒတွေ

ပြန့်ပွားဖို့ "နဂါးနီစာအုပ်အသင်း" ထူထောင်ခဲ့ကြတယ်။ သမိုင်းမှာ အညီညွတ်ဆုံးတစ်ခုတည်းဖြစ်တဲ့ တပ်ပေါင်းစု "ဖ.ဆ.ပ.လ" ကို ဖွဲ့နိုင်၊ စုစည်းနိုင်ခဲ့တယ်။ သမဂ္ဂရဲ့သားတွေကပဲ ရဲဘော်သုံးကျိပ်၊ လေထီးတပ်သားတွေအဖြစ် ရဲဝံ့စွန့်စားပြီး နောက်ဆုံးဗမာပြည်ကြီး လွတ်လပ်ရေးရတဲ့အထိ စွမ်းဆောင်ပေးခဲ့ကြတယ်။

အဲဒါတွေကြောင့် ကျောင်းသားဆိုတာ လက်ရှိကျောင်းမှာ ပညာသင်ယူနေဆဲဖြစ်ပြီး တိုးတက်မှုကို လက်ဆင့်ကမ်းသယ်ယူနေကြတဲ့ လူစုလို့ပဲ သတ်မှတ်ချင်ပါတယ်။

ဒါ့ကြောင့် ဗမာနိုင်ငံမှာ သမိုင်းအစဥ်အလာကြီးမားတဲ့ ကျောင်းသားထု၊ ဂုဏ်ပြောင်ဝင်းလက်ခဲ့တဲ့ သမဂ္ဂကို ပြည်သူတစ်ရပ်လုံးက လေးစားတန်ဖိုးထားခဲ့ကြတယ်။ ကျောင်းသားရှိရင် ကျောင်းသားသမဂ္ဂ ရှိရမယ်။ ကျောင်းသားသမဂ္ဂရှိရင် ကျောင်းသားသမဂ္ဂအဆောက်အဦး ရှိရမယ်။ ကျောင်းသားသမဂ္ဂ ဘာကြောင့်ဖွဲ့စည်းဖို့ လိုအပ်သလဲ။

သမဂ္ဂဆိုတာ ဒီမိုကရေစီရဲ့ မရှိမဖြစ်လိုအပ်တဲ့ လက္ခဏာတစ်ရပ်ပါ။ လူထုလူတန်းစားအလွှာအသီးသီး သမဂ္ဂဖြစ်တည်ဖွဲ့စည်းဖို့ အထူးပဲ လိုအပ်လှပါတယ်။ ဒီမိုကရေစီသဘောအရ အရပ်ဘက်အဖွဲ့အစည်းများဟာ အစိုးရကို တည့်မတ်ကျားကန်ပေးတဲ့ အင်အားစုတွေပါ။ သမဂ္ဂကနေ လေ့ကျင့်ပျိုးထောင်ပေးလိုက်တဲ့ လူတော်လူကောင်းတွေဟာ နောင်အနာဂတ်မှာ တိုင်းပြည်ရဲ့ ခေါင်းဆောင်ကောင်းတွေမွေးဖို့ Oxford တက္ကသိုလ်ကျောင်းသားသမဂ္ဂက လေ့ကျင့်ပျိုးထောင်နေပုံတွေကို သိပ္ပံမောင်ဝရဲ့ မှတ်တမ်းမှာ အထင်အရှား တွေ့နိုင်ပါတယ်။[1]

ကနေ့ဗမာပြည်နိုင်ငံရေးရဲ့ ထိပ်တန်းပြောဆိုခွင့်ရ ပုဂ္ဂိုလ်ထူးများ မြွက်ကြားတဲ့ ရှက်ဖွယ်လိလိစကားတွေဟာ ကာတွန်းလောကသားများ လက်ရည်တက်စေပါတယ်။ ကျောင်းသားသမဂ္ဂဟာ အဲဒါကြောင့်လည်း လိုအပ်တာပါ။

"ကျောင်းသားများသည် ယခုလူများကဲ့သို့ မညီမညွတ်၊ မလုပ်တတ်မကိုင်တတ် မဖြစ်ရအောင် ကျွန်ုပ်တို့သည် ယခုအခါ ဗမာနိုင်ငံလုံးဆိုင်ရာ ကျောင်းသားသမဂ္ဂအသင်းကြီးကို အထင်အရှား တည်ထောင်ထား၏။

[1] ဝါမောင်၊ သိပ္ပံ၊ ၂၀၀၇။

ထိုအသင်းကို ဝင်ရောက်အားပေးရန်မှာ ကျောင်းသားတိုင်း၊ တိုင်းပြည်ချစ်စိတ်ရှိသော သူတိုင်း၏ တာဝန်ပေတည်း။" ဒါဟာကို အောင်ဆန်း ကျောင်းသားသမဂ္ဂဥက္ကဋ္ဌဘဝက ပြောခဲ့တဲ့စကားပါ။ အခုအချိန်ထိ လတ်ဆတ်နုပျိုအသက်ဝင်နေဆဲ ဖြစ်ပါတယ်။

ဒီမိုကရေစီနိုင်ငံတည်ဆောက်ရာမှာ ညီညွတ်ဖို့၊ လုပ်တတ်ကိုင်တတ်ဖို့၊ ပြောမှားဆိုမှား ပြက်လုံးစကားမထွက်ဖို့ ကျောင်းသားသမဂ္ဂဟာ မရှိမဖြစ်လိုအပ်လှပါတယ်။ ၁၉၈၉၊ ဖေဖော်ဝါရီ (၁၃) ရက်နေ့က တောင်ကြီးမြို့ အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ်ရုံးမှာ ဒေါ်အောင်ဆန်းစုကြည်က ဒီလိုပြောကြားခဲ့ပါတယ် -

> "ကျောင်းသားသမဂ္ဂဆိုတာ နိုင်ငံရေးပါတီ အရိုန်အဝါနဲ့လည်း ကင်းရမယ်။ ပါတီဩဇာနဲ့လည်း ကင်းဝေးရမည်။ ကျောင်းသားသမဂ္ဂတစ်ခု ထူထောင်ပေးပြီးတော့ နိုင်ငံရေးမလုပ်ရဘူးဆိုတာ စစ်မှန်တဲ့ သမဂ္ဂတစ်ခု ဖြစ်မှာမဟုတ်ဘူး"

နောက် ဒေါ်အောင်ဆန်းစုကြည်ကပဲ "လူငယ်တွေ နိုင်ငံရေး မလုပ်ရဘူးဆိုရင် ဘယ်တော့မှ ဒီမိုကရေစီထွန်းကားမှာ မဟုတ်ဘူး" လို့လည်း ပြောကြားခဲ့ပါတယ်။

ဒါ့ကြောင့် ဒီမိုကရေစီထွန်းကားဖို့ လူငယ်တွေ နိုင်ငံရေးလုပ်ရမယ်။ လူငယ်တွေ နိုင်ငံရေးလုပ်နိုင်ဖို့ စစ်မှန်တဲ့ ကျောင်းသားသမဂ္ဂ ထူထောင်ပေးရမယ်။ ကျောင်းသားသမဂ္ဂဟာ ဒီမိုကရေစီရဲ့ မရှိမဖြစ် လိုအပ်တဲ့ အမှတ်လက္ခဏာ ဖြစ်ပါတယ်။

## ၂

ကျောင်းသားဆိုတာဟာ တသီးတခြားထူးကဲတဲ့ လူတန်းစားတစ်ရပ် မဟုတ်ပါဘူး။ ပြည်သူလူထုရဲ့ သားသမီးများပါ။ ရေကို ပိုင်းခြားလို့ အကြားမထင်သလို ဆက်စပ်မှုရှိပါတယ်။ ငါးနဲ့ရေ ဥပမာပြရင် ပိုပြီးဆီလျော်ပါလိမ့်မယ်။ ရေရှိမှ ငါးရဲ့ဘဝ အသက်ရှင်နိုင်သလို မိဘတွေရဲ့ ထောက်ပံ့မှုနဲ့သာ ကျောင်းသားဘဝ ရှင်သန်ခွင့်ရရတာပါ။ မိဘတွေ စီးပွားရေးကျပ်တည်း ငွေကြေးအဆင်မပြေကြ

လို့ ပညာသင်စရိတ် မထောက်ပံ့နိုင်ရင် ကျောင်းသားဘဝတစ်ပိုင်းတစ်စနဲ့ ရပ်တန့်ကြရပါတော့တယ်။

ဒါတွေကြောင့် မိဘပြည်သူများ ဘက်ပေါင်းစုံ အထွေထွေအကျပ် အတည်းဖြစ်လို့ အုံကြွပေါက်ကွဲလာကြရင် ကျောင်းသားထုကလည်း မကင်း တရားအရ ပူးပေါင်းပါဝင်တစ်သားတည်း လှုပ်ရှားတတ်ကြတယ်။ ဒီလိုပါပဲ ကျောင်းသားလှုပ်ရှားမှုတိုင်းကိုလည်း လူထုကြီးက ထောက်ခံအားပေး ပါဝင် ကူညီကြပါတယ်။ တိုက်ပွဲစကားနဲ့ပြောရရင် လုံနဲ့လုံရိုးပါ။ ခွဲခြားကွဲပြားပြီး တိုက်ပွဲဝင်လို့ကတော့ မထိရောက်နိုင်ပါဘူး။ အရိုးထိပ်မှာ အသွားတပ်ပါမှ ပစ်မှတ်မလွဲ တိုက်ခိုက်နိုင်တာပါ။

၁၉၂၀ ပထမကျောင်းသားသပိတ်ကစလို့ ၁၉၃၆၊ ၁၉၃၈၊ ၁၉၆၂၊ ၁၉၇၄-၇၅-၇၆၊ ရှစ်လေးလုံး ပြည်သူ့ဒီမိုကရေစီအရေးတော်ပုံ၊ ၂၀၁၀ ပညာရေးသပိတ် ခရီးရှည်ချီတက်ပွဲအထိ ပြည်သူလူထုကြီးရဲ့ ထောက်ခံအားပေးမှုဟာ ကြောက်ခမန်းလိလိပါ။ ရန်ကုန်မှာ သိမ်ကြီးဈေး၊ မန္တလေးက ဈေးချိုတော်၊ သပိတ်စခန်းကျောင်းသားထုအတွက် လိုလေသေး မရှိစေရ။ ဆန်အိတ်လိုက်၊ ဆီပုံးလိုက်၊ မွေ့ရာ၊ ခေါင်းအုံး၊ ခြင်ထောင်၊ စောင်ကအစ အားပေးထောက်ခံခဲ့ ကြတယ်။

၁၉၇၄ ဒီဇင်ဘာ ဦးသန့်အရေးအခင်းကာလကများဆိုရင် လူထုကြီးက စစ်အာဏာရှင်များကို မုန်းတီးစိတ်၊ ဦးသန့်အပေါ်လေးစားစိတ်၊ ကျောင်းသား ထုကို ချစ်စိတ်ကြီးမားစွာနဲ့ ကိုယ်ပေါ်မှာဝတ်ဆင်လာတဲ့ ရွှေထည် လက်ဝတ် လက်စားတွေကိုတောင် ချွတ်ပြီး သပိတ်အားပေး ထောက်ခံလှူဒါန်းဖူးကြ တယ်။ မြင်တဲ့သူတိုင်း ကြက်သီးမွေးညင်းထကြရတယ်။

ကျောင်းသားလှုပ်ရှားမှုကို အဲဒီလိုလူထုကြီးက ထောက်ခံအားပေးတဲ့ အတိုင်း လူထုကြီးရဲ့လှုပ်ရှားမှု ဒါမှမဟုတ် လူထုကြီး အခက်အခဲ အကျပ် အတည်းကြုံကြတိုင်း ကျောင်းသားများကလည်း ပါဝင်ကူညီအားဖြည့်ကြဖို့ လက်မနှေးသွေးမကြောင်ခဲ့ကြပါဘူး။

သမိုင်းအတင်ခံရပြီး အထင်ရှားဆုံးကြီးကတော့ ရေနံမြေသပိတ်နဲ့ ကျောင်းသားခေါင်းဆောင် ကိုဗဟိန်းပါပဲ။ ရေနံမြေအလုပ်သမားများရဲ့ ကျွဲလို နွားလိုကုန်းရုန်းပြီး အလုပ်လုပ်နေရပေမယ့် လူလိုမနေရ၊ လူလို မစားရတဲ့ဘဝ။ လုပ်အားကို ခေါင်းပုံဖြတ်ခံနေရတဲ့ဘဝ။ လူမှုဖူလုံရေး ဘဝအာမခံချက် ကင်းပ နေတဲ့ အခြေအနေ။ အဲဒီနစ်နာချက်တွေကို သက်ဆိုင်ရာဆီ တင်ပြတော့လည်း

ဖြေရှင်းမပေး။ ချွေးသိပ်လွှတ်နေတာပဲ ခံနေကြရတယ်။ ဒါနဲ့ပဲ သခင်ဖိုးလှကြီး ခေါင်းဆောင်တဲ့ ရေနံမြေသပိတ်ကြီးဟာ ရန်ကုန်နေပြည်တော်အရောက် ချီတက်ဆန္ဒပြကြရတော့တယ်။ သပိတ်ချီတက်ရာ လမ်းဘေးဝဲယာက တောင်သူလယ်သမား ဆင်းရဲသားနင်းပြားများကလည်း ရေနံမြေအလုပ်သမား များနဲ့အတူ ပူးပေါင်းပါဝင်ချီတက် အားဖြည့်ကူညီခဲ့ကြတယ်။

အလုပ်သမားနှစ်ထောင်ကျော်နဲ့ လယ်သမားနှစ်သောင်းကျော် ပါဝင်တဲ့ သပိတ်တပ်ကြီးဟာ မကွေးမြို့ကိုလည်းရောက်ရော နယ်ချဲ့အစိုးရရဲ့ ဖိနှိပ်မှု တွေကို ခါးစည်းခံရပါတော့တယ်။ ပုဒ်မ (၁၄၄) ထုတ်လား ထုတ်ရဲ့၊ ခေါင်းဆောင်တွေကို ဖမ်းလားဖမ်းရဲ့။ အဲဒီလိုရေနံမြေ သပိတ်တပ်ကြီး မကွေးမြို့မှ ခရီးမဆက်နိုင် အီခံနေတဲ့အချိန်မှာ ဗမာနိုင်ငံလုံးဆိုင်ရာ ကျောင်းသားသမဂ္ဂများအဖွဲ့ချုပ်က သပိတ်ကြီးကို ကူညီနိုင်ဖို့ ကျောင်းသား ခေါင်းဆောင် ကိုဗဆွေနဲ့ ကိုဗဟိန်းကို လွှတ်လိုက်ပါတယ်။ တို့ဗမာ အစည်းအရုံးကလည်း ကိုယ်စားလှယ်တွေ လွှတ်ပေးကြပါတယ်။

အဲဒီလို အလုပ်သမားလယ်သမားတို့ရဲ့ သပိတ်တိုက်ပွဲမှာ ကျောင်းသား သမဂ္ဂက ပါဝင်ပူးပေါင်းလှုပ်ရှားခဲ့ရာက ကျောင်းသား ခေါင်းဆောင်ကိုဗဟိန်းရဲ့ ရဲရဲတောက်မိန့်ခွန်းဖြစ်တဲ့ "မြင်းခွာတစ်ချက် ပေါက်ရင် မီးဟုန်းဟုန်း တောက်စေ့မယ်" ဆိုတဲ့ အဆိုအမိန့်ဟာ ဗမာ့သမိုင်းမှာ ဥဒါန်းတွင် ကျန်ခဲ့ပါတော့တယ်။[2]

၁၉၆၂ ခုနှစ် ဗိုလ်နေဝင်းဦးဆောင်တဲ့ စစ်အာဏာရှင်တစ်စုက လက်နက် အားကိုးနဲ့ တိုင်းပြည်ကို သိမ်းပိုက်လိုက်ပါတယ်။ စစ်အာဏာရှင်စနစ် တရားဝင်ဖြစ်အောင်၊ ရေရှည်တည်တံ့ခိုင်မြဲအောင်၊ ၁၉၇၄ ဖွဲ့စည်းပုံနဲ့ အတည်ပြုဖို့ ကြိုးစားလာပါတယ်။ လူထုကြီးကလည်း ဆန္ဒခံယူပွဲ မအောင်မြင် ဖို့၊ ဖွဲ့စည်းပုံအတည်မပြုနိုင်ဖို့ နည်းမျိုးစုံ ကန့်ကွက်ခဲ့ကြပေမယ့် စစ်အုပ်စု ကတော့ အလိမ်အညာ မဲအဖြူများနဲ့ အတည်ပြုပြဋ္ဌာန်းခဲ့ပါတယ်။

စစ်တပ်နည်းစစ်တပ်ဟန် ဆိုရှယ်လစ်စနစ်နဲ့ တိုင်းပြည်တည်ဆောက် လိုက်တာ ဆယ်စုနှစ်တစ်စုအတွင်း ပြည်သူလူထု တစ်ရပ်လုံး ဖွတ်ကျော၊ပြာစု စားဝတ်နေရေး ကျပ်တည်းကုန်ပါတော့တယ်။ အလုပ်သမားထုကြီးမှာလည်း ဒုက္ခကို ခါးစည်းမခံနိုင်တဲ့အဆုံး ငတ်ရင်းအသေမခံ တိုက်ရင်းအသေခံမယ်

[2] ဗဟိန်း၊ သခင်၊ ၁၉၃၉။

ဆိုတဲ့ စိတ်ဓာတ်နဲ့ သပိတ်တိုက်ပွဲ စတင်ဆင်နွှဲကြရပါတော့တယ်။ ၁၉၇၄ မတ်လမှာ ပုလိပ် ချည်မျှင်နဲ့အချောကိုင်စက်ရုံက စတင်တောက်လောင်လိုက်တဲ့ သပိတ် တောမီးဟာ တစ်ပြည်လုံးကို ပျံ့နှံ့ ရောဝတီကိုစုန်ဆင်းပြီး သပိတ် မီးတောက်ကြီး ဖြစ်လာပါတော့တယ်။

သမဂ္ဂအဆောက်အဦး အဖျက်ဆီးခံခဲ့ရပေမယ့် ရင်ထဲနှလုံးသားထဲမှာ သမဂ္ဂစိတ်ဓာတ်ကိန်းဝပ်နေတဲ့ ကျောင်းသားထုကလည်း လက်သည်းဆိတ်တော့ လက်ထိပ်နာဆိုတဲ့အတိုင်း အလုပ်သမားသပိတ်ကြီးကို ကိုယ်စွမ်းဉာဏ်စွမ်းရှိသမျှ အားသွန်ခွန်စိုက် ပူးပေါင်းကူညီခဲ့ကြ ပါတယ်။ စက်ရုံကိုသိမ်းပိုက်၊ ဝင်းတံခါးပိတ်ပြီး ဆန္ဒပြနေကြတဲ့ အလုပ်သမားများအတွက် စက်ရုံတစ်ခုနဲ့တစ်ခု ဆက်သွယ်ရေး၊ သတင်းဖလှယ်ရေးတွေကို ကျောင်းသားများက ကူညီပေးကြပါတယ်။ စက်ရုံသပိတ်စခန်းများအတွက် လိုအပ်တဲ့စားနပ်ရိက္ခာ၊ ဆေးဝါးများကိုလည်း ကျောင်းသားများက ပြည်သူလူထုထံ အလှူခံပြီး ပေးပို့ထောက်ခံခဲ့ကြပါတယ်။

တက္ကသိုလ်ဝန်းကျင်ညများရဲ့ မိန်းခလေးများအဆောင်ရှေ့က ဂစ်တာဝိုင်းများကလည်း နီးစပ်ရာ စက်ရုံသပိတ်စခန်းရှေ့သွားပြီး စိတ်ဓာတ်ခွန်အားဖြည့်ဂီတတေးသီချင်းများ သီဆိုအားပေးကြပါတယ်။ ပြဿနာတစ်ခုဖြစ်ရင် ရင်းမြစ်ကိုရှာပြီး ပြေလည်အောင်ဖြေရှင်းမပေးတတ်တဲ့ စစ်အာဏာရှင်တို့ရဲ့ သန္ဓေပါဥာဉ်အတိုင်း တစ်ပြည်လုံး အုံကြွနေတဲ့ အလုပ်သမားသပိတ်ကြီးကို လက်ဝဲလက်ယာအဖျက်သမားများရဲ့ နှောင့်ယှက်မှုပယောဂဆိုပြီး နာမည်ဖျက်သိက္ခာချပြန်ပါတယ်။ အလုပ်သမားများကလည်း ဘဝအရ၊ လူတန်းစားအရ ပြတ်သားစွာ ပြန်လည်ချေပပြီး “ဟုတ်ပါတယ်၊ ပယောဂဆိုရင်လည်း ထမင်းမဝတဲ့ ပယောဂဗျ”တဲ့။

အလုပ်သမားတွေတောင်းဆိုတဲ့ “ဆီဆန်” အစား စစ်အာဏာရှင်များပေးတာက ကျည်ဆံတွေပါ။ ဇွန် (၆) သမိုင်းရင်ပြင်နီမှာ (ကျွန်တော် မှတ်မိသလောက်) ကိုဝင်းအောင် (ဥပဒေကျောင်းသား)ဟာ စစ်အုပ်စုရဲ့ သေနတ်ကျည်ဆံကြောင့် ကတ္တရာလမ်းမပေါ်မှာ ကျဆုံးခဲ့ရပါတယ်။ ကိုစိုးဝင်း (ဆေး-၂ ကျောင်းသား)၊ ကိုဝင်းစိန် (RIT ကျောင်းသား)၊ ကိုခင်မောင်အေး (ခ) အောင်ထူး (ရန်ကုန်၊ဝိဇ္ဇာသိပ္ပံတက္ကသိုလ်ကျောင်းသား) တို့ သေနတ်ကျည်ဆံမှန် ဒဏ်ရာရပြီး အဖမ်းဆီးခံကြရပါတယ်။ စစ်အာဏာရှင်များရဲ့ အလုပ်သမားသပိတ်အပေါ် အကြမ်းဖက်ဖြိုခွင်းမှုကြောင့် ရန်ကုန်တစ်မြို့တည်းမှာ အလုပ်သမား၊

ကျောင်းသားပြည်သူ ကျဆုံးခဲ့တာ (၄၆) ယောက် ရှိပါတယ်။ (၁၂၃) ယောက် ဒဏ်ရာရခဲ့ရပါတယ်။

လောင်စာတွေ မွနေတဲ့ကာလမှာ မီးပွားတစ်စကျရင်ကို မီးထတောက်တတ်တဲ့ သဘာဝအရ ၇၄ ဒီဇင်ဘာ ဦးသန့်အရေးအခင်း၊ ၇၅ ဇွန် အလုပ်သမားသပိတ်နှစ်ပတ်လည် (ရွှေတိဂုံဘုရားအရေးအခင်း)၊ ၇၆ မတ် ဆရာကြီးသခင်ကိုယ်တော်မှိုင်း ရာပြည့်အရေးအခင်းများ ဆက်တိုက်ဆိုသလို အုံကြွပေါက်ကွဲလာကြပါတော့တယ်။

ဥပဒေမဲ့အာဏာသိမ်းမှုကို ၁၉၇၄ အခြေခံဥပဒေနဲ့ တရားဝင်ဖြစ်အောင် ကြိုးစားလာတဲ့ စစ်အာဏာရှင်တွေဟာ ၁၉၄၇ အခြေခံဥပဒေက အတည်ပြုပြဋ္ဌာန်းထားတဲ့ နိုင်ငံတော်သီချင်းကို လိုသလို ပုံဖျက်လိုက်ကြတယ်။ လောကပါလတရားကိုအခြေခံတဲ့ သီချင်းရဲ့ ခြေဆင်းကို ဖြုတ်ပစ်လိုက်တယ်။ "ကမ္ဘာမကြေ" ဆိုတဲ့စာသားနဲ့ ကာရံမိမိ မမိမိ "ဗမာပြေ" နေရာမှာ "မြန်မာပြေ" လို့ ပြောင်းလိုက်တယ်။ "ဗ" နဲ့ "မ" ပြဿနာ။ "ဗ.က.သ" "မ.က.သ"။ တိုင်းရင်းသားသွေးစည်းညီညွတ်ရေးကို မြင်းသမားဉာဏ် အကောက်ကြံဖြိုခွဲသွားတာပါ။

၇၄ ဖွဲ့စည်းပုံကို အတည်ပြုချင်လွန်းပြီး အဲဒီကာလတွေက ဗမာပြည်အကျဉ်းထောင်အသီးသီးမှာ မနက်အိပ်ရာထရင် နိုင်ငံတော် သီချင်းဆိုကြရပါတယ်။ ၇၄-၇၅-၇၆ မှာ စစ်အာဏာရှင်ကို တုံ့ပြန်တိုက်ခိုက်ခဲ့ကြတဲ့ သပိတ်လေးလုံးဟာ လတ်တလောမီးပွားစအမျိုးမျိုး ခြားနားပြီး သပိတ်မှောက်ခဲ့ကြပေမယ့် အဓိကမီးတောက်ကြီးကတော့ စစ်အာဏာရှင်စနစ်ဆန့်ကျင်ရေး၊ ၇၄ ဖွဲ့စည်းပုံ ဖျက်သိမ်းရေးပါ။ ဒါ့ကြောင့် သပိတ်လေးလုံးနဲ့ အကျဉ်းကျနေကြပေမယ့် ကျောင်းသား၊ အလုပ်သမားတွေဟာ ဦးခေါင်းမှာ သွေးအချင်းချင်း နီလင့်ကစား ဒူးမညွတ်ကြပါဘူး။ ထောင်ထဲမှာလည်း ၇၄ ဖွဲ့စည်းပုံကို ကန့်ကွက်၊ ဖွဲ့စည်းပုံလာနိုင်ငံတော်သီချင်းကို ငြင်းဆန်ကြတယ်။ နိုင်ငံတော်သီချင်း မဆိုမှုနဲ့ လူမဆန်စွာ ရိုက်နှက်အကျဉ်းတိုက်ပိတ်ပြစ်ဒဏ်ကို ပျော်ပျော်ပါးပါးကြီး ခံယူခဲ့ကြပါတယ်။

လွတ်လပ်ရေးရဲ့ ဖွားဖက်တော်ဖြစ်တဲ့ ပြည်တွင်းစစ်မီးကြီး ပြည်မမြေပြန့်အထိ သည်းသန်ပြင်းထန်နေချိန်မှာ ဆရာကြီးသခင်ကိုယ်တော်မှိုင်း ဦးစီးပြီး ပြည်သူလူထုတစ်ရပ်လုံးက ငြိမ်းချမ်းရေး ချီတက်ဆန္ဒပြ လှုပ်ရှားမှုကြီး ခြိမ့်ခြိမ့်သဲသဲ ကျင်းပကြပါတယ်။ "ပြည်သူနဲ့ လက်တွဲလို့သာချီ x ပြည်သူကို

ငါတို့အမြဲယုံကြည် x ပြည်သူအတွက် အလုပ်အကျွေးပြုပါမည် x ဗ.က.သ သွေး သမိုင်း ထာဝစဥ္စနီ x" ဆိုတဲ့ သမဂ္ဂသီချင်းအတိုင်း ကျောင်းသားများက စိတ် ရောကိုယ်ပါ ထောက်ခံအားပေး၊ ပူးပေါင်းလှုပ်ရှားခဲ့ကြတယ်။ ငြိမ်းချမ်းရေး စစ်ကြောင်းများကို ကြိုဆိုညှော်ခံခဲ့တယ်။ သမဂ္ဂအသံ ကေသီပန်တီးဝိုင်းနဲ့ ငြိမ်းချမ်းရေးတေးသံ တစ်ပြည်လုံးကို ချိုးဖြူတောင်ပံခတ်ခဲ့ကြတယ်။

သဘာဝဘေးအန္တရာယ် နာဂစ်မုန်တိုင်းကြောင့် ပြည်သူတွေ ဒုက္ခပရိဝေဒ ရောက်နေချိန်၊ တာဝန်ရှိတဲ့အစိုးရရဲ့ တာဝန်ယူမှုတာဝန်ခံမှု ကင်းမဲ့နေတဲ့ အချိန် လူမြင်မကောင်းအောင် ယင်တလောင်းလောင်းနဲ့ ပုပ်ပွနံစော်နေတဲ့ အလောင်းပေါင်းမြောက်မြားစွာကို မြေမြှုပ်သင်္ဂြိုဟ် ပေးခဲ့ရတာလည်း ကျောင်းသားတွေပါပဲ။

ပွင့်လင်းမြင်သာမှုမရှိတဲ့ လျှို့ဝှက်စာချုပ်နဲ့ ပြည်သူ့သယံဇာတတွေကို အမွေဆိုင်ပစ္စည်းလိုသဘောထား လက်သိပ်ထိုးရောင်းစား တိုင်းပြည်ဘဏ္ဍာ ကနည်းနည်း ပွဲခများများယူထားတဲ့ ဦးပိုင်-ဝမ်ပေါင် စီမံကိန်းကို ဆန့်ကျင် ကန့်ကွက်ပြီး လက်ပံတောင်းတောင်တစ်ဝိုက်မှာ ခွပ်ဒေါင်းအလံစိုက်ခဲ့တာ လည်း ကျောင်းသားတွေပါပဲ။

ကျောင်းသားတွေဟာ ဆင်းရဲသားတွေအတွက် ပညာဒါနကျောင်းတွေ ဖွင့်ပေးတယ်။ စစ်ဘေးဒုက္ခသည်တွေဆီကို စားနပ်ရိက္ခာ အဝတ်အထည်နဲ့ မေတ္တာတရား၊ ကိုယ်ချင်းစာတရားတွေ ကိုယ်တိုင်ကိုယ်ကျ သွားပေးတယ်။ အလုပ်သမား၊ လယ်သမားပြဿနာကအစ ကျူးကျော်အိမ်ယာ၊ လမ်းဘေး ပန်းရောင်းတဲ့ ကလေးကိစ္စအထိ ကျောင်းသားတွေဟာ ပါဝင်ကူညီပြီး ပြည်သူ ကို အလုပ်အကျွေးပြုကြပါတယ်။

# ၃

ကျောင်းသားတွေဟာ သူတို့ဖြတ်သန်းနေတဲ့သမိုင်းက သူတို့ ပခုံးပေါ် တင်ပေး လိုက်တဲ့တာဝန်ကို ကျေပွန်အောင်ထမ်းဆောင်ကြရင်း အခြားလူထုလူတန်း စားတွေရဲ့ လှုပ်ရှားမှု၊ လိုအပ်မှုတွေကို အခြေအနေအချိန်အခါမရွေး အားတက် သရော တက်ကြွလှုပ်ရှားကြတဲ့ ပြည်သူနဲ့ တစ်သားတည်းကျသူတွေပါ။

အင်္ဂလိပ်နယ်ချဲ့အစိုးရဟာ ကျွန်ပညာရေးကို သင်ပေးတယ်ပဲထားဦး သူ သင်ပေးတဲ့ပညာကို တန်ဖိုးထားတယ်။ ကျောင်းသားတွေကို တန်ဖိုးထား တယ်။ တက္ကသိုလ်ကို တန်ဖိုးထားသလို ကျောင်းသားသမဂ္ဂကိုလည်း တန်ဖိုး ထားတယ်။ လွတ်လပ်စွာ လှည့်လည်ရန်အတွက် နေရာရှိတယ်။ ကျောင်းသား လှုပ်ရှားမှုအတွက် အမြင့်ဆုံးပြစ်ဒဏ်ဟာ ကျောင်းထုတ်တာပဲရှိခဲ့တယ်။ တက္ကသိုလ်အရေး၊ ကျောင်းသားကိစ္စကို အစိုးရက ဝင်ရောက်စွက်ဖက်ခြင်း မပြုဘူး။

လွတ်လပ်ရေးရအပြီး ကိုယ့်တိုင်းရင်းသားချင်း အုပ်ချုပ်ခါမှ တက္ကသိုလ် နယ်မြေမှာ မီးသတ်ပိုက်နဲ့ ထိုးတဲ့အသံ၊ မျက်ရည်ယိုဗုံး၊ မီးခိုးငွေ့၊ သေနတ်သံ တွေ ဆူညံကြတော့တယ်။ ဖောက်ပြန်တဲ့ အစိုးရအဆက်ဆက်က သမဂ္ဂကို ဖြိုခွင်းဖို့ ကျောင်းသားထုကို ဦးညွှတ်ဒူးထောက်စေဖို့ အခါမလတ် လုံးပမ်းကြ ပါတော့တယ်။ ၁၉၅၃ အောက်တိုဘာ ကျောင်းတစ်လပိတ်ရေး၊ အင်းဝတံခါး အရေးအခင်းက စလို့ တက္ကသိုလ်ကံ့ကော်တန်းဟာ သွေးစွန်းခဲ့ရပါပြီ။ ၁၉၅၆ ခုနှစ် ပညာရေးဝန်ကြီးက ကျောင်းသားသမဂ္ဂကို ကျောင်းသားကောင်စီနဲ့ အစားထိုးဖို့ ကြိုးစားခဲ့ပါသေးတယ်။ နောက် အစိုးရဒေါက်တိုင် ကျောင်းသား အဖွဲ့တွေ ဖွဲ့ပေးပြီး ကျောင်းသားညီညွတ်ရေးကို ဖြိုခွဲကြတယ်။ ၁၉၆၂ မတ်လ (၂) ရက်နေ့မှာ ဗိုလ်နေဝင်းတို့ စစ်အာဏာရှင်တစ်စုက တိုင်းပြည်အာဏာကို အဓမ္မသိမ်းယူပြီးနောက် မေ (၂၉) ရက်မှာ ဥပဒေ (၂)ရပ်ကို ရုပ်သိမ်းခဲ့တယ်။

တော်လှန်ရေးကောင်စီရဲ့ ဥပဒေအမှတ် (၂) နဲ့ အမှတ် (၃) ပါ စစ်အုပ်စု တက်တက်ချင်းပဲ ရန်ကုန်တက္ကသိုလ်နဲ့ မန္တလေးတက္ကသိုလ်တို့ရဲ့ တက္ကသိုလ် အက်ဥပဒေကို ရုပ်သိမ်းသည့် ဥပဒေ (၂)ရပ် ပြဋ္ဌာန်း ပါတော့တယ်။ မကြာပါဘူး တက္ကသိုလ်ဝင်းထဲကို စစ်တပ်နဲ့ကျူးကျော် ကျောင်းသားတစ်ရာကျော်ကို ပစ်သတ်၊ သမဂ္ဂအဆောက်အဦးကို ဗုံးခွဲ ဖြိုချပစ်လိုက်ပါတယ်။ မသေလို့ ကျန်ခဲ့တဲ့ ကျောင်းသားတွေကို လိုက်ဖမ်း၊ ထောင်ချ၊ ကိုကိုးကျွန်းပို့။ ကျောင်းသားကို ဖမ်းလို့မမိရင် မိဘတွေကို ဓားစာခံအဖြစ် ပြန်ပေးဆွဲတတ်ကြ ပါတယ်။ ဒါကြောင့် မြို့ပေါ်မြေပေါ်မှာ နေလို့မရတော့တဲ့ ကျောင်းသားတွေဟာ လက်နက်ကိုင်တော်လှန်ရေးရှိရာ လွတ်မြောက်ဒေသကို သွားရောက် ခိုလှုံပြီး စစ်အုပ်စုကို ဆက်လက်ဆန့်ကျင် တိုက်ခိုက်ကြရပြန်ပါတယ်။

အလားတူပါပဲ ၇၄-၇၅-၇၆ သပိတ်လေးလုံးမှာ ကျောင်းသားတွေကို သတ်၊ ဖမ်းဆီး၊ ထောင်ချနဲ့ လက်ယဉ်နေတဲ့ စစ်အာဏာရှင်ဟာ ထင်တိုင်းကြဲ ဖိနှိပ်ခဲ့

ပါတယ်။ ဇူလိုင် (၇) ရက်အရေးတော်ပုံလို ဖောက်ဖျက် မရတဲ့ ရာဇဝတ်ပြစ်မှုကြီးကို ထပ်မံကျူးလွန်လိုက်ပြန်ပါတယ်။ အဲဒါကတော့ လူမသတ်၊ မုဒိမ်းမကျင့်၊ ခားပြမတိုက်တဲ့ အပ်တိုတစ်ချောင်းမျှ မပါပဲ ဆန္ဒပြမှုသက်သက်နဲ့ ချင်းတိုင်းရင်းသား ကျောင်းသားခေါင်းဆောင် တင်မောင်ဦးကို သေဒဏ်အမိန့်ချကြိုးပေးသတ်လိုက်ခြင်းပါပဲ။ ဖိနှိပ်မှုကို မခံရပ်နိုင်တဲ့အဆုံး ကျောင်းသားများဟာ သပိတ်အပြီးမှာ တစ်သုတ်၊ အဖမ်းဆီးခံကျောင်းသားများကလည်း ထောင်က လွတ်ပြီး တစ်သုတ်၊ လွတ်မြောက်ဒေသတွေဆီ အရောက်သွားလို့ တောခိုကြပြီး လက်နက်ကိုင် ပြည်သူ့ဒီမိုကရေစီတော်လှန်ရေးမှာ ပူးပေါင်းပါဝင်ကြပါတော့တယ်။

ရှစ်လေးလုံး ပြည်သူ့အရေးတော်ပုံကြီးရဲ့ လူထုလက်ထဲက အာဏာကို စစ်အာဏာရှင်များက လက်နက်အားကိုးနဲ့ တစ်ကျော့ပြန် သိမ်းပိုက်ခဲ့ပါတယ်။ တစ်ပြည်လုံးက လမ်းမတိုင်းမှာ သွေးအိုင်ထွန်းအောင် စစ်အုပ်စုက လက်စွမ်းပြ မိုက်ရိုင်းထွားကျိုင်းကြတယ်။ ကျောင်းသားအုပ်စုမှာလည်း သေသူသေ၊ ထောင်ကျသူကျ၊ ပြေးသူပြေး ရနဲ့ပါပဲ။ ဖိနှိပ်မှုကို မခံနိုင်တဲ့အဆုံး နီးစပ်ပတ်သက်ရာ လက်နက်ကိုင် တော်လှန်ရေးအဖွဲ့တွေဆီ သွားရောက်ပူးပေါင်းပြီး စစ်အာဏာရှင်စနစ်ကို စစ်တလင်းမှာ ဖြေရှင်းရင်ဆိုင် တိုက်ခိုက်ခဲ့ပါတော့တယ်။

စစ်အားမကောင်းရင် ဂျစ်ကားတောင်မမောင်းနိုင်တဲ့ စစ်အုပ်စုဟာ စစ်တပ်တန်ခိုးထွားအောင် ပြည်တွင်းစစ်ကို ပိုးမွေးသလို မွေးထားပြီး ဟန်ပြငြိမ်းချမ်းရေးအတုနဲ့ အသက်ဆက်နေကြတာပါ။ ပြည်တွင်းစစ် နှစ် (၇၀) နီးပါးမှာ တော်လှန်ရေးမလုပ်ဖူးတဲ့၊ လက်နက်မကိုင်ဖူးတဲ့ တိုင်းရင်းသားအဖွဲ့ဆိုတာ မရှိသလောက်ပါပဲ။

ကမ္ဘာပေါ်မှာ ပြည်တွင်းစစ်အရှည်ကြာဆုံးနိုင်ငံ၊ စစ်အာဏာရှင် အုပ်စိုးမှုသက်တမ်းအရှည်ဆုံးတိုင်းပြည်မို့ ကမ္ဘာမှာ မရှိဘူးသေးတဲ့ ကျောင်းသားလက်နက်ကိုင်တပ်မတော်တစ်ရပ် ပေါ်ပေါက်ခဲ့ရပါတယ်။ စစ်အာဏာရှင်ရဲ့ ဖိနှိပ်မှုယန္တရားကြောင့် ကျောင်းသားထုဟာ မြေပေါ် သပိတ်တိုက်ပွဲ၊ မြေအောက်လှုပ်ရှားမှု နောက်ဆုံးလက်နက်ကိုင် တော်လှန်ရေးထိ နည်းသဏ္ဍာန်မျိုးစုံနဲ့ တိုက်ခိုက်လှုပ်ရှားကြရပါတယ်။ အာဏာရအစိုးရရဲ့ ဖိနှိပ်လိုက်လျော လွှမ်းမိုးနေတဲ့ နိုင်ငံရေးစနစ် ပေါ်လိုက်ပြီး ကျောင်းသားလှုပ်ရှားမှုရဲ့ နယ်ပယ်အသွင်သဏ္ဍာန် ပြောင်းလဲကြပါတယ်။

# ၄

နိုင်ငံတကာအခြေအနေမှာ ဒုတိယကမ္ဘာစစ်မဖြစ်မီကတည်းက မာက်စ်ဝါဒ ဟာ ပညာတတ်အလွှာမှာ ခေတ်စားလာခဲ့ပါတယ်။ အဲဒီကာလကို နိုင်ငံရေး သုတေသီများက "ပန်းနုရောင်နှစ်ကာလများ (Pink Age)" လို့ သတ်မှတ်ကြရဲ့။ ဗမာနိုင်ငံကျောင်းသားလှုပ်ရှားမှုမှာလည်း အဲဒီဂယက်ရိုက်ခတ်ခဲ့ပါတယ်။ ကိုအောင်ဆန်းဟာ B.A ဘွဲ့ပဲယူပြီး B.L ကို ဆက်မတက်တော့ပဲ တို့ဗမာ အစည်းအရုံးကိုဝင်ကာ သခင်ဘွဲ့ခံယူလို့ နိုင်ငံရေးလောကထဲ ခြေစုံပစ်ဝင်ခဲ့ပါ တယ်။ ကိုအောင်ဆန်းတို့ ကျောင်းသားလူငယ်တစ်သိုက် "တို့ဗမာအစည်း အရုံး" ထဲလည်းရောက်ရော အစည်းအရုံးရဲ့အလံဖြစ်တဲ့ သုံးရောင်ခြယ် ကဒေါင်းဟာ သုံးရောင်ခြယ် တူတံစဥ်အလံ ဖြစ်သွားပါတော့တယ်။

၁၉၃၆ အလွန် တက္ကသိုလ်ကျောင်းသားသမဂ္ဂက ထုတ်ဝေတဲ့ စာစောင် မဂ္ဂဇင်းတွေမှာ လက်ဝဲဝါဒကို အထင်အရှား အခိုင်အမာတွေ့ရပါတယ်။ ဗမာ နိုင်ငံလုံးဆိုင်ရာ ကျောင်းသားသမဂ္ဂများအဖွဲ့ချုပ် (ဗ.က.သ) ရဲ့ ပဉ္စမအကြိမ် ညီလာခံအပြီးမှာ ကျောင်းသားခေါင်းဆောင် ကိုဗဟိန်း၊ ကိုထွန်းရှိန် (ဗိုလ်ရန်နိုင်)နဲ့ ကိုကို တို့က ဦးစီးပြီး အရေးတော်ပုံ လက်ရေးသတင်းစာ ထုတ်ဝေကြပါတယ်။ နယ်ချဲ့ဆန့်ကျင်ရေး အရေးတော်ပုံ သတင်းစာရဲ့ လိုဂို (အမှတ်တံဆိပ်)ဟာ တူတံစဥ်ပုံနဲ့ပါ။

၁၉၃၈ (၁၃၀၀ ပြည့်အရေးတော်ပုံ) အပြီး ကျောင်းသားခေါင်းဆောင် ကိုအောင်ဆန်း၊ ကိုဗဟိန်း၊ ကိုလှဖေ (ဗိုလ်လက်ျာ) တို့ဟာ ကွန်မြူနစ်ပါတီ တည်ထောင်တဲ့အထိ နိုင်ငံတကာဂယက် ရိုက်ခတ်ခဲ့ပါတယ်။

၁၉၅၀ ဝန်းကျင်ကာလများ။ ကမ္ဘာကြီးမှာ ကိုရီးယားစစ်ပွဲ၊ ကျူးဘား ပြဿနာတို့နဲ့ တတိယကမ္ဘာစစ်အန္တရာယ်က အခြိမ်းခြောက်ခံ နေရပါတယ်။ အဲလိုအချိန်မှာ ကမ္ဘာ့နာမည်ကြီးစာပေ၊ ဂီတအနုပညာရှင်များ၊ သိပ္ပံပညာရှင်၊ တတ်သိပညာရှင်စုစည်းကာ "ကမ္ဘာ့ငြိမ်းချမ်းရေး ကွန်ဂရက်" ကို ထူထောင်ပြီး ကမ္ဘာ့ငြိမ်းချမ်းရေး၊ အနုမြူဗုံးပိတ်ပင်ရေးအတွက် လှုပ်ရှားတောင်းဆိုကြပါ တယ်။ အဲဒီကာလက ကမ္ဘာ့ငြိမ်းချမ်းရေးကော်မတီ ဥက္ကဋ္ဌက ကိုဌေးမြိုင် (ဒဂုန်တာရာ) ဖြစ်ပြီး ရ.သ.က ဥက္ကဋ္ဌ ကိုစိုးသိန်း အဖွဲ့ဝင်အဖြစ် ပါဝင်ခဲ့ပါ တယ်။ ကျောင်းသားသမဂ္ဂက ဦးစီးပြီး နိုင်ငံတကာဖြစ်စဥ် ကမ္ဘာ့ငြိမ်းချမ်းရေး၊ အနုမြူဗုံးပိတ်ပင်ရေး ဆန္ဒပြလက်မှတ်များ ကောက်ခံခဲ့ကြပါတယ်။

၁၉၅၀ခုနှစ်မှာ တောင်ကိုရီးယားနဲ့ မြောက်ကိုရီးယား စစ်ဖြစ်ကြတယ်။ မြောက်ကိုရီးယားက ကျူးကျော်တယ်ဆိုတဲ့ ကုလသမဂ္ဂရဲ့ ဆုံးဖြတ်ချက်ကို ဗမာအစိုးရက ထောက်ခံခဲ့တယ်။ အဲဒီအချိန်က တ.က.သကို အစိုးရလက်ဝေခံ ကျောင်းသားများက အုပ်စီးထားလို့ တ.က.သ အာဘော် ဘာမှ မထုတ်ပြန်ခဲ့ဘူး။ ဒါပေမဲ့ တိုးတက်တဲ့ ကျောင်းသားတွေစုစည်းပြီး ကိုရီးယားစစ်ပွဲနဲ့ ပတ်သက်တဲ့ ကုလသမဂ္ဂဆုံးဖြတ်ချက်ကို ကန့်ကွက်ခဲ့ကြတယ်။ ၁၉၅၀ ခုနှစ် နောက်ပိုင်းတွေမှာ ဗမာနိုင်ငံလုံးဆိုင်ရာ ကျောင်းသားသမဂ္ဂများ အဖွဲ့ချုပ် (ဗ.က.သ) ဟာ ကမ္ဘာ့ကျောင်းသားသမဂ္ဂ International Union of Students (IUS) မှာ အဖွဲ့ဝင်ဖြစ်သွားပြီး နိုင်ငံတကာကျောင်းသားလှုပ်ရှားမှုနဲ့ ဟန်ချက်ညီ လှုပ်ရှားခဲ့ကြတယ်။ ဒါကြောင့် ဂျပန်နိုင်ငံ ဟီရိုရှီးမားမြို့မှာ ကျင်းပတဲ့ နျူးကလီးယားဗုံး ဆန့်ကျင်ရေးညီလာခံကိုလည်း တက်ရောက်ခဲ့တယ်။

၁၉၅၈၊ ပီကင်းကမ္ဘာ့ကျောင်းသားများသမဂ္ဂညီလာခံ၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံ (၁၀) နှစ်မြောက် လွတ်လပ်ရေးနေ့ကိုလည်း တက်ရောက်ခဲ့ကြတယ်။ တခြားနိုင်ငံတွေမှာ အထူးသဖြင့် ခရီးဝေးကွာတဲ့ ဥရောပနိုင်ငံတွေမှာ ကျင်းပတဲ့ ကမ္ဘာ့ကျောင်းသားများသမဂ္ဂညီလာခံတွေ ကိုတော့ ဗမာပြည်ကနေ သွားမတက်နိုင်တော့ဘူး။ ဒါပေမဲ့ ကျင်းပတဲ့နိုင်ငံမှာ အစိုးရပညာတော်သင် အဖြစ် ရောက်နေတဲ့ ကျောင်းသားကို အကြောင်းကြားပြီး လျှို့လျှို့ဝှက်ဝှက် (အစိုးရမသိအောင်) တက်ခိုင်းကြရတယ်။

ဟင်းခတ်အမွှေးအကြိုင်ပေါ်များရာ အိန္ဒိယတိုက်ကိုရှာရင်း ကိုလံဘတ် သွားတွေ့မိတဲ့ မြောက်အမေရိကတိုက်မှာ ဒေသခံ ရက်အင်ဒီးယန်းတွေအပေါ် အနိုင်ကျင့်ဗိုလ်ကျပြီး နိုင်ငံတည်ထောင်ခဲ့တဲ့ အမေရိကန်ဟာ ၁၉၆၀ ခုနှစ် ကာလတွေမှာ “ကမ္ဘာ့ပုလိပ်ကြီး” ဆိုပြီး နိုင်ငံတကာဖြစ်စဥ်မှာ နာမည်ပျက် နေပါတော့တယ်။ အာရှအာဖရိက လက်တင်အမေရိကနိုင်ငံတွေကို ကူညီရေး အရောင်ပြ၊ စီအိုင်အေ လက်ထောက်ချလို့ ပြည်တွင်းရေးတိုင်းကို ဝင်ရောက် စွက်ဖက်နေပါတော့တယ်။ တက္ကသိုလ်ကျောင်းသားသမဂ္ဂက အစည်းအဝေး ဆုံးဖြတ်ချက်ချပြီး အမေရိကန်ကျူးကျော်မှုဆန္ဒပြပွဲကို ရန်ကုန်ရှိ အမေရိကန် သံရုံးရှေ့မှာ ကျင်းပခဲ့ကြပါတယ်။

ဗမာပြည်ရဲ့ ၇၄-၇၅-၇၆ သပိတ်ကာလဝန်းကျင်မှာ တောင်ကိုရီးယား ဆိုးလ်တက္ကသိုလ်၊ ထိုင်း သမ်မာဆပ်တက္ကသိုလ်တို့ရဲ့ စစ်အာဏာရှင်

ဆန့်ကျင်ရေး သပိတ်တိုက်ပွဲများဟာလည်း တိုင်ပင်ထားသလား ထင်ရအောင် တစ်နိုင်ငံနဲ့ တစ်နိုင်ငံ အားပေးစေ့ဆော်နေသလိုပါပဲ။

ချက်နိုင်ငံရဲ့ သွေးစည်းခိုင်မာရေးအလုပ်သမားသပိတ်၊ တိန်အန်မင် တရုတ်အရေးအခင်းများဟာလည်း ဗမာပြည်ရှစ်လေးလုံး ပြည်သူ့ဒီမိုကရေစီ အရေးတော်ပုံကြီးနဲ့ အပြန်အလှန် အားပေးလမ်းပြ စိတ်ဓာတ် ခွန်အားပေးကြပါတယ်။

၁၉၃၀ ကစတင်ခဲ့တဲ့ တ.က.သ၊ ၁၉၃၆ ကစတင်ဖွဲ့စည်းခဲ့တဲ့ ဗ.က.သ၊ အဲဒီကျောင်းသားသမဂ္ဂတွေရဲ့ ဦးဆောင်လှုပ်ရှားနေကြတဲ့ ကျောင်းသား ခေါင်းဆောင်များဟာ သူ့ခေတ်သူ့အခါအလိုက် တိုးတက်တဲ့ အမြင်ကို ကိုင်စွဲ လာကြသူချည်းပါပဲ။ ဗ.က.သဖွဲ့စည်းပြီးတဲ့ နောက်ပိုင်း ကျောင်းသား ခေါင်းဆောင် မျိုးဆက်များရာစုကတော့ ပြည်ချစ်ဝါဒသာမက နိုင်ငံတကာဝါဒ ကို ကိုင်စွဲလာတာကိုပါ ထင်ထင်ရှားရှား တွေ့မြင်ရပါတယ်။ ဒါကြောင့် နိုင်ငံတကာဖြစ်စဉ်ကိုလည်း မျက်ခြည်မပြတ် နိုင်ငံတကာကျောင်းသား လှုပ်ရှားမှုနဲ့လည်း မကင်းကွာပဲ ဗမာနိုင်ငံကျောင်းသားလှုပ်ရှားမှုနဲ့ ပေါင်းစပ် ဝတ်မှုန်ကူးနိုင်ခဲ့ ကြပါတယ်။

## ၅

ဗမာပြည်မှာ စာသင်ကျောင်းရယ်လို့ စတင်ပေါ်ပေါက်လာ ကတည်းက ကျောင်းသားလှုပ်ရှားမှုတွေ ဖြစ်ထွန်းလာတာပါပဲ။ နယ်ချဲ့ကိုလိုနီခေတ်က စလို့ ကနေ့ကာလအထိ ကျောင်းသားလှုပ်ရှားမှုတွေကို ပြန်လည်သုံးသပ်ရရင် ခေတ်အဆက်ဆက်အစိုးရတွေရဲ့ ခေတ်မမီ အကျိုးမပြုတဲ့ ပညာရေးစနစ် ကြောင့်ရယ်၊ ကျောင်းသားတွေအပေါ် ဖိနှိပ်ချုပ်ချယ်တဲ့ စည်းကမ်း၊ အမိန့်၊ ဥပဒေတွေ ပြဋ္ဌာန်းတာကြောင့်ရယ်၊ ကျောင်းသားတွေက ဆန့်ကျင်ကန့်ကွက် လှုပ်ရှားကြရတာကို တွေ့ရပါတယ်။

အင်္ဂလိပ်နယ်ချဲ့တို့က ဗမာပြည်ကို သိမ်းပိုက်အပြီး လက်နက်အားကိုးနဲ့ မလှုန်နိုင်အောင် ဖိနှိပ်ထားတဲ့အပြင် လူမျိုးရဲ့ ဇာတိသွေး ဇာတိမာန်ကိုပါ ချိုးနှိမ်ဖို့ ကြိုးစားလုံးပန်းခဲ့ကြတယ်။ ပုဂံစိတ်ဓာတ် ပျက်ပြားအောင် ညောင်ဦး ကို ရုံးစိုက်မြို့အဖြစ်သတ်မှတ်ပြီး ပုဂံကို တောဖုံးအောင် ကြံဆောင်ခဲ့တယ်။ အဲဒီလိုပဲ အင်းဝဇာတိမာန်တိမ်ကော ပပျောက်အောင် တံတားဦးမှာ ရုံးစိုက်ခဲ့

ပြန်တယ်။ ရခိုင်တန်ဆောင် မြောက်ဦးတိမ်ကောစေဖို့ စစ်တွေကို မြို့လုပ်ခဲ့တယ်။ ပဲခူးဟံသာဝတီနဲ့ စစ်ကိုင်းမှာကျတော့ နန်းတော်နေရာမှာ မြို့ကွက်ရိုက်တည်ပေးပြီး မြို့ရိုးပေါ်မှာ ကားလမ်းဖောက်ကြတယ်။ မန္တလေးနဲ့ အမရပူရမှာ နန်းတွင်းထဲကို စစ်တပ်တပ်စွဲထားပြီး အပြင်လူမဝင်ရဆိုတဲ့ ကန့်သတ်နယ်မြေလုပ်ပစ်ကြပြန်တယ်။

အင်္ဂလိပ်နယ်ချဲ့ဟာ သူတို့ကို “သခင်ကြီး” ခေါ်ခိုင်းပြီး တိုင်းရင်းသားတွေကို “ဘုရား” ထူးစေခဲ့တယ်။ အဲဒီလိုပဲ ဆရာနဲ့ ပညာရေးဌာန အကြီးအကဲအင်္ဂလိပ်တွေလာရင် ရှိခိုးနှုတ်ဆက်ဂါရဝပြုဖို့ အမိန့်ထုတ်ပြန် ခဲ့တယ်။ အဲဒီလိုဖောက်ပြန်တဲ့ အစိုးရရဲ့ မလျော်ကန်တဲ့ အမိန့်အာဏာကို ကျောင်းသားတွေက ဖီဆန်အာခံတော်လှန်အနိုင်ယူခဲ့တယ်။ ဒါဟာ ၁၉၀၃ ခုနှစ်က ကနဦးကျောင်းသားသပိတ်ရဲ့ ရှိခိုးပြဿနာ အောင်ပွဲပါ။

၁၉၂၀ မှာ နယ်ချဲ့အစိုးရက ရန်ကုန်တက္ကသိုလ်အက်ဥပဒေကို ပြဋ္ဌာန်းဖို့ကြိုးစားလာပါတယ်။ အဲဒီဥပဒေဟာ ဗမာပြည်ရဲ့ ပကတိဘဝနဲ့ မကိုက်ညီကြောင်း မိဘပြည်သူများနဲ့ ကျောင်းသားများက အတန်တန် ကန့်ကွက်နေတဲ့ကြားမှ နယ်ချဲ့အစိုးရက ဇွတ်ပြဋ္ဌာန်းဖို့ လုံးပန်းလာကြတယ်။ အင်္ဂလိပ်ရဲ့ တက္ကသိုလ်အက်ဥပဒေကြောင့် ပထမကျောင်းသားသပိတ် ပေါ်ပေါက်ခဲ့ရတာပါ။

ကျောင်းခေါ်ချိန် ပြန်ထူးရာမှာ Sir မပါလို့ အတန်းတက်ခွင့်မရတဲ့ ကျောင်းသား ကိုစိုးမြင့်ကိစ္စ၊ ကြော်ငြာသင်ပုန်းမှာ ကပ်ထားတဲ့ ကြေညာချက်စာရွက်ကို ရက်လွန်ပြီအထင်နဲ့ သွားဖြုတ်မိလို့ ကျောင်းထုတ်ခံရတဲ့ ကျောင်းသားကိုအောင်မြင့်ကိစ္စ စတဲ့ မီးပွားကလေးတွေ စုလာပြီး “ငရဲခွေးကြီး လွတ်နေပြီ” ဆောင်းပါးပြဿနာနဲ့ ကိုအောင်ဆန်းကို ကျောင်းထုတ်လိမ့်မယ်ဆိုတဲ့ သေချာတဲ့သတင်း၊ အဲဒီဆောင်းပါးကြောင့်ပဲ တ.က.သ ဥက္ကဋ္ဌ ကိုနုကို ကျောင်းထုတ်လိုက်ခြင်းဟာ မီးတောက်ကြီးဖြစ်လာကာ ၁၉၃၆ ခုနှစ် ဒုတိယ ကျောင်းသားသပိတ်ကြီး ပေါ်ပေါက်လာ ပါတော့တယ်။ တက္ကသိုလ် အာဏာပိုင်နယ်ချဲ့များရဲ့ စီမံခန့်ခွဲမှု ညံ့ဖျင်းတာကြောင့် သပိတ်ဖြစ်လာရတာပါ။

၁၃၀၀ ပြည့် ရေနံမြေသပိတ်ကြီးဟာ မကွေးမြို့မှာ တားဆီးခံနေရတော့ တို့ဗမာအစည်းအရုံးမှ သခင်များနဲ့အတူ ကျောင်းသားသမဂ္ဂ ဥက္ကဋ္ဌကိုဗဟိန်း၊ အတွင်းရေးမှူးကိုဗဆွေတို့က သွားရောက်အားပေးပြီး ရန်ကုန်အရောက်ချီတက်နိုင်ဖို့ ကူညီခဲ့ကြတယ်။ အဲဒီမှာ ကိုဗဟိန်း ပြောကြားခဲ့တဲ့ မိန့်ခွန်းက

နယ်ချဲ့အစိုးရကို အကြည်ညိုပျက်စေတယ်လို့ စွပ်စွဲပြီး အဖမ်းခံလိုက်ရတယ်။ ကျောင်းသားထုကြီးကလည်း ကိုယ့် ဥက္ကဋ္ဌနဲ့ အတွင်းရေးမှူးကို ဖမ်းဆီးတာဟာ ကျောင်းသားထုတစ်ရပ်လုံးကို စော်ကားတာနဲ့ အတူတူပဲဆိုပြီး သပိတ်မှောက်ကြ၊ ပုဒ်မ (၁၄၄) ကို ဆန့်ကျင်ကာ အတွင်းဝန်ရုံးဝိုင်းကြနဲ့ ဗိုလ်အောင်ကျော် ကျဆုံးရတဲ့ တတိယကျောင်းသားသပိတ်ကြီး ဖြစ်ပွားခဲ့ရပါတယ်။

ကျွန်တော်တို့တွေကတော့ ကိုဗဟိန်းနဲ့ ကိုဗဆွေကိုဖမ်းလို့ တတိယကျောင်းသားသပိတ်ဖြစ်ရတယ်လို့ ယေဘုယျနားလည်ထားကြတာပါ။ ဒါပေမဲ့ -

> "ကျွန်တော်တို့ကို ဖမ်းလိုက်သောအခါတွင်ကား... အဆင်သင့်ပြင်ဆင်ပြီးဖြစ်သော ကျောင်းသားများကို ဆူပူရန် အခါပေးလိုက်သကဲ့သို့ ဖြစ်သွားလေသည်။ အကယ်တည့် ကျွန်တော်တို့ကို မဖမ်းပဲနေက ယခုဖြစ်ပျက်ဆဲဖြစ်သော ကျောင်းသားအရေးတော်ပုံသည် ယခုအချိန်တွင်မဖြစ်ပဲ အချိန်ပြောင်းသွားချင် ပြောင်းပေလိမ့်မည်။ သို့သော် မဖြစ်ပဲကားမနေ၊ အနှေးနှင့်အမြန် ဖြစ်ပေါ်ရတော့မည်။ စင်စစ်သော်ကား ကျွန်တော်တို့ကို ဖမ်းလိုက်ခြင်းမှာ ပေါက်ကွဲအံ့ဆဲဆဲဖြစ်သော ယမ်းအိုးကြီးကို မီးတဖွားဖွားချလိုက်ခြင်းသာ ဖြစ်ပေသည်။ ယခုကျောင်းသားအရေးတော်ပုံသည် ကျွန်တော်တို့နှစ်ဦးအား ဖမ်းဆီးခြင်းအပေါ်တွင် လုံးဝအရင်းမတည်ကြောင်း"

လို့ အဖမ်းခံရသူ ကျောင်းသားသမဂ္ဂကိုဗဟိန်းကိုယ်တိုင် ၁၃၀၀ ပြည့် သပိတ်သုံးသပ်ချက် "ကျောင်းသားအရေးတော်ပုံ" စာတမ်းမှာ အတိအလင်းပြောကြားထားပါတယ်။

မှန်ပါတယ်။ ကိုလိုနီခေတ်ဗမာနိုင်ငံရဲ့ ပေါ်ပေါက်ခဲ့သမျှ ကျောင်းသားလှုပ်ရှားမှုတိုင်းဟာ နယ်ချဲ့ဆန့်ကျင်ရေး၊ အမျိုးသားလွတ်မြောက်ရေး လက္ခဏာဆောင်နေလို့ပါပဲ။ လတ်တလော အကြောင်းအရာ ဘာကြောင့်ပဲ သပိတ်မှောက်မှောက် နယ်ချဲ့အစိုးရရဲ့ ဖိနှိပ်မှု၊ ကျွန်ပြုမှုနဲ့ မတရားတဲ့ အမိန့်အာဏာမှန်သမျှကို တာဝန်အရ ဖီဆန်ဆန့်ကျင်ကြတာပါ။

၁၉၂၀ ပထမကျောင်းသားသပိတ်ရဲ့ ကြွေးကြော်သံဟာ "ကျွန်ပညာရေး အလိုမရှိ။" ၁၉၃၆ ဒုတိယကျောင်းသားသပိတ်မှာတော့ "ပညာရေးစနစ် အသစ်ပြောင်းပေး။" တတိယကျောင်းသားသပိတ် ၁၉၃၈ ရဲ့ တောင်းဆိုမှုဟာ "ပညာရေးစရိတ်တိုးပေး" ရယ်လို့ ဖြစ်ကြပါတယ်။ နယ်ချဲ့သမားရဲ့ ကျွန်ပြုလို ဇောနဲ့ ချမှတ်ခဲ့တဲ့ ဖောက်ပြန်မှားယွင်းတဲ့ ပေါ်လစီ၊ ဥပဒေတွေကြောင့် ကိုလိုနီ ခေတ် ကျောင်းသားလှုပ်ရှားမှုတွေ ဖြစ်ပွားပြီး ဂုဏ်ရောင်ပြောင်ခဲ့ကြတာပါ။

လွတ်လပ်ရေးရအပြီး ဖ.ဆ.ပ.လရဲ့(၁၀)နှစ်(၁၀)မိုးခေတ်မှာ ကျောင်းသား သမဂ္ဂခေါင်းဆောင်ဟောင်းတွေ အာဏာရလာကြပါတယ်။ သူတို့အာဏာရမှ ကျောင်းသားသမဂ္ဂကို ခါးပိုက်ထဲထည့်ဖို့ ကြိုးစားရင်း ပါတီအပိုင် ကျောင်းသား အဖွဲ့တွေ ဖွဲ့စည်းပေးပြီး ကျောင်းသားထုအတွင်း သပ်လျှိုသွေးခွဲကြပါတော့ တယ်။ အဲဒီကာလတွေက ဗမာနိုင်ငံဟာ အရှေ့တောင်အာရှမှာ လူမှုစီးပွား အဖွံ့ဖြိုးဆုံး အတိုးတက်ဆုံးနိုင်ငံပါ။ ဒါပေမဲ့ အုပ်စိုးသူအစိုးရက ချမှတ်လိုက်ပြီး ကျောင်းသားထု လက်မခံနိုင်တဲ့ အမိန့်ဥပဒေကြောင့် ၁၉၅၃ အောက်တိုဘာ ကျောင်း (၁) လ ပိတ်ရေးဆိုတဲ့ ကျောင်းသားလှုပ်ရှားမှုကြီး ပေါ်ပေါက်ခဲ့ရ ပြန်ပါတယ်။ တစ်ခါက သမဂ္ဂကျောင်းသားခေါင်းဆောင်ဖြစ်ခဲ့ဖူးသူ ပြည်ထဲရေး ဝန်ကြီးကိုယ်တိုင် သေနတ်ကိုင် ပစ်သတ်ဖြေရှင်းခဲ့လို့ "အင်းဝဆောင် အုတ်တံတိုင်း၊ သွေးဖြိုင်းဖြိုင်းနီ" ခဲ့ရပါတော့တယ်။

၁၉၅၆ ခုနှစ်မှာ သတ္တမတန်းအစိုးရစစ်စာမေးပွဲကို ကျောင်းသားလေးများ က တစ်နှစ်ပတ်လုံး စာကြိုးစားပြီး အားရပါးရဖြေဆိုနေဆဲ နောက်ဆုံးရက်ကျမှ ဖြေဆိုရမယ့်မေးခွန်းဟာ ဗမာ့ခေတ်သတင်းစာမှာ ပါလာပါတယ်။ အာဏာရ အစိုးရရဲ့ စီမံခန့်ခွဲမှုညံ့ဖျင်းတာကို မှန်မှန်ကန်ကန် တရားနည်းလမ်းတကျ မဖြေရှင်းပဲ စာမေးပွဲတစ်ခုလုံးကို ဖျက်သိမ်းကြောင်း ကြေညာလိုက်တော့ တယ်။ အဲဒီခေတ်က သတ္တမတန်းအောင်ရင်ကို အလုပ်ကောင်းရတဲ့ကာလပါ။ ဒါနဲ့ စာမေးပွဲဖျက်သိမ်းလိုက်တာကို မကျေနပ်တဲ့ စာမေးပွဲဖြေဆဲ ကျောင်းသား ငယ်တွေဟာ သတင်းစာတိုက်ကိုသွားဝိုင်းပြီး ဆန္ဒပြတော့ လက်နက် အားကိုးပြီး အစိုးရက ဖြေရှင်းလိုက်တာ ကျောင်းသားလေးဟယ်ရီတန် ကျဆုံး ခဲ့ရပြန်ပါတယ်။

ဟယ်ရီတန်အရေးဟာလည်း အာဏာပိုင်တို့ရဲ့ ချို့ယွင်းချက်ကို လက်နက် နဲ့ ဖြေရှင်းလိုက်တာပါပဲ။ ၁၉၆၁ မန်းတက္ကသိုလ်ရဲ့ စနစ်သစ် အရေးတော်ပုံ မှာလည်း အစိုးရရဲ့ တစ်ဖက်သတ်ချမှတ်ထားတဲ့ အဖြေနဲ့ အသေစွဲကိုင်မှု၊

နောက်ဆုံးအကြမ်းဖက်မှုကို တွေ့ရတယ်။ သင်ကြားမှု မပြည့်စုံတဲ့ စာမေးပွဲစနစ်တစ်ခုကို အသေချမှတ်ခဲ့တယ်။ ကျောင်းသားများက ပထမဦးစွာ လိုအပ်နေတဲ့ ကျောင်းသုံးပရိဘောဂ၊ သင်ထောက်ကူပစ္စည်းနဲ့ ဆရာများ တိုးခန့်ပါ၊ ဒါတွေမပြည့်စုံသေးခင် စနစ်သစ်ပညာရေးကို ရပ်ဆိုင်းထားပါလို့ တင်ပြခဲ့ကြတယ်။ ဒါပေမဲ့ အာဏာပိုင်တွေက မလိုက်လျောပဲ နောက်ဆုံး စက်တင်ဘာလမှာ လက်နက်နဲ့ အကြမ်းဖက်ဖြေရှင်းလိုက်ပါတော့တယ်။

ဒီသမိုင်းစဉ်တွေကိုကြည့်ရင် အာဏာပိုင်တို့က ကျောင်းသားထုဆန္ဒပြည်သူ့အသံနဲ့ မကိုက်ညီတဲ့အမိန့်၊ ဥပဒေ၊ စည်းကမ်းတွေချလို့ ကျောင်းသားလှုပ်ရှားမှုတွေ ပေါ်ပေါက်ကြောင်း၊ ကျောင်းသားများက ငြိမ်းချမ်းစွာ ပညာသင်ကြားရေးကို မြတ်နိုးခြင်း၊ ငြိမ်းချမ်းစွာ ဆန္ဒပြနည်းနဲ့သာ တောင်းဆိုလှုပ်ရှားခြင်းကို အစိုးရဘက်က ကျူးကျော်မှု၊ အကြမ်းဖက်မှုတို့နဲ့သာ ဖြေရှင်းတတ်ကြောင်း ထင်ရှားစွာ တွေ့မြင်ရပါတယ်။

ထောင်ပိုင်က အကျဉ်းသားတွေကို ဖိနှိပ်သလို၊ ဗိုလ်မှူးကြီးက တပ်သားတွေကို ချုပ်ချယ်သလို ကျောင်းသားတွေရဲ့ လူငယ်သဘာဝ လွတ်လပ်မှုကို ဖိနှိပ်ချုပ်ကိုင်ဖို့ ကြံစည်လာကြတယ်။ အဆောင်စည်းကမ်းတွေကို တပ်စည်းကမ်းတွေလို ထုတ်ပြန်ခဲ့တယ်။ တက္ကသိုလ်ရဲ့ သဘောသဘာဝကိုလည်း မသိ ကျောင်းသားထုရဲ့ ဆန္ဒကိုလည်း ဥပေက္ခာပြုပြီး ထုတ်ပြန်တဲ့အမိန့်ဟာ ပြဿနာစတော့တာပါပဲ။

၁၉၆၂ ဗိုလ်နေဝင်းခေါင်းဆောင်တဲ့ စစ်အုပ်စုဟာ အာဏာသိမ်းပြီးကတည်းက တက္ကသိုလ်အက်ဥပဒေကို ရုပ်သိမ်းပစ်တယ်။ ဆရာတွေ၊ ပါမောက္ခ၊ ကျောင်းသားတွေ၊ မိဘတွေနဲ့ ဖွဲ့စည်းထားတဲ့ တက္ကသိုလ်ကောင်စီကို ဖျက်သိမ်းပစ်ပြီး စစ်ဗိုလ်မှူးကြီးတွေနဲ့ အသစ် ဖွဲ့စည်းခဲ့တယ်။ အခုလည်း တက္ကသိုလ်ကို အပိုင်စီးလို့ ကျောင်းသားတွေကို အဆောင်စည်းကမ်းနဲ့ ချုပ်ကိုင်ဖို့ ကြံစည်လာပြန်တယ်။ မခံနိုင်လို့ ကျောင်းသားလှုပ်ရှားမှုနဲ့ တန်ပြန်ဆန့်ကျင်တော့ သေနတ်နဲ့ အကြမ်းဖက်ဖြေရှင်းပြီး သမဂ္ဂအဆောက်အဦးကြီးကိုပါ ဗုံးနဲ့ခွဲလို့ အစဖျောက်လိုက်တယ်။

၁၉၇၄-၇၅ သပိတ် (၃) လုံးဖြစ်အပြီး စစ်အာဏာရှင်များက ရန်ကုန်မြို့ကို မာရှယ်လောကြေညာပြီး အုပ်ချုပ်နေပါတော့တယ်။ အဲဒီလို စစ်အုပ်ချုပ်ရေးကြီး ကြေညာထားတဲ့ကြားက ၇၆ မတ် မှိုင်းရာပြည့်အရေးအခင်းက ဘာကြောင့်ဖြစ်လာရသလဲ။ စစ်အာဏာရှင်ဆန့်ကျင်ရေး စိတ်ဓာတ်ရယ်၊

လတ်တလောအကြောင်းကတော့ ကျောင်းဆောင်ကြေး (၅၇) ကျပ်ကနေ (၁၂၀) တိုးလိုက်တဲ့ ပြဿနာပါပဲ။ ဝန်ထမ်းအများစုက လစာ (၁၂၆) ကျပ်သာ ရနေတဲ့ခေတ်မှာ တက္ကသိုလ် ကျောင်းသားတစ်ယောက်ရဲ့ အဆောင်ကြေးဟာ (၁၂၀) ကျပ်ဆိုတော့ ဆင်းရဲသားကျောင်းသားအများစုက ဘယ် တောင့်ခံနိုင်တော့မှာလဲ။ ဗမာပြည်မှာ လမ်းပေါ်ထွက်တဲ့နိုင်ငံရေးဟာ ခေတ်မမီတော့ဘူး ရယ်လို့ သင်တန်းတွေ ပို့ချနေတဲ့အချိန်၊ လူမှုစီးပွားဖွံ့ဖြိုးတိုးတက်နေတဲ့ ကိုးရီးယားမှာ လမ်းပေါ်က ကြွေးကြော်သံတွေနဲ့ သမ္မတကို ဖြုတ်ချပစ်ခဲ့တယ်။ ဒီမိုကရေစီရဲ့ ဥသျှောင်နိုင်ငံကြီးဆိုတဲ့ အမေရိကန်မှာတောင် ထရမ့် တက်လာတော့ တစ်ပြည်လုံး လမ်းပေါ်ထွက်ခဲ့ကြတာပဲ။ တိုင်းပြည်တစ်ပြည်မှာ လူမှုစီးပွားဖွံ့ဖြိုးတိုးတက်မှုနဲ့ ကျောင်းသား လှုပ်ရှားမှုဟာ မပတ်သက်ပဲ အစိုးရရဲ့ ပညာရေးအပေါ်သဘောထား၊ ကျောင်းသားတွေအပေါ်ထားတဲ့ စိတ်ထား၊ ချမှတ်တဲ့စည်းကမ်း၊ အမိန့်ဥပဒေတွေနဲ့သာ တိုက်ရိုက်သက်ဆိုင်ပါတယ်။

## ၆

အထက်က ရေးခဲ့ပြောခဲ့တာတွေကို ပြန်ပြီးနိဂုံးချုပ်ရရင်... ကျောင်းသားဆိုတာ လက်ရှိစာသင်ကျောင်းတစ်ခုခုမှာ ပညာသင်ကြားနေပြီး တိုးတက်မှုကို လက်ဆင့်ကမ်းသယ်ဆောင်နေကြတဲ့ လူငယ်တစ်စုပါပဲ။ ကျောင်းသားသမဂ္ဂဟာ ဒီမိုကရေစီခေတ်ရဲ့ မရှိမဖြစ်လိုအပ်တဲ့ အမှတ်လက္ခဏာ ဖြစ်ပါတယ်။

အချိန်အခါ အခြေအနေမရွေး အခြားလူထုလူတန်းစားများရဲ့ လှုပ်ရှားမှုတိုင်းမှာ ကျောင်းသားတွေဟာ ထောက်ခံပါဝင် ပူးပေါင်း ကူညီကြပါတယ်။ အာဏာရအစိုးရရဲ့ ဖိနှိပ်လိုက်လျော လွှမ်းမိုးနေတဲ့ နိုင်ငံရေးစနစ်အပေါ်လိုက်ပြီး ကျောင်းသားလှုပ်ရှားမှုရဲ့ နယ်ပယ်အသွင် သဏ္ဍာန်ဟာ ပြောင်းလဲပါတယ်။

ဗမာပြည် ပြည်တွင်းလက်တွေ့ဘဝနဲ့ တူညီနီးစပ်တဲ့ နိုင်ငံတကာဖြစ်စဥ် ကျောင်းသားလှုပ်ရှားမှုတိုင်းဟာ ဗမာပြည်ကျောင်းသားလှုပ်ရှားမှုအပေါ် စေ့ဆော်အကျိုးသက်ရောက်မှုရှိစေပါတယ်။ ကျောင်းသားလှုပ်ရှားမှုဟာ တိုင်းပြည်လူမှုစီးပွားဖွံ့ဖြိုးတိုးတက်မှုနဲ့ မပတ်သက်ပဲ အာဏာရအစိုးရရဲ့ စီမံခန့်ခွဲမှု၊ အသိဉာဏ်ကြွယ်ဝမှု၊ ဉာဏ်အမြော်အမြင်နဲ့သာ သက်ဆိုင်ပါတယ်။

၇၄-၇၅-၇၆ ကျောင်းသားလှုပ်ရှားမှုဟာ စစ်အာဏာရှင်စနစ် ဆန့်ကျင်ရေး၊ တစ်ပါတီအာဏာရှင်စနစ် ပြုတ်ကျရေးနဲ့ ၁၉၇၄ အခြေခံ ဖွဲ့စည်းပုံဥပဒေ ဖျက်သိမ်းရေးတို့ ရည်ရွယ်ပါတယ်။

## ကိုးကားချက်များ

ဗဟိန်း၊ သခင်၊ (၁၉၃၉)၊ *ကျောင်းသားအရေးတော်ပုံ*၊
ဗမာနိုင်ငံလုံးဆိုင်ရာကျောင်းသားများသမဂ္ဂအသင်း။
ဝ၊ မောင်၊ သိပ္ပံ၊ (၂၀၀၇)၊ *အောက်စဖို့ဒ်တက္ကသိုလ်ခရီးသွားမှတ်တမ်း*၊
တကောင်းစာအုပ်တိုက်

# A Forgotten Student Movement: The 2002 Military Technological College Uprising

**Zay Yah Oo**

## Abstract

It is well-known that students and their protests have greatly influenced the political history of Myanmar. Yet when people write about student politics and rebellions, they tend to focus on students at the many civilian institutions in the country and their grievances. This article furthers understandings of student activism in Myanmar by narrating an experience of the 2002 uprising at the Military Technological College in Pyin Oo Lwin. This college was set up by the military during a time when most civilian education institutions were kept shut by the regime and prospective higher education students had few options. Written by a student who participated in the uprising, this article uses firsthand experience, focus group discussions and primary sources to shed light on an unsung political event within the Myanmar military that led to the dismantling of an entire college, and the imprisonment of dozens of military students determined to have breached the Army Act.

## Introduction

Students have consistently played an active role in the many protests against dictatorship in Myanmar. The student movement that emerged from the protests against the University of Rangoon Act of 1920 significantly influenced later generations of students to also oppose injustice in the educational system. But while students generally organize protests that are posited as being against the education system, these movements are in fact related to broader politics in one way or another. The unfair policies enforced by successive military regimes include betraying previous agreements with citizens and the student community has always resisted them. There are two root causes of

student protest movements under military rule in Myanmar—first, the unjust rules and regulations enshrined in the education system by the military dictatorship that serve to support and enhance its own power, and second, the military's unilateral breaches of contracts with students.

Student movements in civilian universities and colleges have been the subject of many publications in Myanmar. But one major student movement, taking place in 2002 and stifled by a blanket media blackout, has found no place in historiography. It involved students not from a civilian university, but rather from a military college: the Military Technological College (MTC). More significantly, one of the two central demands made by the students was actually conceded to by military leaders. Further, once the movement was crushed, the MTC was completely terminated—the only such college to have been so definitively shuttered in the wake of protests among its student body. There was no official announcement after the movement was crushed. All the students were expelled, with the leaders imprisoned. The event was concealed, with the military spreading disinformation, and misinformation also spread broadly in the media.

This article proceeds in four sections. The first section deals with the emergence of the MTC, the second section touches on the background situation at the college before the uprising, and the third discusses the uprising itself. The fourth section concludes by discussing the disinformation and misinformation that led to an identity crisis for MTC students later in life.

## The Creation of the MTC

After the military coup by General Ne Win on 2 March 1962, Myanmar was essentially under military rule for 48 years, until the general election in 2010. During that period, the Myanmar military was the ruling class in Myanmar society. Civil society was subjugated under martial law. Military rule became more direct during the regime that followed General Ne Win's 1988 resignation and the May 1990 general elections, with its ignored results. For example, most ministers were military officers, and the top

ranks of the civil service bureaucracy were occupied by military officials. Other sectors like local administration, education, health, etc. were also in the hands of the military. In order to further maintain its grip on power, military leaders extended it into new areas of society. The MTC was a part of this direct military power expansion.

During the State Law and Order Restoration Council (SLORC) era that followed the 1988 coup, the military junta expanded their directly administrated education system, no longer limiting it to the Defense Services Academy (DSA), which trained future military officers. The military started programs and institutions to produce professionals like medical doctors, engineers, nurses, and paramedics. Although fresh graduates from civilian universities had been recruited as military doctors and engineers in the past, the recruitment of civilian professionals became difficult after the military's atrocities against the people in the 1988 uprising. The SLORC barely trusted civilian students, and colleges and universities had been closed for some time. The military therefore struggled to recruit students from these shuttered universities to create a quality officer corps, which they hoped would remain loyal to the army under any circumstances. So they started to open their own colleges and universities.

In 1993, the military launched the Defense Services Institute of Medicine, which became the Defense Services Medical Academy (DSMA), and in 1994, the military launched the Defense Services Institute of Technology, which became the Defense Services Technological Academy (DSTA). In 1998, the Defense Services Electrical and Mechanical Engineering School (AGTI) was opened in Pyin Oo Lwin, Mandalay Division, and in 2000 the Defense Services Institute of Nursing and Paramedical Science was opened. Of these new military institutes, only the AGTI (after it changed its name, explained later) revolted against the military government, becoming the first and only military training institute in Myanmar to ever do so. A recruitment advertisement for the AGTI's first intake was printed in the state-run newspaper *The New Light of Myanmar* and is translated below and shown in the original Burmese in figure 1, which follows.

**Students Wanted for the Diploma Course at the AGTI, Pyin Oo Lwin**[1]

1. The applicant shall be:
   a. Not younger than 16 or older than 20 years of age on 1 January 1999;
   b. Single, and be a Union of Myanmar citizen;
   c. At least 5ft. 3in. tall and 105 pounds;
   d. On the matriculation examination A list;
   e. Interviewed in person if shortlisted and passed English and Mathematics in the entrance examination, and;
   f. Not bespectacled.
2. The selected shall enjoy the following benefits:
   a. Salary of 650 Myanmar Kyat for the first phase, 700 for the second phase, and 750 for the third phase during training;
   b. Benefits during training include free accommodation, rations, and healthcare plus uniforms, haircut and laundry costs.
3. It is a two-year course.
4. On the completion of the program, one can enjoy the following benefits:
   a. Being directly appointed to various service arms and units as a technical sergeant;
   b. Promotions to Warrant Officer Class 1 and 2 (WO-I & WO-II), and also to gazetted officer, will be carried out based on credentials.
5. On completion of the course, AGTI diploma certificates will be awarded.
6. If one qualifies, one may take entrance exams to attend a third year of education at any technological university.

---

[1] "Trainees wanted", 1998. Burmese original shown in figure 1.

7. Those selected shall serve in the military for at least ten years.
8. Free application forms can be obtained from and submitted to the Electrical and Mechanical Engineer Battalion or to the workshop squadrons in regional and divisional military commands.
9. Those who fail/ed relevant preliminary medical examinations need not apply.
10. The following documents must be submitted along with the application form:
    a. An original copy of a testimonial declaring the applicant has good moral character and is not involved in politics, provided by township, division, and state police officers, along with seven passport-sized photos;
    b. A photocopy of the applicant's high school graduation certificate and a list of matriculation examination grades (bring the originals to the examination).
11. Applicable period: application forms are to be submitted no later than 14 October 1998 to the Electrical and Mechanical Engineering Directorial Office, Ministry of Defense, Yangon.
12. To take the entrance examination, the applicants shall arrive at the following locations no earlier than 21 October, and no later than 22 October 1998, reporting their arrival:
    a. No. 2, Main Workshop (Electrical), Amarapura Township, for Upper Myanmar.
    b. No. 656, Workshop Company (Electrical), Botataung Township or No. 1, Main Workshop, Hlegu Township, for Lower Myanmar.
13. Civil and Defense servants who meet the credential requirements can apply through the respective departments.

- Quartermaster General's Office

## Figure 1

*The Burmese language recruitment advertisement for the AGTI diploma course.*[2]

---

[2] "Trainees wanted", 1998.

After this recruitment advertisement did its work, the first AGTI intake opened on 18 November with 407 trainees. According to the advertisement, trainees who completed the two-year course would receive an AGTI diploma, and those who passed the examination with high grades were supposed to be able to continue their studies at any technological university.

Simply put, the details in the advertisement formed part of the contract between the military government and applicants, and students applied for the course because they trusted this agreement would hold. However, 16 months after the training, the government renamed the AGTI to the Military Technological College, and changed the details of the program along with it. The AGTI had become the MTC. An English translation of the new recruitment advertisement follows, with the Burmese original text displayed in figure 2.

**MTC Engineering Trainees Wanted**[3]

1. The applicant shall be:
   a. No younger than 16 or older than 19 on 1 January 2000;
   b. Single & a citizen of the Union of Myanmar;
   c. At least 5ft., 3in. and 105 pounds;
   d. Not bespectacled;
   e. One who passed the matriculation examination (and be able to present matriculation examination marks);
   f. One who passed the preliminary medical test at a township, state, or division general hospital.
2. Application forms can be obtained free of charge starting on 5 September 2000 and are to be submitted to the respective Regional Military Commands or Divisional Military Commands by 31 October 2000.

[3] "Engineering students wanted", 2000.

3. Along with the application form, original copies of testimonials attesting to the applicant's good moral character and non-involvement in politics by township, division, and state police officers, together with three black and white photos of passport size taken within the last month, must be submitted.
4. Those who meet the credential requirements shall take a test on the following subjects by the matriculation curriculum at examination centers in locations including Myitkyina, Bamaw, Lashio, Kengtung, Taunggyi, Loikaw, Mawlamyine, Dawei, Myeik, Yangon, Pathein, Sittwe, Monywa, Kale, Mandalay, Meiktila, Magway, Taungoo, Bago, and Pyay:
   a. English;
   b. Mathematics.
5. One can check the list of eligible candidates at examination centers before 20 November 2000.
6. Candidate seat numbers are the same as in the application form; the timetable for the examination will be announced in the newspaper.
7. Shortlisted candidates who pass the entrance exam shall be personally interviewed in Yangon and Mandalay.
8. Salary and allowance will be granted based on academic year.
9. Those who pass each academic year shall enjoy the following benefits:
   a. Second-year graduates will receive a Diploma of Engineering Science (AGTI) and will be directly appointed to various service arms and units as a technical sergeant;
   b. Whoever passes with excellent grades will be allowed to attend third- and fourth- year programs, with graduates receiving a Bachelor of Technology and being directly

appointed to various service arms and units as WO-I at other specialist rating positions;

c. Whoever passes the fourth year with excellent grades will be allowed to attend the fifth year, and if one passes will be offered a Bachelor of Engineering, and will be directly appointed to various service arms and units as WO-I at a technical position;

d. For those mentioned above who hold a Bachelor of Technology, if they complete five years of service as a WO-II, or if Bachelor of Engineering holders complete three years of service as a WO-I, they can apply to become military gazetted officers.

10. The selected shall serve at least ten years in the army on completion of the training.

For detailed information, contact the Electrical and Mechanical Engineering Battalion/Unit.

- Quartermaster General's Office

## Figure 2

*Recruitment advertisement for the MTC.*[4]

မြန်မာ့အလင်း

တပ်မတော် နည်းပညာတက္ကသိုလ်
MILITARY TECHNOLOGICAL COLLEGE
သင်တန်းသားများ အလိုရှိသည်

[4] "Engineering students wanted", 2000.

There are a few differences between the two advertisements. The first promises that on completion of the two-year course, an AGTI diploma will be awarded, and those who pass the exam with excellent grades can attend any technological university. The second advertisement, however, stipulates that those who pass with high grades will have the opportunity of attending third or fourth years only at the same school. Upon completion of the fourth year, a Bachelor of Technology will be handed over. If one passes the fourth-year exam with excellent grades and attends the fifth year, he will obtain a Bachelor of Engineering degree. When the program structure and opportunities were changed by the authorities, students who enrolled on the merits of the original recruitment advertisement were not consulted or informed. Recognition of intake issues also arose—whether the first intake under the MTC should be recognized as the first intake or the second, as the school title and programs changed after the original first AGTI intake.

The school's original students were in a dilemma; they did not know which intake they belonged to. Worse still, the school authorities themselves did not seem to understand the relations between the two original intake years. It was in this fashion that 435 new students were recruited into the MTC in February 2000.[5] Back in those days, the college fell under the administration of the Defense Services Electrical and Mechanical Engineering Directorate Office, known as *Kaka Hlyat*, under the supervision of Lieutenant General Tin Hla, Quartermaster General.

The chain of command in the MTC was inscribed on a plaque monument (original Burmese text is shown in figure 6) as follows:

> The MTC was founded and opened on 14 January 2000, administrated directly by the Defense Services Electrical and Mechanical Engineering Directorate Office, headed by Lieutenant General Tin Hla, Quartermaster General, under the guidance of

[5] "Pamphlet of the Recruitment", 2000. This source is reproduced in full in appendix 1 of the Burmese version of the article on page 349.

> Senior General Than Shwe, Chairperson of the State Peace and Development Council and commander-in-chief.

The inauguration ceremony was attended by Lieutenant General Tin Hla himself as well as the military-owned Myawaddy media. He delivered an opening speech and announced the opening of the MTC with its 'first intake', here referring to those recruited only after the AGTI became the MTC. The media interviewed that intake, but not those who were recruited the previous year under the AGTI, resulting in an identity crisis for these original students. They did not know which batch they belonged to or how they were being recognized, plunging them into despondency.

But some students increasingly expressed their dissatisfaction. Some military generals finally got wind of it through the school authorities. Brigadier General Aung Hlaing, who was then the director of the *Kaka Hlyat,* came to Pyin Oo Lwin from Mandalay to talk to the disgruntled original intake students. He simply reiterated what was stated by Tin Hla in his opening speech. Although they were recruited as "Defense Services Electrical and Mechanical Engineering students", they had become students of the first batch of the MTC. When later students for the third intake were recruited, the recruitment pamphlets provided to prospective students featured a brief history of the MTC, described as follows:

> In order to produce AGTI (Diploma) holders for the Tatmadaw (army, navy, and air force), the Defense Services Electrical and Mechanical Engineering School merged with the Engineering Science Training Department on 29 September 1998. Then to produce soldiers holding the AGTI (Diploma), Bachelor of Technology, and Bachelor of Engineering degrees, the MTC, encompassing the former Military Electrical and Mechanical Engineering School, was opened in Pyin Oo Lwin on 26 February 2000. The first batch of the MTC consisted of 407 trainees

တယ်။ နိုင်ငံရေးတွေနဲ့ လုံးဝ မပတ်သတ်ပါဘူး။ နိုင်ငံရေးသမားတွေကိုလည်း အယုံအကြည်မရှိပါဘူး၊ ကလိမ်ကကျစ်တွေ မို့လို့ပါ" လို့ ပြောပါတော့တယ်။ ကျွန်တော် တော်တော်စိတ်လေသွားပါတယ်။ ဒီလိုနဲ့ အဆည၁မှာ တာဝန်ရှိသူ တွေနဲ့ သွားပြီး တွေ့ဆုံညှိနှိုင်းတဲ့ ကျောင်းသားတွေ ပြန်လာပါတယ်။ သူတို့ အချင်းချင်းပြောဆို တိုင်ပင်နေတာကို တွေ့ရပါတယ်။ ခဏအကြာမှာတော့ ထိုအုပ်စုထဲက တစ်ယောက်က ထိုင်နေကြတဲ့ ကျောင်းသားအုပ်စုထဲကို ပြန်လာပြီး "ကျောင်းသားတွေရဲ့ တောင်းဆိုချက်တွေ မလိုက်လျောနိုင်ဘူး ပြောကြောင်း အေးချမ်းစွာ လူစုခွဲဖို့နဲ့ လူစုမခွဲရင် မကြာခင်မှာ အင်အားသုံး ဖြိုခွင်းမယ်" လို့ အကြောင်းပြန်လိုက်ကြောင်း ပြောပါတယ်။ ဆက်ပြီး သူက "ဒီတော့ ကျွန်တော်တို့လည်း ကျွန်တော်တို့ကျောင်း RIT ကိုပြန်မယ်၊ ခင်ဗျား တို့လည်း ကိုယ့်ကျောင်းဆောင်ကို ပြန်ကြပါ" လို့ ပြောပါတယ်။ ကျွန်တော် တော်တော် အံ့သြသွားပါတယ်။ ကျောင်းသားတွေကို ဆန္ဒပြဖို့ လိုက်ခေါ်တုန်း က ကျောင်းသားရေးမို့ အားလုံးနဲ့ဆိုင်လို့ ဝင်ရောက်ပူးပေါင်းဆန္ဒပြဖို့ ခေါ်ခဲ့ပြီး တော့ ကိုယ့်ကျောင်းကိုယ် ပြန်မယ့်ကိစ္စကိုကျတော့ အားလုံးဆန္ဒကို မတောင်း ခံပဲ၊ ပူးပေါင်းပါဝင်သူတွေတောင် မသိရပဲ မတိုင်ပင်ပဲနဲ့ ဆုံးဖြတ်လိုက်တာပါ။ ကျွန်တော်က သူတို့အုပ်စုထဲက တချို့ကို မင်းတို့ အဲ့လိုလုပ်လို့ မရဘူး၊ အခု ဒီမှာရှိနေတာက RIT ကျောင်းသားချည်းပဲ မဟုတ်ဘူး။ တခြားတက္ကသိုလ် မေဂျာက ကျောင်းသားတွေလည်း ပါနေတယ်။ သူတို့ကို ဘယ်လိုစဥ်းစားမှာလဲ ဆိုတော့ "ငါတို့အတွက် ကိုယ့်ကျောင်းက ပိုပြီးလုံခြုံတယ်။ ကိုယ့်ကျောင်းကိုယ် ပြန်တာ ကောင်းတယ်" ဆိုပြီး ပြောလို့ ကျွန်တော်နဲ့ အငြင်းပွားပါတယ်။ အဲ့ဒီ အချိန်မှာ ပါမောက္ခချုပ်တွေ၊ ပါမောက္ခတွေနဲ့ ဆရာတွေဟာ ကျွန်တော်တို့ ကျောင်းသားအုပ်စု ဆန္ဒပြတဲ့ နေရာကိုလာပြီး ကိုယ့်အဆောင်ကိုယ်ပြန်ကြဖို့ ပြောပါတယ်။ ကျွန်တော်လည်း မတ်တပ်ထရပ်လိုက်ပြီး ဆရာတွေကို ကျွန်တော့် နာမည်၊ ကျောင်း၊ အတန်းတွေကို ပြောပြီး မိတ်ဆက်ပါတယ်။ ကျောင်းသားတွေ ဆန္ဒပြရတဲ့ ကိစ္စပြောရင်း ပညာရေးစနစ်ကို ဝေဖန်တာ ပါသွားအချိန်မှာ ကျောင်းသားအုပ်စုထဲက "နိုင်ငံရေးတွေ မပြောပါနဲ့" အော်သံတွေထွက်လာလို့ ကျောင်းသားသုံးယောက်အရိုက်ခံရတဲ့ ကိစ္စကိုပဲ ပြန်ပြောမှ ကန့်ကွက်တဲ့ အသံတွေ တိတ်သွားပါတယ်။ နောက်ဆုံး ကျွန်တော် တို့ ပြန်မှာမဟုတ်ပါဘူးလို့ ဆရာတွေကိုပြောတော့ ဆရာတွေ လက်လျှော့ ပြန်သွားပါတယ်။

## ဆရာတွေပြန်သွားပြီးတော့ ဘာဆက်ဖြစ်သလဲ အစ်ကို။

ဆရာတွေပြန်သွားတော့ ကျောင်းပြန်ဖို့ပြောနေတဲ့ RIT ကျောင်းသားအုပ်စုနဲ့ စကားများရပြန်ပါတယ်။ သူတို့က RIT ကျောင်းသားတွေ လုံခြုံရေးအတွက် ပြန်ဖို့လိုတယ်ပြောတော့ ဝိဇ္ဇာ၊ သိပ္ပံ တက္ကသိုလ်က ကျောင်းသားတချို့နဲ့ စကား ထပ်များပါတယ်။ ကျွန်တော်လည်း "မင်းတို့ပြန်ချင်ပြန်၊ ငါကတော့ ဒီမှာ ကျန်ခဲ့တဲ့ ကျောင်းသားတွေနဲ့ ကျန်ခဲ့မယ်" ပြောပြီး နေမယ့်သူနဲ့ ပြန်မယ့်သူ ခွဲလိုက်တော့ RIT ကျောင်းသားတွေထဲမှာ နေခဲ့တဲ့သူကတော့ နည်းတာ တွေ့ရပါတယ်။ ကျောင်းကိုပြန်မယ့်အုပ်စု ထွက်ခွာသွားချိန်မှာ ကျန်ခဲ့တဲ့ ကျွန်တော်တို့ အုပ်စု တိုင်ပင်ကြပါတယ်။ လာပြီးဝန်းရံကြတဲ့ ပြည်သူတွေ လည်း တစ်စ တစ်စ နည်းသွားတော့ ကျွန်တော်တို့အားလုံး မိန်းထဲဝင်ပြီး အဆောင်ကျောင်းသားတွေ ထပ်ခေါ်ဖို့ တိုင်ပင်ဆုံးဖြတ်ခဲ့ကြပါတယ်။

ကျွန်တော်တို့ ယုဒသဿန်အပေါက်ကို ကျောင်းသားအားနဲ့ ဝိုင်းတွန်း ဖွင့်လိုက်ကြပြီး ရန်ကုန်တက္ကသိုလ်ဝင်းထဲက အဆောင်တွေထဲဝင် ကျောင်းသားတွေကို ပူးပေါင်းပါဝင်ဖို့ ခေါ်ပါတယ်။ အဆောင်တွေ ပတ်ခေါ်ပြီး အဓိပတိလမ်းမဘက် ပြန်ထွက်လာပါတယ်။ အဓိပတိလမ်းမအတိုင်း ဘွဲ့နှင်း သဘင်ရှေ့မှာ ထိုင်နားကြပါတယ်။ ဘွဲ့နှင်းသဘင်ရှေ့မှာ တစ်ယောက် တစ်လှည့်စီ စကားထပြောရင်းနဲ့ မိုးလင်းအောင်နေလို့ ဖြစ်၊ မဖြစ် ဆွေးနွေး ပါတယ်။ အချိန်ကြာလာတာနဲ့အမျှ ထိုင်နေကြတဲ့ ကျွန်တော်တို့ ဝိုင်းထဲကနေ ကျောင်းသားတွေ တစ်ယောက်စ၊ နှစ်ယောက်စ အပေါ့အပါးသွားသလိုနဲ့ ထထွက်သွားကြတာ လူနည်းလာပါပြီ။ ကျောင်းထဲထိ ဝင်ဖမ်းနိုင်တော့ ကျွန်တော်တို့ ဒီမှာပဲ ဆက်နေမလား၊ အပြင်ထွက်မလားလို့ ကျွန်တော် မေးပါတယ်။ ထွက်ရင်လည်း ဘယ်ဘက်က ထွက်မလဲ၊ အင်းလျားလမ်းက ထွက်မလား၊ တက္ကသိုလ်ရိပ်သာလမ်းက ထွက်မလား မေးဖြစ်ပါတယ်။ (ကျွန်တော်က တက္ကသိုလ်ရိပ်သာလမ်းက ထွက်မလား မေးတယ်ဆိုပြီး နိုင်ငံရေးသမား၊ NLD လူဆိုပြီး စွပ်စွဲချက်တွေကို ကျောင်းသားတွေထဲမှာ အသံထုတ်ပြန်တာ ကြားရပါတယ်) ကျွန်တော်တို့အားလုံး ခေါင်းချင်းဆိုင်ပြီး အကောင်းဆုံး ဖြစ်နိုင်မယ့်နည်းလမ်း ရှာကြံနေချိန်မှာ ကျွန်တော်တို့ ကျောင်း က ဆရာတွေ အင်းလျားလမ်းဘက် (Eco အပေါက်)ကနေ ဝင်လာပြီး အပြင်မှာ လုံထိန်းတွေ ဝိုင်းထားပြီးဖြစ်လို့ ကျောင်းကို ပြန်လိုက်ခဲ့ဖို့ ပြောပါတယ်။

ရေငတ်တုန်း ရေတွင်းထဲကျဆိုသလို ကျွန်တော်တို့အားလုံး (RIT ရော၊ RASU ကျောင်းသားတွေပါ RIT ပြန်လိုက်ဖို့ ဆုံးဖြတ်ပြီး လာခေါ်တဲ့ ဆရာတွေနဲ့ ပြန်လိုက်ခဲ့ကြပါတယ်)

## နောက်နေ့အတွေ့အကြုံတွေကို ပြောပြပေးပါဦး။

RIT ရောက်တော့ Building 1 ရှေ့မှာထိုင်ကြပြီး အချင်းချင်း မိတ်ဆက်၊ နာမည်၊ အဆောင်၊ အခန်းနံပါတ်တွေ ဖလှယ်ကြပါတယ်။ နောက်နေ့တွေမှာ ပြန်ဆုံဖို့၊ တိုင်ပင်ဖို့ပြောပြီး လူစုခွဲခဲ့ကြပါတယ်။ နောက်နေ့တွေမှာတော့ ကျောင်းသား ရေးကို နိုင်ငံရေးအမြတ်ထုတ်ချင်တဲ့ သူတွေက ဝင်စွက်ဖက်တယ်ဆိုတဲ့ အသံ တွေကို ကျောင်းတက်ရင်း ကြားရတာရှိသလို၊ RC2 နဲ့ မိန်းထဲက ပြန်ကြားရ တာကတော့ RIT ကျောင်းသားတွေက တကယ့်တကယ်ကျတော့ အဖျားရှူး သွားတာပဲ၊ မယုံရဘူးဆိုတဲ့ ကျောင်းသားအချင်းချင်း သွေးခွဲတဲ့အသံတွေ ပြန်ကြားရပါတယ်။ ကျောင်းသားအချင်းချင်းကြားမှာ နားလည်မှု မလွဲစေဖို့ အတွက် စော်ဘွားကြီးကုန်းဖြစ်စဥ်ရဲ့ ဖြစ်ရပ်မှန်ကို ကျောင်းသားတွေ သိအောင် စာရေးပြီးဖြန့်ဖို့ ကျွန်တော်တို့တွေ RIT အဆောင်တွေမှာ ဆွေးနွေး ကြသလို မိန်းထဲကို ချိတ်ဆက်ပြီး တိုင်ပင်ဆွေးနွေးတာတွေ လုပ်ခဲ့ကြတယ်။ NLD ပါတီရုံးနဲ့ ခြံအမှတ် (၅၄) ကို အဆက်သွယ်ရှိတဲ့ final တန်းက လူဟောင်း တစ်ယောက်ရှိတယ်လို့ သိရပေမယ့် အဆက်အသွယ်တော့ မရခဲ့ပါဘူး။ ဖြစ်ရပ်မှန်သတင်းကို ထုတ်ပြန်နိုင်ဖို့ ရေးထားတဲ့ စာကို ခက်ခက်ခဲခဲ မိတ္တူကူး ပြီး၊ တက္ကသိုလ်အသီးသီးကို ဖြန့်ဖို့ ကြို့ကုန်းဆောင်ထဲမှာ တိုင်ပင်နေတုန်း အဆောင်မှူးရောက်လာလို့ အားလုံးလူစုခွဲပြီး လစ်ရတာတွေလည်း ရှိပါတယ်။ ဆရာတွေအပါအဝင် ကျောင်းသားထဲက သတင်းပေးတွေ စောင့်ကြည့်နေတဲ့ အချိန်ပါ။ ပါမောက္ခချုပ်နဲ့ အာဏာပိုင်တွေကလည်း ကျောင်းသားလှုပ်ရှားမှုမှာ ပါဝင်တဲ့သူတွေကို အိမ်ပြန်ခိုင်းတာ၊ မိဘတွေခေါ်ပြီး ပြန်ပို့တာတွေ လုပ်ပါ တယ်။ အရိုက်ခံရတဲ့ ကျောင်းသားသုံးယောက် သတင်းကလည်း စုံစမ်းလို့ မရတော့ ကျောင်းသားတွေကြားထဲ မကျေမနပ်ဖြစ်နေတာပါ။ ကျွန်တော်တို့ လည်း ဖြစ်ရပ်မှန်ကို ဖော်ထုတ်ဖို့ ကြိုးစားနေချိန်မှာ တစ်နေ့တော့ ကျွန်တော့် ကို ပါမောက္ခချုပ်က ခေါ်ပါတယ်။ ကျွန်တော့် နာမည်ကို စာရွက်မှာရေးပြီး

အတန်းထဲလာပေးသွားတာပါ။ ဒါနဲ့ ကျွန်တော် ပါချုပ်နဲ့တွေ့ဖို့ သွားတယ်။ ရုံး အပြင်ဘက်မှာ စောင့်နေတုန်း ပညာရေးဝန်ကြီး ဦးပန်းအောင်က ကျောင်းသား အချို့နဲ့ ပါမောက္ခချုပ်ရုံးကိုလာတာ တွေ့လိုက်ပါတယ်။ အားကစားပွဲတစ်ခုမှာ RIT ကျောင်းသားတွေ ဆုရတာကို ချီးမြှောက်တဲ့အနေနဲ့ ကျောင်းအထိ ပြန်လိုက်ပို့ပြီး ကျောင်းသားတွေကို ချီးမွမ်းခန်းဖွင့်တာ တွေ့ရပါတယ်။ ပါမောက္ခချုပ်ကိုလည်း ဆုချခိုင်းတာ ကြားရပါတယ်။ အစဥ်အလာ မဟုတ်တာတွေ တွေ့ရတာပါ။ အရင်တုန်းက လိုက်ပို့တာမရှိခဲ့ဘူးလေ။ ဒါနဲ့ ပါမောက္ခချုပ်က သူ့ကို ပြောလိုက်ပုံရပါတယ်။ ဝန်ကြီးက ခေါ်တွေ့ပါတယ်။ ကျွန်တော့်ကို တွေ့တဲ့အချိန်မှာ ဝန်ကြီးက 'သူတို့အနေနဲ့ တိုင်းပြည်ကို ကောင်း အောင်လုပ်နေကြောင်း ဖွံ့ဖြိုးရေး၊ တည်ငြိမ်အေးချမ်းရေး လုပ်နေကြောင်း၊ အိုမင်းချိန်ရောက်မှ တိုင်းပြည်ကို ဒူးနဲ့ မျက်ရည်သုတ်ပြီး ကြည့်နေရမှာ မလို လားကြောင်း၊ ကျောင်းသားလူငယ်များကို အနာဂတ်မှာ တိုင်းပြည် ခေါင်းဆောင်များ ဖြစ်လာမယ်လို့ ယုံကြည်ကြောင်း၊ ကျောင်းပြီးအောင် စာကို အာရုံစိုက်စေချင်ကြောင်း၊ သူတို့အနေနဲ့ ပံ့ပိုးဖြည့်ဆည်းနိုင်တာကို ပံ့ပိုးပေးမယ့် အကြောင်း' ပြောပါတယ်။ ကျွန်တော်ကလည်း ကျောင်းသားများ ပညာပြည့်ဝ၊ နှလုံးလှဖို့ ကြိုးစားနေကြောင်း၊ ဗုဒ္ဓဘာသာသမီးသားစုအနေဖြင့် ကျောင်းသား များအား ကိုယ်ကျင့်ကောင်း၊ နှလုံးလှ၊ ပညာတက်ခေါင်းဆောင်များ ဖြစ်လာ စေဖို့ ကြိုးပမ်းဆောင်ရွက်နေကြောင်း၊ စာပေဟောပြောပွဲတွေကို လွတ်လွတ် လပ်လပ် လုပ်ခွင့်ပေးစေချင်ကြောင်း၊ ကျောင်းသားများ မူးယစ်ရမ်းကားခြင်းကို မိမိအနေဖြင့် မနှစ်သက်ကြောင်း၊ ကျောင်းသားများ မူးယစ်ရမ်းကားခဲ့ပါက ဥပဒေအရ အရေးယူနိုင်ပါလျက်နဲ့ စည်ပင်ရဲတွေရဲ့ အကြမ်းဖက်ရိုက်နှက်ခြင်း ကို လက်မခံနိုင်ကြောင်း ပြောခဲ့ပါတယ်။

## အခြေအနေက အဖြေမှ မပေါ်သေးတာ အစ်ကို။ အစ်ကိုတို့ ဘာဆက် လုပ်ကြသလဲ။

နောက်နေ့မှာ စော်ဘွားကြီးကုန်းကိစ္စမှာ ဦးဆောင်ပါဝင်တဲ့ ကျောင်းသားတွေ ကို ပါမောက္ခတွေ မော်ကွန်းထိန်းတွေနဲ့အတူ တွေ့ရပြန်ပါတယ်။ အဆောင် တွေမှာ စာကပ်လို့ဆိုပြီး ခေါ်ဆွေးနွေးတာပါ။ ကျွန်တော်ကတော့ စာကပ်တာ မသိလိုက်ပါဘူး။ ပါချုပ်ကတော့ ကျွန်တော့်ကို ကျောင်းမှာ ရှိစေချင်ပုံမရပါဘူး။

ကျွန်တော့ဌာနရဲ့ ပါမောက္ခဆရာဦးဘမြင့်ကို ပညာရပ်ဆိုင်ရာ လေ့လာရေး ခရီးမှာ ကျွန်တော့်ကို ခေါ်သွားဖို့ ပြောထားတယ်နဲ့ တူပါတယ်။ အစည်းအဝေး ခန်းထဲ ထိုင်နေတုန်း ကျွန်တော့်ကို ခရီးစဥ်မှာလိုက်ခဲ့ဖို့ ခေါ်ပါတယ်။ ကျွန်တော် က မလိုက်နိုင်ကြောင်းပြောပေမဲ့ လိုက်မှဖြစ်မယ် ပြောပါတယ်။ ကျွန်တော်တို့ အငြင်းပွားနေတုန်း မော်ကွန်းထိန်းဦးသန်းစိန်က 'လိုက်သွားပါကွာ၊ မင်း ပြန်လာလည်း ဒီပွဲကိုမီမှာပါ' ဆိုပြီး ပြောပါတယ်။ ဆရာတွေရဲ့ အတွေ့အကြုံနဲ့ အရိပ်ယောင်တွေ လက္ခဏာတွေ သုံးသပ်ရင်း သိနေကြပါပြီ။ ဟုတ်ပါတယ်။ ကျွန်တော်လည်း ပွဲဖြစ်ကို ဖြစ်ရမယ်ဆိုတဲ့ စိတ်ရှိနေပါတယ်။ စာ အရမ်း ကြိုးစားတဲ့ ကျွန်တော့်သူငယ်ချင်း တစ်ယောက်တောင်မှ ကျွန်တော် ပြောဖြစ် ပါတယ်။ မင်း သိပ်ကြိုးစားမနေနဲ့၊ ဒီနှစ်တို့တွေ ကျောင်းမပြီးနိုင်ဘူးလို့ ပြော လိုက်တော့ သူ တော်တော်လန့်သွားပါတယ်။ မလုပ်ပါနဲ့ သူငယ်ချင်းရာ ဒီနှစ် ပြီးရင် ဘွဲ့ရတော့မှာဆိုပြီး သူက တောင်းပန်ခဲ့တာ မှတ်မှတ်ရရပါပဲ။ ကျွန်တော် လေ့လာရေးခရီး လိုက်သွားရတာ ငါးရက်ကြာပါတယ်။ စီမံခန့်ခွဲရတာ ပင်ပန်း ပေမယ့် အငယ်တန်းကျောင်းသားတွေနဲ့ ရင်းရင်းနှီးနှီးနေခဲ့ရတော့ စည်းရုံးရေး အရ အောင်မြင်ခဲ့ပါတယ်။ နောက်တစ်နေ့မှာတော့ ကျွန်တော့်အိမ်ကို စာ တစ်စောင် ကျွန်တော့်နာမည်နဲ့ လိပ်စာနဲ့ ရောက်လာပါတယ်။ 'ကျောင်းသား၊ ကျောင်းသူအပေါင်းသို့ ပန်ကြားလွှာ' ဆိုပြီးတော့ ခေါင်းစဥ်တပ်ထားပါတယ်။ စာထဲမှာပါတာက RIT ကျောင်းသားတွေဟာ ဆိုးမိုက်၊ မူးယစ်၊ ရမ်းကား၊ ကားခ မပေးပဲစီး၊ ရန်ဖြစ်၊ ဆန္ဒပြ၊ နိုင်ငံရေးသမားတွေရဲ့ လက်ကိုင်တုတ်တွေ ဖြစ်နေ ပြီး အေးချမ်းစွာ ပညာသင်ကြားရေးကို နှောင့်ယှက်နေကြတယ်။ ဒါကြောင့် ဒီ ကျောင်းသားတွေကို ဆန့်ကျင်ကြပါဆိုပြီး အောက်ဆုံးမှာ 'အေးချမ်းစွာ ပညာ သင်ကြားလိုသူများ' လို့ ရေးသားထားတဲ့ စာတစ်စောင်ပါ။ အဲ့ဒီစာဟာ စာသင်ခန်းတွေထဲက ခုံတွေထဲမှာလည်းရှိသလို စော်ဘွားကြီးကုန်း ဖြစ်စဥ်မှာ ဦးဆောင်ခဲ့တဲ့ အဆောင်ကျောင်းသားတွေဆီလည်း ရောက်ပါတယ်။ ကွန်ပျူတာနဲ့ စာစီထားတာပါ။ တော်တော်စနစ်တကျ ပြင်ဆင်ပြီး ပို့တာပါ။ အာဏာပိုင်တွေက လုပ်တယ်လို့ ယူဆရပါတယ်။

**တော်တော်ပရိယာယ်များတာပဲ။ အဲ့ဒီစာကိစ္စကို အစ်ကိုတို့ ဘယ်လို တုံ့ပြန်ကြသလဲ။**

ကျွန်တော်တို့အတွက် ဒီစာဟာ အခွင့်အလမ်းတစ်ခု ဖြစ်ခဲ့ပါတယ်။ ဒီစာကို အကြောင်းပြုပြီး ကျောင်းသားတွေရဲ့ သိက္ခာကို စော်ကားတဲ့အတွက် ပြန်ပြီး ရှင်းလင်းချက်ထုတ်တဲ့ စာရေးဖို့ တိုင်ပင်ဆုံးဖြတ်ကြပြီးတော့ ပါချုပ်နဲ့ သွားတွေ့ကြပါတယ်။ ပါချုပ်က ထူးထူးခြားခြား သဘောတူခွင့်ပြုလို့ ကျွန်တော်တို့ ဝမ်းသာအားရဖြစ်ကြပါတယ်။ ပထမအဆင့်တော့ အောင်မြင်ပြီ ပေါ့။ အဲ့ဒီနေ့က နိုဝင်ဘာ (၂၉) ရက်ပါ။ ကျောင်း ပြန်ဖွင့်မယ့် ဒီဇင်ဘာ (၂) ရက်၊ တနင်္လာနေ့မှာ Building 1 ရဲ့ noticeboard အပါအဝင် ကျောင်းဆောင်တွေ အတန်းတွေမှာ ကပ်ဖို့၊ ကန်တင်းအဆင်းနံရံတွေမှာ ကပ်ဖို့ကို တိုင်ပင်ထားကြ ပါတယ်။ ဒီဇင်ဘာ (၂) ရက်နေ့ မနက် ပါချုပ်ကို သွားတွေ့တဲ့အခါ ကျောင်းသား တွေ အင်အားပြဖို့ အဆောင်တစ်ဆောင်စီကို လေး၊ ငါးယောက် စုထားကြဖို့ အတွက် ကျောင်းဆောင်တွေကိုသွားပြီး မှာထားပါတယ်၊ ဒီဇင်ဘာ (၂) ရက်နေ့ အတွက် ကျွန်တော်တို့အားလုံး ရင်ခုန်နေကြပါပြီ။ ဒီဇင်ဘာ (၂) ရက်နေ့ မနက်မှာ ကျွန်တော်တို့ ကျောင်းကိုရောက်တော့ ပါချုပ်၊ ပါမောက္ခတွေ၊ ဆရာ တွေကို main building 1 ကြီးရဲ့ အဝင်ပေါက်မှာ တွေ့ရပါတယ်။ ပါချုပ်ရဲ့ မျက်နှာက ခပ်တည်တည်နဲ့ မနေ့က ဆွေးနွေးညှိနှိုင်းထားတာကို မသိတဲ့ပုံလို ဖြစ်နေတာ တွေ့ရပါတယ်။ ကျွန်တော်တို့လည်း ချိန်းထားတဲ့အချိန် (ကိုးနာရီ လောက် ထင်ပါတယ်) ကျော်လာတော့ ပါချုပ်ဆီသွားပြီး၊ ကျွန်တော်တို့ လူစုပြီး ဖြစ်လို့ မနေ့က ပြောထားတဲ့ ကိစ္စအတွက် လာတာပါလို့ ပြောပါတယ်။ ပါချုပ် မျက်နှာကလည်း ခပ်တင်းတင်းနဲ့ 'အေး..လာ ရုံးခန်းထဲလိုက်ခဲ့' ဆိုပြီး ကျွန်တော်တို့ကို သူ့ရဲ့ ရုံးခန်းကို ခေါ်ပါတယ်။ ရုံးခန်းထဲရောက်တော့ ကျွန်တော်တို့ ထုတ်ပြန်မယ့် စာကိစ္စကို အထက်က လက်မခံခွင့်မပြုဘူး။ ကျွန်တော်တို့ကိုလည်း မေဂျာ အတန်းတွေ မေးပြီး သက်ဆိုင်ရာ ပါမောက္ခတွေ ကို ခေါ်ပြီး ကျောင်းသား ဟုတ်၊ မဟုတ် စစ်ခိုင်းတာတွေ လုပ်ပါတယ်။ ပါမောက္ခဆရာတွေလည်း မျက်နှာမကောင်းကြပါဘူး။ ကျွန်တော်တို့ အားလုံး လည်း ပါချုပ်ရုံးခန်းက ပြန်ထွက်လာကြပါတယ်။ ပါချုပ်နဲ့ သွားတွေ့တာ စုစုပေါင်း ခြောက်ယောက်လောက် ရှိပါတယ်။ ပါချုပ်က သဘောမတူ၊ ခွင့် မပြုတဲ့အတွက် ကိုယ့်ဘာသာကိုယ် ကျောင်းသားတွေ သိအောင်လုပ်ဖို့ပဲ ရှိပါ

တော့တယ်။ ကျွန်တော်တို့ ပါချုပ်နဲ့ အထဲဝင် တွေ့နေတဲ့အချိန်မှာ အင်အားပြဖို့ စုထားတဲ့ ကျောင်းသားတွေ ရောက်နေကြပါပြီ။ သူတို့တွေကလည်း အခြေအနေကို သိချင်ကြလို့ ကျွန်တော်တို့ ထွက်လာတော့ ဝိုင်းအုံပြီး မေးကြပါတယ်။ ကျွန်တော်တို့လည်း အခြေအနေကို ရှင်းပြပြီး ဖြစ်ရပ်မှန်နဲ့ပတ်သက်တဲ့ ရှင်းလင်းချက်ကို ကျောင်းသားတွေသိအောင် ဖတ်ပြဖို့ တိုင်ပင်ပါတယ်။ တော်တော်များများရဲ့ စိတ်ထဲမှာ မကျေနပ်တာတွေ ရှိနေပေမယ့် စာဖတ်ပြီး စဖောက်ခွဲဖို့ စိုးရိမ်မှုတွေ ရှိနေကြပါတယ်။ ကျွန်တော်လည်း အလားတူ စိုးရိမ်မှု ရှိပေမယ့် နောက်ဆုံးမှာ ဖတ်ဖို့ ဆုံးဖြတ်လိုက်ပါတယ်။ ကျွန်တော် စဖတ်တဲ့ အချိန်မှာ အသံမတုန်အောင် ကြိုးစားဖတ်ရပါတယ်။ မအောင်မြင်မှာကို စိုးရိမ်မှုတွေ ရှိနေလို့ပါ။ ကံကောင်း ထောက်မစွာနဲ့ပဲ ကျွန်တော် ဖြေရှင်းချက်စာ ဖတ်နေတဲ့ အချိန်မှာ အတန်းတစ်တန်းပြီးသွားလို့ ကျောင်းသားတွေ ဆင်းလာတဲ့အချိန်နဲ့ တိုက်ဆိုင် သွားပြီးတော့ ကျောင်းသားတွေက နောက်တစ်ကြိမ် ထပ်ဖတ်ခိုင်းပါတယ်။ ကျွန်တော် နောက်တစ်ကြိမ် ထပ်ဖတ်ပြတဲ့အချိန်မှာ ကျန်တဲ့သူတွေက စက်မှုတက္ကသိုလ် စာကြည့်တိုက်ရဲ့ မိတ္တူကူးစက်မှာ ပွားပြီး ကျန်တဲ့ အတန်းတွေဆီ သွားရှင်းပြကြပါတယ်။ ကျွန်တော်တို့ အားလုံး (၁)နှစ် (၃)နှစ် အတန်းတွေပါမကျန် သွားရောက်ရှင်းလင်း ပြောဆိုအပြီးမှာတော့ Building 1 အောက်မှာ ကျောင်းသားတွေအားလုံး ဆုံရပ်ဖြစ်သွားပါပြီ။ ကျွန်တော်တို့ ကျောင်းသားတွေရဲ့ လိုလားချက်တွေ၊ တောင်းဆိုချက်တွေကို အားလုံး တိုင်ပင်ပြီး ရေးကြတယ်။ ကျောင်းသားတွေရဲ့ တောင်းဆိုချက်ကို အာဏာပိုင်တွေက ညှိနှိုင်းဖို့ခေါ်လို့ ကျောင်းသားတချို့သွားပြီး ဆွေးနွေးကြပါတယ်။ ကျန်ခဲ့တဲ့ ကျောင်းသားတွေက ကျောင်းသားတွေကို တိုင်းပြည်ရဲ့ အနာဂတ်သားကောင်းရတနာတွေလို့ အကြိမ်ကြိမ် ပြောဆိုသုံးနှုန်းတဲ့ လူကြီးတွေအနေနဲ့ ကျောင်းသားတွေကို တကယ်တန်ဖိုးထားရင် RIT ကျောင်းကို လာပြီး ညှိနှိုင်းဆွေးနွေးတာ ပိုဖြစ်သင့်ကြောင်း ပြောဆိုကြပါတယ်။ ကျွန်တော်တို့ ဆန္ဒပြတဲ့အချိန်ဟာ ထမင်းစားချိန် ကျော်လာပြီဖြစ်လို့ ကျောင်းသားတွေ အားလုံး အဆာပြေစားနိုင်ဖို့အတွက် ရန်ပုံငွေကောက်ပြီး စားစရာတွေ ဝယ်တဲ့သူက ဝယ်ပြီး အားလုံးကို မျှဝေပါတယ်။ သိပ်မကြာခင်မှာ တာဝန်ရှိတဲ့သူတွေနဲ့ သွားရောက်ဆွေးနွေးတဲ့ ကျောင်းသားတွေ ပြန်ရောက်လာပါတယ်။ တောင်းဆိုချက်တွေဖြစ်တဲ့ ဆန္ဒပြပွဲကို ဦးဆောင်ကျောင်းသားတွေကို အရေးယူကျောင်းထုတ်တာတွေ မလုပ်ဖို့၊ ကျောင်းမပိတ်ဖို့ စတဲ့ အချက်တွေကို

သဘောတူပြီး ဖြစ်ရပ်မှန်သတင်းကို ထုတ်ပြန်ကြေညာပြီး မီဒီယာကနေ တရားဝင် တောင်းပန်ဖို့ ကိစ္စကို သဘောမတူခဲ့ပါဘူး။

## အဲဒီတော့ အစ်ကိုတို့ ဘာလုပ်ခဲ့ကြသလဲ။

ဒီလိုနဲ့ ကျွန်တော်တို့ ကျောင်းသားတွေ Building 1 ကနေ စထွက်ပါတယ်။ ကြို့ကုန်းဆောင်တွေရဲ့ရှေ့မှာ ဆန္ဒပြပြီး တောင်းဆိုချက်တွေကို ကြွေးကြော် နေကြရင်းနဲ့ ကျောင်းပြင်ကို ထွက်မလား၊ မထွက်ဘူးလား ကိစ္စကို ဆုံးဖြတ်ဖို့ ဖြစ်လာပါတယ်။ ကျွန်တော်က ကျောင်းအပြင်ကိုထွက်ပြီး ပြည်သူလူထု သိအောင် ဖော်ထုတ်ဆန္ဒပြချင်တယ်။ ဦးဆောင်ကျောင်းသားတချို့က မထွက် ချင်ကြပါဘူး။ ကျောင်းအပြင်ထွက်ရေးအတွက် ဆွေးနွေးပြောဆို နေကြရင်း ကျောင်းသားတွေက ခုံတစ်လုံးယူလာပြီး ကျွန်တော့်ကို ဆုံးဖြတ်ဖို့ ပြောပါ တယ်။ ကျွန်တော်လည်း ကျန်တဲ့တက္ကသိုလ်တွေနဲ့ ကျောင်းတွေ အပါအဝင် ပြည်သူလူထုထောက်ခံမှုရအောင်လုပ်ဖို့ အပြင်ထွက်ဖို့ ဆုံးဖြတ်လိုက်ပါတယ်။ ကျွန်တော်တို့ ကျောင်းသားတွေ ဆန္ဒပြခဲ့တာ ညပိုင်းတွေမှာဆိုတော့ လူ တော်တော်များများ မသိကြပါဘူး။ ဒီကြားကာလမှာ ကျွန်တော်တို့ ဆက်သွယ် ထားတဲ့ ကျောင်းတွေက ကျောင်းသားတွေဆီကိုက အပြင်ထွက်မှ ဖြစ်မှာပါ။ အချိန်ကလည်း နေ့လယ်ခင်း အချိန်ကောင်းပါပဲ။ ကျွန်တော်တို့ အပြင် ထွက်မယ်လို့ မဆုံးဖြတ်ခင်မှာပဲ ကျောင်းသား တော်တော်များများ အပြင်ရောက်နေတာ တွေ့ရပါတယ်။ သံကြိုးကြီးနဲ့ ခတ်ထားတဲ့ တံခါးကြီးကို ကျောင်းသားတွေအားနဲ့ ဝိုင်းတွန်းလိုက်ကြတာ ကျောင်းသားတွေ ထွက်လို့ ရသွားပါတယ်။ ကျွန်တော်တို့ ကျောင်းသားတွေ အပြင်ရောက်တော့ လမ်း ပိတ်သလို ဖြစ်သွားပါပြီ။ ကျွန်တော်တို့လည်း ခရီးသွားပြည်သူတွေ အနှောင့် အယှက်မဖြစ်ရအောင် ရန်ကုန်-အင်းစိန်လမ်းရဲ့ ကားလမ်းတစ်ခြမ်းကို ဖွင့်ပေး ပြီး စနစ်တကျနဲ့ အားလုံးလမ်းလျှောက်ကြမယ်လို့ ဆုံးဖြတ်ပါတယ်။ အပြင် လူတွေ ဝင်မလာနိုင်အောင် (အနှောင့်အယှက် မပေးနိုင်အောင်) ပီနန် (ပလတ် စတစ်) ကြိုးခွေတွေဝယ်ပြီး စည်းသဘောမျိုး လုပ်ပြီး လွတ်လပ်မှု၊ တရား မျှတမှုအတွက် ချီတက်ဆန္ဒပြလမ်းလျှောက်ပွဲကို စတင်ပါတယ်။ လမ်း တစ်လျှောက်မှာ နိုင်ငံခြားသတင်းထောက်တွေက သတင်းကြိုရထားတော့ ကျွန်တော်တို့ ကျောင်းအပြင်ဘက် စထွက် လမ်းလျှောက်ကတည်းက သတင်း

စယူ မှတ်တမ်းတင်ပါတယ်။ ကိုကိုသက် ကိုပဲ မီဒီယာတွေကို ကျောင်းသားတွေ ဆန္ဒပြရတဲ့အကြောင်းနဲ့ တောင်းဆိုချက်တွေကို ဘာသာပြန်ရှင်းပြဖို့ ပြောပြထားလို့ သူက လမ်းတစ်လျှောက်လုံး သတင်းထောက်တွေကို ဘာသာပြန်ရှင်းပြပါတယ်။

## လမ်းတစ်လျှောက် အတွေ့အကြုံတွေကို ပြောပြပါဦး။

လမ်းတစ်လျှောက်မှာ ပြည်သူလူထုရဲ့ ထောက်ခံမှုကတော့ အားရကျေနပ်စရာပါပဲ။ လက်ခုပ်တီးပြီး အားပေးကြပါတယ်။ ရေတိုက်ပါတယ်၊ မုန့်ဝေသူတွေလည်း ရှိပါတယ်။ ကျွန်တော်တို့ ကျောင်းသားတွေ ဆန္ဒပြရတဲ့ အကြောင်းတွေနဲ့ တောင်းဆိုချက်တွေကိုလည်း လမ်းတစ်လျှောက် ကြွေးကြော်ကြပါတယ်။ သမိုင်းလမ်းဆုံ ကျော်လာတော့ မိန်းထဲက ကျွန်တော်တို့နဲ့ အဆက်အသွယ်ရထားတဲ့ ကျောင်းသားတစ်ယောက် ကျွန်တော့်ကို လာတွေ့ပြီး RC2 နဲ့ RASU ကို သူပြန် ရှင်းပြမယ်ပြောရင်း ပြန်သွားပါတယ်။ RC2 ထဲကိုဝင်ရင် ထွက်ပေါက် ပိတ်နိုင်မလား တွေးမိပြီး ကျွန်တော်တို့ ကျောင်းသားတွေဟာ လှည်းတန်းကို ဦးတည်ပြီး ဆက်လက် တက်ခဲ့ပါတယ်။ လှည်းတန်းလမ်းဆုံကို ရောက်တော့ RASU က ကျောင်းသူ၊ ကျောင်းသားတွေသိအောင် မာလာဆောင်နဲ့ ဂျပ်ဆင်ရှေ့ထိ ဆက်လျှောက်ကြပါတယ်။ ယုဒသန်ရိပ်သာရှေ့မှာ ထိုင်နားကြပြီး ကျောင်းသားတွေ ဆန္ဒပြရတဲ့အကြောင်းနဲ့ တောင်းဆိုချက်တွေကို ကျွန်တော်အပါအဝင် ကျောင်းသားတွေက ရှင်းပြကြပါတယ်။ ကျွန်တော် ရှင်းပြနေတုန်း ကျွန်တော့်ညီ အေးထွဋ်က သူတို့ ဘူမိဗေဒ ဘာသာရပ်က ကျောင်းသားတစ်ယောက်နဲ့ မိတ်ဆက်ပေးပါတယ်။ မင်းသန်းထွဋ်ပါ။ နိုင်ငံရေးလုပ်လို့ သူက ထောင်ကျခဲ့ဖူးကြောင်း၊ ဒီကိစ္စမှာလည်း မနေနိုင်လို့ ဝင်ပါတော့မည်ဖြစ်ကြောင်း၊ ဒီပွဲ မအောင်မြင်ခဲ့လျှင် အဖမ်းမခံကြဖို့နဲ့ သူလည်း အဖမ်းခံမည်မဟုတ်ကြောင်း ပြောပြီး ဝင်ရောက်ဟောပြောပါတော့တယ်။ ကျွန်တော်လည်း အားရှိသွား ပါတယ်။ ကျွန်တော် လှည်းတန်းရောက်ချိန် အသံကုန်နေပါပြီ။ ကျွန်တော်တို့ ရန်ကုန်စက်မှုတက္ကသိုလ်၊ ဗုဒ္ဓဘာသာမိသားစုရဲ့ ရန်ပုံငွေအဖြစ် ရောင်းဖို့ယူလာတဲ့ ၁၉၈၇ ခုနှစ် ပြက္ခဒိန်လည်း ကြွေးကြော်သံတွေ ရေးလိုက်လို့ ပိုစတာတွေဖြစ်သွားပါပြီ။ မှောင်ရီပျိုးလာတော့ လှည်းတန်းလမ်းဆုံကို ပြန်သွားကြပါတယ်။ လှည်းတန်းလမ်းဆုံရဲ့ ဗဟိုချက်မ

နေရာမှာ နေရာယူ လိုက်ကြပြီး လာရောက် အားပေးဝန်းရံကြတဲ့ ကျောင်းသူ၊ ကျောင်းသားနဲ့ ပြည်သူတွေကို ဆန္ဒပြ ကျောင်းသူ၊ ကျောင်းသားတွေက ဆန္ဒပြ ရတဲ့အကြောင်း၊ စစ်အာဏာရှင်စနစ်အကြောင်းတွေ ပြောကြဟောကြပါ တယ်။ ရတနာထွန်း စတိုးပိုင်ရှင် ဦးမောင်မောင်က ကျောင်းသူ၊ ကျောင်းသား တွေအတွက် ရေသန့် လာလှူပါတယ်။ အမျိုးသမီးတစ်ယောက်ကလည်း ကား ရပ်ပြီး (၂၀၀) တန် အုပ်လိုက်လှူတာ တွေ့ပါတယ်။ ဘဏ္ဍာထိန်းအဖြစ်နဲ့ စတုတ္ထနှစ် စက်မှုက ဖေကိုဦးကို တာဝန်ယူခိုင်းပြီး စကားပြောဖို့ အသံချဲ့စက် တွေ၊ လော်စပီကာတွေ သွားဝယ်တဲ့သူက ဝယ်ပါတယ်။ ကျွန်တော့် သူငယ်ချင်း တစ်ယောက်က hand speaker လာပေးပါတယ်။ ဒါပေမဲ့ သိပ်ကြာကြာမခံ ပါဘူး။ လှည်းတန်းလမ်းဆုံမှာ ထိုင်ကြတော့ တက္ကသိုလ်ကျောင်းပေါင်းစုံက လူတွေ ပါနေပါပြီ။ Eco က အောင်ခိုင်၊ Philosophy က ကိုခင်မောင်ဝင်း၊ IR က အောင်နိုင်မင်း၊ ဘူမိဗေဒက မင်းသန်းထွဋ်၊ အခြေခံပညာကျောင်းက မောင်မောင် စတဲ့သူတွေ ပါတဲ့ ကျောင်းသားသမဂ္ဂဖြစ်မြောက်ရေးအဖွဲ့ကို ဖွဲ့စည်းလိုက်ပါတယ်။ ကျောင်းသားတစ်ယောက်ဆီ တက်ပြီးပြောနေကြတုန်း အုပ်စုတစ်စုက စာရွက်တွေ ဝေသွားပါတယ်။ ကျောင်းသားတစ်ယောက်က အသံ ကျယ်ကျယ်နဲ့ ဖတ်ပြပါတယ်။

## ဘာစာလဲ အစ်ကို။

စာထဲမှာပါတာကတော့ စစ်အာဏာရှင်စနစ်ကို ပြတ်ပြတ်သားသား ဝေဖန် ပြောဆို တိုက်ခိုက်ထားတာ ကျွန်တော်ဖတ်ရပါတယ်။ ကျွန်တော့်ဆီကို ကျောင်းသားတစ်ယောက်က လာပြီးပြောတာက ဒီစာနဲ့ပတ်သက်ပြီး ကျောင်းသားတွေ မကြိုက်တဲ့ အသံကြားရတယ် ဆိုပါတယ်။ ဒါနဲ့ ကျွန်တော် လည်း အခြေအနေစောင့်ကြည့်ပြီး စာဖတ်ပြတာရပ်ထားဖို့ ပြောလိုက်ပါတယ်။ ကျွန်တော်တို့ အရေးပေါ်တိုင်ပင်ဆွေးနွေးနေရ တာကတော့ လှည်းတန်းမှာပဲ ဆက်ထိုင်နေမလား၊ စစ်တပ်နဲ့ဝိုင်းရင်၊ မျက်ရည်ယိုဗုံးနဲ့ ပစ်ပြီးလူစုခွဲရင် ဘာလုပ်မလဲဆိုတဲ့ စဥ်းစားချက်တွေနဲ့ ဆွေးနွေးတိုင်ပင်ကြတာပါ။ နောက်ဆုံး တော့ ပြည်သူသိအောင် မြို့ထဲဘက် လမ်းလျှောက်ချီတက်ဆန္ဒပြကြမယ်ဆိုပြီး စုပေါင်းတိုင်ပင် ဆုံးဖြတ်ချက်နဲ့ ကြည့်မြင်တိုင်ကမ်းနားလမ်းဘက်ကို ဦးတည် လျှောက်ကြပါတယ်။ ကမ်းနားလမ်းအတိုင်း လျှောက်လာကြပြီးတော့ ဗန္ဓုလ

လမ်းဘက်ကို ချိုးပြီး သိမ်ကြီးဈေးမှာ ခဏနားပါတယ်။ သိမ်ကြီးဈေး ခုံးကျော် တံတားပေါ်တက်ပြီး ကျွန်တော်တို့ရဲ့ တောင်းဆိုချက်နဲ့ ကျောင်းသားတွေထဲမှာ ဝေထားတဲ့စာကို ဖတ်ပါတယ်။ သိမ်ကြီးဈေးကို ရောက်လာတဲ့အချိန်မှာ တောင်းဆိုချက်တွေဟာ ကျောင်းသားအရေး၊ သမဂ္ဂအရေးကို ကျော်လွန်လာပြီး စစ်အာဏာရှင်စနစ် ချုပ်ငြိမ်းရေး စတဲ့ အသံတွေ ပါလာပါပြီ။ ကျွန်တော်တို့ ဆက်လျှောက်ကြရင်း ဆူးလေစေတီတော်ရောက်တော့ ခဏနားပြီး ဘုရား တက် ဝတ်ပြုကြပါတယ်။ ဆုတောင်းတာလည်း ပါတာပေါ့။ ခမ္မခတ်တွေနဲ့ စိတ်ခတ်ခွန်အားတွေ ဖြည့်တဲ့သဘောပါ။ ဆူးလေကျော်ရင် မြို့တော်ခန်းမ ရှေ့မှာ ဘာဖြစ်မှန်း မသိနိုင်လို့ ခန်းမဝင်းထဲမှာလည်း တပ်တွေ ရှိနိုင်မလား ဆိုတဲ့ အတွေးတွေနဲ့ ကုန်သည်လမ်းဘက်ကိုသွားဖို့ လှည့်လိုက်ပါတယ်။ ကုန်သည်လမ်း၊ အမေရိကန်သံရုံးရှေ့မှာ ခဏနားပြီး အမေရိကန်သံရုံးက တာဝန်ရှိသူတွေ သိအောင် သတင်းဖြန့်ချိတာ လုပ်ခဲ့ပါတယ်။ ကုန်သည်လမ်း ကနေ ပန်းဆိုးတန်းဘက်ချိုး၊ ပန်းဆိုးတန်းခုံးတံတား တက်ပြီး ဖြတ်နေချိန်မှာ နောက်ကြောင်းပြန်လှည့်ကြည့်မိတော့ ဆန္ဒပြလူအုပ်ကြီးဟာ တံတားအစပ် အထိ မဆုံးသေးပါဘူး။ ကျွန်တော်တို့ ကျောင်းသားတွေကို ပြည်သူထောက်ခံ ဝန်းရံမှုဟာ အလွန်အားရကျေနပ်စရာ ကောင်းပါတယ်။ ကျောင်းသားတွေ လည်း တာဝန်အသီးသီးယူပြီး တာဝန်ကြေကြပါတယ်။ ကျွန်တော်တို့ Electronical Power မေဂျာက ကျောင်းသားတစ်ယောက်ဆိုရင် တပ်ဦးနဲ့ တပ်နောက်ကို ပြေးလွှားပြီး သတင်းယူ၊ သတင်းပို့ လုပ်နေတာ တစ်ကိုယ်လုံး ချွေးတွေ ရွှဲရွှဲစိုနေတယ်။ ကျွန်တော့်ဆီကို ကျောင်းသားတစ်ယောက် သတင်းထောက်အချို့ ရန်ကုန်မြို့ထဲမှာပဲ ကျန်ရစ်ခဲ့တော့မယ့်အကြောင်း လာပြောပါတယ်။ ဆက်လိုက်မယ့်သူရှိသေးလား မေးကြည့်တော့ တချို့က ဆက်လိုက်ကြမယ် သိရပါတယ်။ ဒါနဲ့ ကျွန်တော်လည်း မန္တလေး၊ မော်လမြိုင် စတဲ့ နယ်ဝေးက ကျောင်းသားပြည်သူတွေ သိသွားအောင် ရန်ကုန်ဘူတာကြီး မှာ ရထားစီးဖို့ စောင့်နေတဲ့ ခရီးသည်တွေကို ကျောင်းသားတွေ ဆန္ဒပြရတဲ့ အကြောင်းရှင်းပြပါတယ်။ အဲ့နောက် ကန်တော်လေးဘက်ကို ပြန်တက်ဖို့ ဆက်လျှောက်ကြရာမှာ လမ်းကြောင်း မှားပြီး ရွှေးမိလို့ စစ်ရုံးတွေရှိတဲ့ဘက်ကို ရောက်သွားပါတယ်။ လမ်းကြောင်း မှားသွားတဲ့အတွက် ဆန္ဒပြလူတွေ တစ်ဝက်လောက် မြို့ထဲမှာ ကျန်ခဲ့ပါတယ်။

**စိတ်ဝင်စားစရာ သိပ်ကောင်းတာပဲ။ စစ်ရုံးရှေ့ ဖြတ်လျှောက်တော့ ဘာဖြစ်သလဲအစ်ကို။**

မိန်းကလေးတချို့ ဆက်မလျှောက်နိုင်လို့ ခဏနားနေကြတာကို ကျွန်တော် အားပေးဖို့ သွားကြည့်ရင်း ဆက်လျှောက်လို့ ဖြစ်၊ မဖြစ် သွားမေးရင်း ခဏနား ပါတယ်။ ဆက်လျှောက်တဲ့အခါမှာ စစ်ရုံးကို ဖြတ်ရတော့ ဂိတ်တာဝန်ကျ စစ်သားတွေလည်း လှုပ်လှုပ်ရှားရှားဖြစ်နေကြတာ တွေ့ရပါတယ်။ ကျွန်တော် တို့ ဦးထောင်ဘိုအဝိုင်းကိုဖြတ်ဖို့ ကြိုးစားချိန်မှာပဲ ထူးထူးဆန်းဆန်း ဖြစ်တာက ဒေါင်းအလံတပ်ထားတဲ့ ဝါးလုံးက အလယ်ကနေ ကျိုးကျတာပါ။ အားလုံး ဝိုင်းထိန်းလိုက်လို့ အလံအောက်ကျမသွားပေမယ့် ရှေ့ကို ဆက်လျှောက်လို့ မရ တော့ပါဘူး။ လုံထိန်းတပ် တွေ့လိုက်ရလို့ပါ။ ဒါနဲ့ ကျွန်တော်တို့လည်း ရွှေတိဂုံ ဘုရားဘက်ကို ဦးလှည့်လိုက်ပါတယ်။ ရွှေတိဂုံဘုရားပေါ် တက်မယ်လို့ ဆုံးဖြတ်မိပေမယ့် ဘုရားမရောက်ခင်မှာ စစ်တပ်ရော၊ လုံထိန်းတပ်ရော ကျွန်တော်တို့ကို ပိတ်ဆို့ဝန်းရံထားပါပြီ။ အမေရိကန်သံရုံးက သံအရာရှိတွေနဲ့ စစ်တပ်က ဗိုလ်မှူးတစ်ယောက်နဲ့ စကား အခြေအတင်ပြောနေတာ တွေ့ရပါ တယ်။ ခဏကြာတော့ သံရုံးက လူတွေ မကျေမနပ်နဲ့ ကားပေါ်ပြန်တက် သွားကြတာ တွေ့ရပါတယ်။ ခေါင်းဆောင်လို့ ယူဆရတဲ့ ဗိုလ်မှူးအဆင့် ရှိသူဟာ လုံထိန်းတပ်သားတွေ စစ်သားတွေကို အမိန့်ပေးနေတာ တွေ့ရပါ တယ်။ ကျွန်တော်တို့ လမ်းဘေးဝဲဘက်အခြမ်း မှာလည်း စစ်သားတွေက ကင်းပုန်းဝပ်နေပြီး စောင့်နေကြတာပါ။ ရွှေတိဂုံဘုရားနား ရောက်နေပေမယ့် ဘုရားပေါ် တက်လို့မရအောင် ပိတ်ဆို့လိုက်တာပါ။ ကျွန်တော်တို့ကို သူတို့ ဝိုင်းထားပါပြီ။ ဒီအချိန်မှာ ပညာရေးဝန်ကြီး ဦးပန်းအောင် ရောက်လာပြီး ကျွန်တော်တို့အားလုံး ကျောင်းပြန်လိုက်ခဲ့ဖို့ ခေါ်ပါတယ်။ ကားတွေ စီစဉ်ထား လို့ ကားနဲ့ပြန်ရုံပါပဲလို့ ပြောပါတယ်။ ကျွန်တော်တို့က ငြိမ်းငြိမ်းချမ်းချမ်း လမ်းလျှောက်ချီတက် ဆန္ဒထုတ်ဖော်ရင်း ကျောင်းကို ပြန်မှာဖြစ်လို့ လမ်းပိတ် ထားတာတွေကို ဖယ်ပေးဖို့ ညှိပါတယ်။ ဒါပေမယ့် ညှိလို့မရပါဘူး။ လုံထိန်း တပ်ကို ဦးဆောင်အမိန့်ပေးနေတဲ့ ဗိုလ်မှူးအဆင့်ရှိသူဟာ မာမာထန်ထန် ပြန်ပြောနေတာ တွေ့ရပါတယ်။ ခဏနေတော့ အဲ့ဒီဗိုလ်မှူးနဲ့ သွားညှိနှိုင်းတဲ့ ပညာရေးဝန်ကြီးနဲ့ ပါမောက္ခတွေ၊ ဆရာတွေ ကျွန်တော်တို့ဆီ ပြန်လာပြီး ညှိလို့ မရကြောင်း၊ ဆရာတွေကိုလည်း ပြန်ဖို့ပြောကြောင်း လာပြောပြီး ပြန်ကြတော့

မလို့ နှုတ်ဆက်ကြပါတယ်။ ကျွန်တော်တို့လည်း ဆရာတို့စေတနာကို လေးစားပါကြောင်း၊ ကျွန်တော်တို့ ရပ်တည်ချက်၊ တောင်းဆိုချက်တွေကိုလည်း နားလည်ပေးစေချင်ကြောင်း ပြောပြီး ဆရာတွေကို အားလုံး ရှိခိုးကန်တော့ နှုတ်ဆက်ကြပါတယ်။ ပြီးတော့ ဘုရားရှိခိုးပြီး သရဏဂုံတင်၊ မေတ္တာပို့ ကြပါတယ်။

## ဆရာတွေပြန်သွားတော့ အစ်ကိုတို့ ဘာဆက်လုပ်ကြသလဲ။

စစ်သားတွေနဲ့ လုံထိန်းတွေ ကျွန်တော်တို့နား မရောက်ခင်မှာ ဦးဆောင်ကော်မတီမှာ ပါတဲ့သူတွေနဲ့ ယောကျာ်းလေးတွေအားလုံး ရှေ့ထွက်လို့ခေါ်ပြီး လက်ချင်းချိတ်ထိုင်ကြပါတယ်။ မိန်းကလေး အများစုကို လူအုပ်ထဲမှာပဲနေလို့ ပြောတော့ အလယ်ထဲရောက်နေတဲ့ ကျောင်းသားတွေလည်း အပြင်ထွက်လာကြပြီး လက်ချင်းချိတ်ထိုင် ကြပါတယ်။ ကျွန်တော်တို့နားကို လုံထိန်းတပ်တွေဟာ ဒိုင်းတွေကိုင်ပြီး လမ်းလျှောက်ချီတက်လာနေတာ တွေ့နေရပါပြီ။ ခပ်လှမ်းလှမ်းလောက် ရောက်တဲ့အချိန်မှာ ကျွန်တော်တို့ဘက်က ဘာမှ ခုခံမယ့်ပုံ မရှိမှန်း သိရှိသွားကြပုံ ရပါတယ်။ ဒိုင်းတွေကိုထားခဲ့ပြီးတော့ လမ်းလျှောက်လာကြပါတယ်။ ကျွန်တော်တို့နား ရောက်လာတဲ့အချိန်မှာ လုံထိန်းတွေကို ကြည့်လိုက်တော့ တချို့တပ်သားတွေဟာ တော်တော်ငယ်တာ တွေ့ရပါတယ်။ သူတို့ရဲ့ခေါင်းဆောင် ဗိုလ်မှူးက ဖမ်းဆွဲခေါ်ဖို့ အမိန့်ပေးပေမယ့် သူတို့တွေဟာ တွန့်ဆုတ်နေပုံရပါတယ်။ အများစုက ကျောင်းသားအရွယ်တွေပါ။ ဝန်းရံထောက်ခံတဲ့ ပြည်သူတွေပါပေမယ့်။ တော်တော်များများက အနောက်ဘက်နဲ့ အထဲရောက်နေကြပါတယ်။ နောက်ဆုံးတော့ သူတို့ခေါင်းဆောင်ကိုယ်တိုင် ဆဲဆိုပြီး အတင်းဝင်ဆွဲ၊ ဝင်ရိုက်ခိုင်းတော့တာပါပဲ။ လူတွေအားလုံး လက်တွေချိတ်ထားကြလို့ ဆွဲထုတ်လို့ မရပါဘူး။ ကျွန်တော်လည်း ခေါင်းတွေ၊ ပခုံးတွေ အရိုက်ခံ ရပါတယ်။ အားလုံးက အရိုက်ခံရတဲ့အချိန်မှာ လူစုကွဲပြီး ကားတွေပေါ်ကို ဆွဲတင်လို့ ရသွားပါတယ်။ ကျွန်တော်လည်း ကားတစ်စင်းပေါ် ရောက်သွားပါတယ်။ ကျွန်တော်ကားပေါ်ရောက်လို့ အသံတွေ နားထောင်ကြည့်တဲ့အခါမှာ ကျောင်းသားတွေက လုံထိန်းတွေ၊ စစ်သားတွေအပေါ် နာကြည်းခံပြင်းတဲ့ စိတ်နဲ့ ပြောနေကြတာတွေ ကြားရပါတယ်။ အောက်မှာရှိနေတဲ့ လုံထိန်းတစ်ယောက်ကို ကျောင်းသားတစ်ယောက်

က 'ငါတို့ဆန္ဒပြတာ မင်းတို့ဘဝတွေအတွက်ပါ ပါတယ်၊ မင်းတို့ ရက်စက်တယ်' ပြောတော့ လက်ပေါ်မှာ စာရေးဟန်ပြပြီး စာရေးတိုင်လို့ ပြောနေပုံကို တွေ့ပါတယ်။ ကျွန်တော်လည်း သူတို့ကို အပြစ်တင်မနေဖို့ပြောပြီး ဘယ်သူတွေ ကြီးကြီးမားမား ဒဏ်ရာရလဲ မေးတော့ ဆိုးဆိုးရွားရွား ထိခိုက်တာမရှိဘူး သိရပါတယ်။ TE 11 ကားတွေ၊ ဒိုင်နာကားတွေပေါ် ကျွန်တော်တို့ ကျောင်းသားတွေကို တင်ပြီး ထွက်တော့လမ်းမှာ ကျောင်းသားတစ်ယောက် ကားပေါ်က ခုန်ချပြီး ထွက်ပြေးသွားတာ တွေ့လိုက်ရပါတယ်။ နောက်မှ သိရတာက သူဟာ ဘူမိဗေဒက ကျောင်းသားဖြစ်တဲ့ မင်းသန်းထွဋ်ပါ။ သူလွတ်သွားပါတယ်။ ဒါပေမယ့် ထိုင်းနိုင်ငံနယ်စပ်မှာ ဆုံးသွားပြီလို့ ကြားရပါတယ်။

## အစ်ကိုတို့ကို ဘယ်နေရာခေါ်သွားတာလဲ၊ ဘာတွေဆက်ဖြစ်သေးလဲ။

ကျွန်တော်တို့ကို ကျိုက္ကစံကွင်းက ဆရာစံခန်းမကို ခေါ်သွားပါတယ်။ ကျိုက္ကစံကွင်းကို ရောက်လို့ ကားတွေရပ်တဲ့အချိန်မှာ ကျွန်တော် ကားပေါ်က ဆင်းပြီး နောက်ကားတွေက ဆင်းလာတဲ့သူတွေကို နှုတ်ဆက်ရင်း အခြေအနေ စုံစမ်းပါတယ်။ မိန်းကလေးတချို့ လက်မောင်းမှာ တုတ်နဲ့ရိုက်ထားလို့ တုတ်ရာတွေ နီရဲနေတာ တွေ့ရပါတယ်။ သူတို့ကတော့ ပြုံးပြုံးရွှင်ရွှင်နဲ့ ဘာမှမဖြစ်ပါဘူးလို့ ပြန်ဖြေပါတယ်။ ကျွန်တော် လေးစားချီးကျူးမိပါတယ်။ အားလုံးနီးပါး မျက်နှာတွေက ကြည်ကြည်လင်လင်ပါပဲ၊ စိုးရိမ်ထိတ်လန့်စိတ်တွေ ရှိမနေပါဘူး။ ကျွန်တော်တို့ကို လူတွေစုထိုင်ခိုင်းပြီး RIT နဲ့ ဝိဇ္ဇာသိပ္ပံ အုပ်စုတွေ ခွဲလိုက်ပါတယ်။ RIT ကျောင်းသားတွေကို ကျောင်းက ဆရာတွေနဲ့ တိုက်စစ်ပြီး ခုံတွေပေါ် ထိုင်ခိုင်းပါတယ်။ ကျန်တဲ့ ကျောင်းသားတွေကိုတော့ သမံတလင်းမှာပဲ ထိုင်ခိုင်းထားပါတယ်။ ခဏကြာတော့ ကျောင်းသားချင်း ခွဲခြားဆက်ဆံတာ လက်သင့်မခံတဲ့အကြောင်း ပြောသံကြားလိုက်ရလို့ ကျွန်တော်တို့လည်း သတိထားမိပြီး ခုံတွေပေါ်မှာ ထိုင်မိတဲ့သူအားလုံး အောက်မှာ ပြန်ဆင်းထိုင်ကြပါတယ်။ အဖမ်းခံရတဲ့ လူ (၇၀၀) ကျော်မှာ RIT ကျောင်းသားက တော်တော်နည်းတာ တွေ့ရပါတယ်။ ခဏကြာတော့ ကျွန်တော့်ကို စစ်ဆေးမေးမြန်းစရာရှိလို့ဆိုပြီး ထောက်လှမ်းရေး (MI) က လူတစ်ယောက် လာခေါ်ပါတယ်။ ကျွန်တော်လိုက်သွားတော့ နာမည်၊ အဖေနာမည်၊ ကျောင်း၊ အတန်း၊ လိပ်စာတွေ မေးပါတယ်။ ဘာကြောင့် ဆန္ဒပြရတာလဲ မေးပါတယ်။ ပြီးခါနီးမှာ

ကျွန်တော့်နာမည်နဲ့ အဖေနာမည် တွဲရေးထားတဲ့ သစ်သားဘုတ်တစ်ခုကို ကိုင်ခိုင်းပြီး ဓာတ်ပုံရိုက်ဖို့ လုပ်ပါတယ်။ ကျွန်တော်က လက်မခံနိုင်ဘူး တရားခံ မဟုတ်ဘူးလို့ ငြင်းဆန်ပြီး နေရာက ထထွက်လာခဲ့ပါတယ်။ ကျွန်တော့် လက်ကို လှမ်းဆွဲပေမယ့် ရုန်းထွက်လိုက်ပြီး ထွက်လာတော့ နောက်မှာ ကျန်ခဲ့ပါတယ်။ ကျွန်တော်လည်း ခေါင်းရိုက်ခံထားရတဲ့ ဒဏ်ရာနဲ့ နည်းနည်း မူးသလိုဖြစ်နေ၊ တစ်နေ့လုံး တစ်ညလုံး ပင်ပန်းထားတာကြောင့် ခဏပြန် မှိန်းနေတုန်း မော်ကွန်းထိန်းဖြစ်တဲ့ ဆရာဦးလှကြီးကိုခေါ်ပြီး ကျွန်တော့်ကို မေးစရာကျန်သေးလို့ လာခေါ်ရာ မလိုက်နိုင်ကြောင်း ပြောပါတယ်။ ဆရာ ဦးလှကြီး ကတော့ ကိုယ်လုပ်ထားတာ ကိုယ်ပြောဖို့ တာဝန်ရှိတဲ့ အကြောင်း အာဏာပိုင်ဘက်က မှန်နေသလို ကျွန်တော့်ကို ပြောနေပါတယ်။ ကျွန်တော် မလိုက်ပဲနေတော့ MI က ပြန်သွားပါတယ်။ ကျောင်းသားတွေလည်း ခဏ အနားရသွားပြီး အချင်းချင်းစကားပြောရင်း စုဖွဲ့ဖြစ်သွားတော့ အားလုံး တက်တက်ကြွကြွ ပြန်ဖြစ်နေကြပါတယ်။ အချင်းချင်း လက်ခုပ်တီး အားပေး ဂုဏ်ပြုတာတွေ တွေ့နေရပါတယ်။ နောက်ပိုင်းမှာ ကျွန်တော်ရယ်၊ အောင်ခိုင် ရယ်၊ နောက်တစ်ယောက် (နာမည်မမှတ်မိတော့)ရယ်ကို ဗိုလ်မှူးချုပ် သန်းထွန်းကို တွေ့ဖို့ဆိုပြီး လာခေါ်ပါတယ်။ ဗိုလ်မှူးချုပ် သန်းထွန်းနဲ့ တွေ့တဲ့ အချိန်မှာ သူက ကျွန်တော်တို့ကို ပြန်လွှတ်မှာဖြစ်ကြောင်း၊ ကောင်းကောင်း မွန်မွန် နေစေချင်ကြောင်း၊ အစိုးရဘက်က လုပ်နိုင်တာတွေ လုပ်ပေးနေ ကြောင်း၊ ကျောင်းဆောင်တွေ၊ အိမ်သာတွေ ပြုပြင်တည်ဆောက် ပေးနေ ကြောင်း ပြောပါတယ်။ ဖုန်းခေါ်သံ ကြားရပြီး ကျွန်တော်တို့ကို အမြန်ပြန်လွှတ် ပေးဖို့ တောင်းဆိုနေလို့ အမြန်ပြန် လွှတ်ပေးဖို့၊ ပညာရေးဝန်ကြီးက ဖုန်းဆက် ပြောနေပုံရပါတယ်။ ကျွန်တော်တို့ ပြန်ရတော့မယ်ဆိုတာ သိရလို့ ကျောင်းသားနဲ့ အရပ်သားတွေထားတဲ့ နေရာကို ပြန်သွားပြီး အရပ်သားတွေ ရှိတဲ့နေရာကို အခြေအနေမေးပါတယ်။ (၉-၁၀) တန်းအရွယ် မိန်းကလေးတွေ တွေ့တော့ သူတို့ ဘယ်အစုထဲ ထိုင်ရမှန်း မသိဘူးလို့ ပြောလို့ ရန်ကုန် ဝိဇ္ဇာသိပ္ပံအုပ်စုထဲ သွားထိုင်နေလို့ ပြောလိုက်ရပါတယ်။

## အစ်ကိုတို့ကို လွှတ်လိုက်သလား၊ အရပ်သားတွေကိုရော ဘာလုပ်သလဲ။

လိုက်လံနှုတ်ဆက်အားပေးရင်းနဲ့ တချို့အရပ်သားလူကြီးတွေက သူတို့ကိုရော လွှတ်ပေးဖို့ မေးတဲ့အချိန်မှာ သူတို့ကျန်ခဲ့ဦးမယ်ဆိုတာ ကျွန်တော် သိသွားပါတယ်။ ကျွန်တော်တို့ ကျောင်းကို ပြန်ပို့ပေးဖို့ ကားတွေ ရောက်လာတော့ ကျောင်းသားတွေဟာ ပျော်ရွှင်မှုနဲ့ ကားပေါ်တက်ဖို့ ပြင်နေပါတယ်။ ကျွန်တော် လည်း အနားမှာရှိနေတဲ့ MI တစ်ယောက်ကို ဗိုလ်မှူးချုပ်သန်းထွန်းနဲ့ စကား ပြောစရာရှိလို့ မပြန်နိုင်သေးဘူး၊ ခေါ်ပေးဖို့ ပြောလိုက်ပါတယ်။ ဆရာ ဦးလှကြီး ကတော့ ကျွန်တော့်ကို မင်းတို့က လွှတ်ပေးတာတောင် မပြန်ချင်ဘူးဆိုပြီး ပြောနေပါတယ်။ ခဏကြာတော့ ဗိုလ်မှူးချုပ်သန်းထွန်း ရောက်လာပြီး မေးပါ တယ်။ ကျွန်တော်က အရပ်သား ဝန်းရံပြည်သူတွေဟာ ကျွန်တော်တို့ကို ထောက်ခံပြီး ပါလာတာဖြစ်လို့ သူတို့ကိုလည်း လွှတ်ပေးဖို့ ပြောပါတယ်။ သူက ဒီလူတွေကို မကြာခင် လွှတ်ပေးမှာပါ။ နည်းနည်းစစ်ဆေးမေးမြန်းစရာရှိသေး လို့ မလွှတ်သေးတာပါလို့ ပြန်ဖြေပါတယ်။ ကျွန်တော်လည်း လွှတ်ပေးမယ့် အကြောင်း သူတို့ကို လိုက်ပြောပေးပါ။ အဲ့ဒါမှ ကျွန်တော်တို့ ပြန်နိုင်မယ်လို့ ပြောတော့ သူလည်း ပြည်သူတွေစုထိုင်နေတဲ့ နေရာကို လိုက်လာပြီး သူတို့ကို မကြာခင် ပြန်လွှတ်ပေးမှာဖြစ်တဲ့အကြောင်းပြောပြီး ရှင်းပြပါတယ်။ ကျွန်တော့် နာမည်၊ အတန်းပြောပြီး တစ်ခုခုထူးခြားတာ ဖြစ်ခဲ့ရင် ကျောင်းကို လာပြောဖို့ ပြောပြီး ကျောင်းသားတွေနဲ့ RIT ကို ပြန်လာခဲ့ပါတယ်။ RIT ကို ပြန်ရောက်တော့ Building 1 ပင်မ အဆောက်အအုံရဲ့အောက်မှာ ကျွန်တော် တို့ရဲ့ဖြစ်စဉ်ကို ရှင်းပြပြီး အကြမ်းဖက်နှိမ်နင်းမှုကို ရှုတ်ချကန့်ကွက်ကြောင်းနဲ့ တောင်းဆိုချက်တွေ မရမချင်း သပိတ်မှောက်ဆန္ဒပြသွားမှာဖြစ်ကြောင်း ကျောင်းသူ၊ ကျောင်းသားတွေကို တစ်ယောက်စီ ပြောဆိုရှင်းပြကြရင်း လူစုခွဲ လိုက်ကြပါတယ်။ အဲ့ဒီနေ့က ဒီဇင်ဘာလ (၃) ရက်နေ့ပါ။

## နောက်ရက်တွေကျတော့ရော။

ဒီဇင်ဘာ (၄) ရက်မှာ ကျွန်တော်ကျောင်းကိုရောက်တော့ စက်မှုတက္ကသိုလ် ကျောင်းသားတွေဟာ ကျောင်းဆောင်တွေမှာ လှည့်လည် ဆန္ဒပြနေတာ ကြားရပါတယ်။ ကျွန်တော်နဲ့ ပင်မဆောင်၊ Building 1 မှာဆိုတော့ ကျောင်းသားတွေအပေါ် အစိုးရရဲ့ အကြမ်းဖက်ဖြေရှင်းမှုကို ဆန့်ကျင်

ကန့်ကွက်တဲ့အနေနဲ့ ဆက်ပြီး သပိတ်မှောက်ဆန္ဒပြကြဖို့ အားလုံးသဘောတူ ဆုံးဖြတ်ခဲ့ကြတယ်။ ကျန်တဲ့တက္ကသိုလ်တွေ ကျောင်းတွေနဲ့ မချိတ်ဆက်ရ သေးလို့ ကျောင်းအပြင်မထွက်ကြဖို့ ပြောပြီး လူစုခွဲလိုက်ကြပါတယ်။ ဒီဇင်ဘာ (၆) ရက် မနက် ကျောင်း မသွားခင် ကျွန်တော့်ကို ထိန်းသိမ်းဖို့ ပြန်ကြားရေး ဝန်ကြီး ဗိုလ်ချုပ်အေးကျော်ရဲ့ ရုံးကလွှတ်လိုက်တဲ့လူတွေ ရောက်နေပါပြီ။ ကျွန်တော့်ကို ပြန်ကြားရေးရုံးမှာ ထိန်းသိမ်းထားတာ တစ်လနီးပါး ကြာပါ တယ်။ သတင်းစာရှင်းလင်းပွဲလုပ်တဲ့နေ့မှာ ပြန်လွှတ်ပေးပါတယ်။ ကျွန်တော် ပြန်လွတ်လာပြီး ဇန်နဝါရီလထဲမှာ ဆန္ဒပြမှုထဲမှာပါတဲ့ ကျောင်းသားတွေနဲ့ ပြန်ဆုံဖြစ်ပြီး အားလုံးပုံမှန် ပြန်စုဆုံချိတ်ဆက်နိုင်ဖို့အတွက် လှည်းတန်း၊ ဖေယျာသီရိလမ်းထဲမှာ အမြင်သစ်စာအုပ်ဆိုင် ဖွင့်ဖြစ်ပါတယ်။ ၁၉၉၇ မေလ (၁) ရက်နေ့မှာ စဖွင့်ခဲ့တာပါ။ ကျောင်းသားအများစု ချိတ်ဆက်မိသွားချိန်မှာ စက်မှုတက္ကသိုလ်က တတိယနှစ်မြို့ပြ ကျောင်းသူ မအောင်မိခိုင် ကားတိုက် ခံရပြီး သေဆုံးသွားတဲ့အကြောင်း၊ ‘ဝ’ ငြိမ်းချမ်းရေး အဖွဲ့ခေါင်းဆောင် တစ်ယောက်ရဲ့ ကားနဲ့တိုက်မိတာဖြစ်ပြီး တာဝန်မယူပဲ ကားမောင်းပြေး ကြောင်း ကျွန်တော်တို့ဆီ သတင်းရောက်လာပါတယ်။ တရားခံကိုဖမ်းပြီး တရားရုံးမှာ အမှုဖြစ်စဥ်ကို ကြားနာနေချိန်တွေမှာ ကျောင်းသားတွေ သွားရောက်လေ့လာ စုံစမ်းမေးမြန်းကြပါတယ်။ MI-7 တပ်မှူး ဗိုလ်မှူး လှသက်မောင် ဆီကိုလည်း အမှုကို တရားမျှတစွာ အရေးယူ ဖြေရှင်း ဆောင်ရွက်ပေးဖို့ စာရေးပြီး ပို့ခဲ့ပါတယ်။ နောက်ရက်တွေမှာ ကျွန်တော် အပါအဝင် ကျောင်းသားရှစ်ယောက်ကို ဖမ်းတော့တာပါပဲ။ အားလုံး ထောင် ခုနှစ်နှစ်စီ အပြစ်ပေးခံရပါတယ်။

## ဒီ ၁၉၉၆ ကျောင်းသားလှုပ်ရှားမှုရဲ့ရလဒ်က ဘာလို့ထင်ပါသလဲ အစ်ကို။

ဒီဇင်ဘာ ကျောင်းသားလှုပ်ရှားမှုဟာ အခြားတက္ကသိုလ်၊ ကောလိပ်တွေကို ပျံ့နှံ့ သွားလို့ အစိုးရဟာ ကျောင်းမပိတ်ချင်ပေမယ့် ကျောင်းပိတ်တယ် လို့လည်း တရားဝင်မကြေညာနိုင်ပဲ သင်တန်းတွေ ခေတ္တရပ်နားတယ်ဆိုပြီး ကျောင်းတွေ ပိတ်လိုက်ရပါတယ်။ အဆောင်ကျောင်းသားတွေကိုလည်း အတင်း အိမ်ပြန်ပို့ ပါတယ်။ တက္ကသိုလ်ပေါင်းစုံက ကျောင်းသားတွေရဲ့ ဆန္ဒပြမှုတွေ၊ နိုင်ငံရေး

နိုးကြားမှုတွေ အားကောင်းလာပြီး ဒီဇင်ဘာ (၆) ရက်နဲ့ (၉-၁၀-၁၁) ရက်တွေမှာ အင်းစိန် GTI နဲ့ ဆေးတက္ကသိုလ်၊ ဒဂုံတက္ကသိုလ် အပါအဝင် အခြား ကျောင်းတွေ၊ ကောလိပ်တွေမှာ ကျောင်းသားလှုပ်ရှားမှုတွေ ဖြစ်ခဲ့ပါတယ်။ နောက်ပိုင်းမှာ မန္တလေး၊ မော်လမြိုင် စတဲ့မြို့တွေက တက္ကသိုလ်တွေကို ကူးစက်ပျံ့နှံ့သွားပါတော့တယ်။ ဒီဇင်ဘာကျောင်းသားလှုပ်ရှားမှုကို နဝတ အစိုးရဟာ အကြမ်းဖက်နှိမ်နင်းပြီး ရပ်တန့်သွားအောင် လုပ်နိုင်ခဲ့ပေမယ့် ကမ္ဘာ့အလယ်မှာ သိက္ခာကျအရှက်ကွဲခဲ့ပါတယ်။ ငြိမ်းချမ်းစွာ ဆန္ဒပြနေတဲ့ ကျောင်းသားပြည်သူတွေကို အကြမ်းဖက်ဖြိုခွဲနေတဲ့ ရုပ်သံမှတ်တမ်းတွေကို ရန်ကုန်မှာရောက်ရှိနေတဲ့ နိုင်ငံတကာသတင်းထောက်တွေ ကနေတစ်ဆင့် ကမ္ဘာတစ်ဝန်းက ပြည်သူတွေနဲ့ အစိုးရတွေဟာ မျက်မြင်ကိုယ်တွေ့ သိရှိသွားခဲ့ ရပါတယ်။ ကမ္ဘာ့သတင်းဌာနကြီးတစ်ခုဖြစ်တဲ့ CNN ကနေပြီး မြို့တော်ခန်းမ ရှေ့မှာ စစ်ပွဲကြီးတွေမှာ သုံးတဲ့ တင့်ကားတွေ ရပ်ထားတာ၊ ဆူးလေစေတီတော် နဲ့ မြို့ထဲမှာ စက်သေနတ်တင်ထားတဲ့ ကားတွေ လှည့်လည်သွားလာနေတာ တွေ ရိုက်ကူးပြသခဲ့ပါတယ်။ အမေရိကန်အစိုးရက နဝတအစိုးရအပေါ် စီးပွားရေးပိတ်ဆို့မှုကို စတင်ခဲ့တယ်။ လွတ်လပ်တဲ့ အာရှအသံ (Radio Free Asia) သတင်းဌာနကို တရုတ်အစိုးရ ကန့်ကွက်တဲ့ကြားက ဟောင်ကောင်မှာ အခြေစိုက်ပြီး ဇန်နဝါရီလ (၁) ရက်မှာ စတင် ထုတ်လွှင့်ခဲ့တယ်။ တိုင်းပြည် တည်ငြိမ်အေးချမ်းလို့ ကျောင်းသားတွေတောင် သူတို့ကို ထောက်ခံနေပြီလို့ ဝင့်ကြွားနိုင်ခဲ့တဲ့ အမျိုးသားပညာရေးကော်မတီ ဥက္ကဋ္ဌ ဗိုလ်ချုပ်ခင်ညွန့်ဟာ အရှိုက်ထိသွားပါတယ်။ ကျောင်းတွေ ပိတ်လိုက်ရပြီး မြို့တော်ဝန် မာရသွန် ပြိုင်ပွဲကြီးကို မလုပ်ရဲတော့ပဲ ဖျက်လိုက်ရတယ်။ (ကျောင်းသားတွေက ဒေါင်းအလံတွေ ထူပြီး တရားလာဟောလိမ့်မယ်ဆိုတဲ့ သတင်းထွက်လာလို့) စိန်ရတုခန်းမဖွင့်ပွဲကို တိုးတိုးတိတ်တိတ်ပဲ လုပ်ခဲ့တယ်။ ကျောင်းတွေ၊ တက္ကသိုလ်တွေကို နယ်ဝေးနဲ့ မြို့ပြင်ကို ခွဲထုတ်တာတွေ၊ ကျောင်းသား အချင်းချင်း သွေးခွဲတာတွေ ပိုပြီးလုပ်လာခဲ့ပေမယ့် ကျောင်းသားတွေဟာ ကျောင်းပိတ်ထားချိန်မှာ အချင်းချင်းချိတ်ဆက်မှု အားကောင်းလာကြပြီး ၁၉၉၈ မှာ နဝတအစိုးရရဲ့ စောင့်ကြည့်တားဆီးကန့်သတ်မှုတွေနဲ့ အခက်အခဲ တွေကြားကပဲ ကျောင်းသားလှုပ်ရှားမှုသမိုင်းကို ဆက်ရေးခဲ့ကြပါတယ်။ မြန်မာ့ ဒီမိုကရေစီ ပြုပြင်ပြောင်းလဲရေး ကြိုးပမ်းမှုသမိုင်းမှာ အရေးကြီးရင် သွေးစည်း

ခဲ့ကြတဲ့ ၁၉၉၆ ဒီဇင်ဘာ ကျောင်းသားလှုပ်ရှားမှုပါပဲ။ ပူးပေါင်းပါဝင်ခဲ့ကြတဲ့ ကျောင်းသားပြည်သူတွေအားလုံးကို အစဉ့်လေးစား ဂုဏ်ယူပါတယ်။

## ပြန်လွတ်လာတဲ့အခါ အစ်ကို ဘာဆက်လုပ်ဖြစ်ပါသလဲ။

ကျောင်းပြန်တက်ဖို့ ကြိုးစားတဲ့အချိန်မှာ ကျောင်းတက်ခွင့်မရဘူး။ အဲတုန်းက သိပ္ပံနဲ့နည်းပညာဝန်ကြီးဖြစ်တဲ့ ဦးသောင်းက သန်းရွှေနဲ့ တစ်ပတ်စဉ်တည်း ဆင်းတဲ့ အုပ်စုလည်းဖြစ်ပြီးတော့ ပါဝါကြီးနေတဲ့အချိန်ဆိုတော့ သူ့ခြေ သူ့လက်ဖြစ်နေတယ်။ MI က သူတို့မှာ တားမြစ်ထားတာမရှိပါဘူး၊ ကျောင်း တက်ခွင့်ကို သူတို့ လိုက်မပိတ်ပင်ထားပါဘူးလို့ ပြောပေမယ့်လည်း ဦးသောင်း ကနေပြီးတော့ ဦးသောင်းရဲ့ သိပ္ပံနဲ့နည်းပညာဌာနဝန်ကြီးရုံးက စာထုတ်ပြီး ကိုယ့်ရဲ့ကျောင်းတက်ခွင့် လျှောက်ထားချက်စာကို ပယ်ချတယ်။ သူတို့ လက်မခံဘူးပေါ့။ အေးချမ်းစွာ ပညာသင်ကြားရေးကို အနှောင့်အယှက် ဖြစ်နိုင် တဲ့အတွက် လက်ခံခြင်းမပြုပါရန် ဆိုပြီးတော့ အကြောင်းကြားစာဆိုပြီး ထုတ်ပြန်ပြီးတော့ ဝန်ကြီးကိုယ်စား ရုံးကနေပြန်လာတယ်။ ပါချုပ်တွေ ဆရာ၊ ဆရာမတွေက ကိုယ့်ကို လိုလိုလားလား လက်ခံပေမယ့် အဲဒီ သိပ္ပံနဲ့ နည်းပညာ ဝန်ကြီး ဦးသောင်းက ပယ်လို့ မတက်ဖြစ်လိုက်ဘူး။

## အဲဒီနောက်ပိုင်းမှာ အစ်ကို ဘာတွေ ဆက်လုပ်ဖြစ်ပါသလဲ။

ကိုမင်းကိုနိုင်၊ ကိုကိုကြီးတို့ ကိုပြုံးချိုတို့ လွတ်လာတဲ့ နောက်ပိုင်းမှာတော့ ၈၈ မျိုးဆက်ကျောင်းသားများအဖွဲ့ တည်ထောင်ရာမှာ ပူးပေါင်းပါဝင်ပြီးတော့ လှုပ်ရှားခဲ့တယ်။ နောက်တော့ ၂၀၀၇ ရွှေဝါရောင်တော်လှန်ရေးဖြစ်တယ်။ တိမ်းရှောင်ရင်း နိုင်ငံရေးဆက်လုပ်တယ်။ ကိုယ်ကတော့ အဖမ်းမခံရပဲနဲ့ မျက်ကွယ်ထောင်ဒဏ် ခြောက်ဆယ့်ငါးနှစ်တော့ ချခံရတာပေါ့နော်။ ကိုပေါ်၊ ကိုမြအေး၊ ဦးကိုကိုကြီးတို့နဲ့အတူ ကိုယ်နဲ့ ကိုထွန်းမြင့်အောင်ကို မျက်ကွယ်ထောင်ဒဏ်ချတယ်လို့ သိခဲ့ရတယ်။ ထောင်ဒဏ် ခြောက်ဆယ့်ငါးနှစ် အားလုံးချခဲ့တာ။ ပြည်တွင်းမှာပဲ တိမ်းရှောင်ပြီး နိုင်ငံရေးဆက်လုပ်တယ်။ ၂၀၁၂ ခုနှစ်၊ ၈၈ အုပ်စု လွတ်လာတဲ့အချိန်မှာ ၈၈ မျိုးဆက် ငြိမ်းချမ်းရေးနှင့် ပွင့်လင်းလူ့အဖွဲ့စည်း ဖွဲ့ပြီးတော့ ဆက်လှုပ်ရှားတယ်။ ငြိမ်းချမ်းရေးနဲ့ အမျိုးသားပြန်လည်သင့်မြတ်ရေးကိစ္စတွေမှာ ကိုမြအေးနဲ့အတူတူ ပါဝင် ဆောင်ရွက်သလို ပညာရေးနဲ့ ပြန်လည်ထူထောင်ရေးဆိုင်ရာဌာန တာဝန်ခံတစ်ယောက်အနေနဲ့ တာဝန်ယူပြီးတော့ ဆောင်ရွက်တယ်။

iSchool-Myanmar ကိုတည်ထောင်ပြီး သတင်းနည်းပညာ ချိတ်ဆက်အသုံးပြုပြီး လူမှုအဖွဲ့အစည်းတွေ အားကောင်းလာဖို့၊ ငြိမ်းချမ်းရေးအတွက် အားလုံးပါဝင်ဆောင်ရွက်နိုင်ဖို့ သင်တန်းတွေ၊ ဆွေးနွေးပွဲတွေ လုပ်ဆောင်နိုင်ခဲ့တယ်။ မြန်မာနိုင်ငံ ပညာရေးစနစ် ပြုပြင်ပြောင်းလဲဖို့အတွက် National Network for Education Reform ပညာရေးစနစ်ပြုပြင်ပြောင်းလဲရေးနိုင်ငံလုံးဆိုင်ရာကွန်ရက်ထဲမှာ ပါဝင်ပြီးတော့ လှုပ်ရှားခဲ့တယ်ပေါ့နော်။ အဲမှာ ဗကသ ကျောင်းသားတွေနဲ့ တွဲပြီးတော့ ပညာရေးစနစ်ပြုပြင်ပြောင်းလဲရေးကိစ္စတွေ၊ မူဝါဒတွေချမှတ်ရေးနဲ့ ဥပဒေတွေ ပြင်ဆင်ရေးပေါ့နော်။ အဲဒီ ကိစ္စတွေကို ဗကသကျောင်းသားတွေနဲ့အတူ လက်တွဲဆောင်ရွက်ခဲ့တယ်။

နောက်ပိုင်းမှာတော့ ကိုမြအေးတို့နဲ့ လက်တွဲပြီး ငြိမ်းချမ်းရေးနဲ့ အမျိုးသားပြန်လည်သင့်မြတ်ရေး၊ တိုင်းရင်းသားအခွင့်အရေးကိစ္စတွေမှာ ဆောင်ရွက်ဖို့အတွက်ကို FDF လို့ခေါ်တဲ့ Federal Democratic Force ဖွဲ့စည်းရာမှာ ပါဝင်ခဲ့ပြီးတော့ ပူးပေါင်းဆောင်ရွက်ခဲ့တယ်။ နောက်ပြီး တော့လည်း 'ငြမ်း' ဆိုတဲ့ ဆိုရှယ်မီဒီယာတစ်ခုမှာ မိတ်ဆွေရဲဘော်တွေနဲ့အတူ ပူးတွဲတည်ထောင်ပြီးတော့ Nyan Media Group မှာလည်း သတင်းစီးဆင်းမှု မှန်ကန်မြန်ဆန်ဖို့

တိုင်းရင်းသားတွေရဲ့ တန်းတူအခွင့်အရေးနဲ့ ကိုယ်ပိုင် ပြဋ္ဌာန်းခွင့် ကိစ္စတွေ အပါအဝင် ငြိမ်းချမ်းရေး အမျိုးသားပြန်လည်သင့်မြတ်ရေးအတွက်ကို မှန်ကန်တဲ့ သတင်းအချက်အလက်တွေနဲ့ စစ်မှန်တဲ့ ငြိမ်းချမ်းရေး တည်ဆောက်နိုင်ဖို့ အတွက်ကို မှန်ကန်တဲ့ သတင်းအချက်အလက်တွေပေးတဲ့ သတင်းဌာနအဖြစ်နဲ့ ရပ်တည်နိုင်အောင် ပါဝင်ဆောင်ရွက်ခဲ့တယ်။ အဲမှာတော့ Chief Executive Officer အနေနဲ့ လုပ်ခဲ့တယ်။ လွတ်လပ်စွာ သင်းပင်း ဖွဲ့စည်းခွင့်အတွက် အရပ်ဘက်အဖွဲ့စည်းတွေနဲ့ လက်တွဲပြီးတော့လည်း အသင်းဖွဲ့များဆိုင်ရာ ဥပဒေ၊ အသင်းဖွဲ့ဆိုင်ရာ လွတ်လပ်ခွင့်နဲ့ ပတ်သက်တဲ့ နည်းဥပဒေတွေ ပြဋ္ဌာန်းနိုင်ဖို့အတွက်လည်း နေပြည်တော်မှာ သက်ဆိုင်ရာ လွှတ်တော်ကော်မတီတွေနဲ့ သွားပြီးတော့ ဆွေးနွေးပွဲ၊ တွေ့ဆုံပွဲတွေမှာ တက်ပြီး ပါဝင်ပူးပေါင်း ဆောင်ရွက်ခဲ့တယ်။ တခြားလူမှုရေးလုပ်ငန်းတွေလည်း လုပ်ဖြစ်တယ်ပေါ့လေ။ ဒီနောက်ပိုင်း နိုင်ငံရေးအကျဉ်းသားတွေ ကျန်းမာရေးစောင့်ရှောက်ဖို့ အတွက်ကိုလည်း အရေးကြီးတဲ့ တာဝန်တစ်ခုအနေနဲ့ နိုင်ငံရေးအကျဉ်းသားများ ကူညီစောင့်ရှောက်ရေးစင်တာ ဆိုပြီးတော့ Healthcare Center For Political Prisoners ပေါ့။ အဲအဖွဲ့ကို မဖြုဖြုသင်းအပါအဝင် တခြားနိုင်ငံရေး အင်အားစုတွေနဲ့ လက်တွဲပြီး ပူးပေါင်းဆောင်ရွက်ခဲ့တယ်။

# Interview with Spring Revolution Student Leader Min Han Htet

**Kaung Sithu**

## Abstract

In this June 2022 interview, Kaung Sithu asks student leader Min Han Htet about student unions, politics, the nature of revolution and the transition from peaceful to armed resistance since the 2021 military coup. Min Han Htet was elected to the Dagon University Student Union's Central Executive Committee in 2018 and to the position of chair in 2020. He co-founded the Student Armed Force in September 2021, the first student-based armed force since the founding of the All Burma Students' Democratic Front (ABSDF) in 1988.

## How do you understand the history and traditions of student unions in Myanmar?

Although it can be said that student unions were born from universities, their birth was beautifully meaningful, since in their infancy they worked solely for revolution and independence. For me, I prefer to understand revolution as the primary reason that student unions emerged. Student unions also led anti-military dictatorship movements several times since independence. So, they have this high reputation in history. Most importantly, student unions have had consistency and integrity, meaning that student unions have actively participated in political movements over time much more consistently than any other group. The student unions are closer to the people and to students than other organizations. They represent the latter's voices. The student union has an unassailable tradition of always standing united alongside the oppressed in fighting against oppression.

## Given that your parents and grandparents came from a political background, what was your early life like?

There was nothing particularly unique or peculiar about my early life. I was not book-smart, I did not receive high grades at school. I was not good at sports either. Just an ordinary kid. But despite my lack of direct exposure to politics [outside the home] when I was young, I always heard about these things indirectly, through the bedtime stories I was told.

The 1988 uprisings are at the center of my parents' and grandparents' political experiences. I don't mean to brag, but my family has been involved in politics for a long time. You see, my father was a university student majoring in mathematics at the time of the 1988 uprisings. He participated in the revolution like many other people. In 1988 there were self-administration units formed by the people for each township, similar to at the beginning of the Spring Revolution in 2021. When these units were crushed, my father left the city to join the armed insurgency somewhere in southern Burma, but he was detained by the military in Mawlamyine Township and imprisoned. My mother, as a student at the Hlaing campus of Rangoon University, was involved in revolution awareness campaign activities such as distributing and posting papers. My grandfather was fired from his government position for participating in the 1988 uprising and joined the National League for Democracy. My parents also helped and supported the people during the 2007 Saffron Revolution.

## At what age did you first comprehend what politics was and when were you first exposed to it?

There was this one memorable event when I was young. The military was about to reconvene a 'National Convention' to draft what became the 2008 Constitution. At that time, the convention was all over the national television news daily, and I would watch it with my family. I thought it was nothing when the military generals attended the convention in traditional Bama

dress rather than in their military uniforms. But my parents' eyes were filled with resentment when they saw it. They frowned and tut-tutted in disappointment. I heard my father say, "We should have killed them all in 1988". In my naivety I thought, "Why is my father having murderous thoughts, is he a bad man?".

I still understood very little when the 2007 Saffron Revolution occurred. But I at least noticed political unrest here and there in Yangon; I knew something was going on. When I heard that the 'revolution' had risen, I thought, "What revolution?". I did not know why it had occurred. I remember monks going in and out of our house, lodging at our home, and our parents also donating things to them. I vividly remember my parents taking monks in and hiding them at our place when the military cracked down on them.

## How about reading? What kind of books do you like to read?

I love reading. I do not differentiate between categories, so long as I can access it, I will read it, ever since I was little, I would take and read the books from my parents' shelves. By the time I was in third or fourth grade, I started getting addicted to reading fiction. My father was a fan of writer Nyein Kyaw, so his shelf was filled with his books. My first exposure to literature was Nyein Kyaw's works. That was the beginning of my reading journey. After that, I started to read books written about university life, history books, biographies, and political texts. My father's bookshelf held books about politics. I remember the books were so old, some did not even have their original covers anymore; they would have this cardboard paper folded to contain the pages, with the names of the authors handwritten on them. Since then and until now I have read a lot.

## Were there any particular books that drew you into politics?

Not in terms of pushing me directly into politics, but there are books that fired my political interests. While written books are one form of stimulation, there are others too, such as what was passed down to me from my parents. The bedtime stories they told me when I was young were about the dark age they had to endure and their experiences, and this drew me into politics. In my childish thinking, I could imagine who the good guys and bad guys were. As I said, my parents participated in the 1988 uprising as students, my dad was imprisoned, they overcame all these ups and downs. It was quite tough for them. So, their stories, narratives, and their accounts provoked my interest in politics, it was like an inheritance gift from them.

Then, I read many stories about student unions and student movements, which had a significant influence on me ever since I was young. When I was in high school, I wanted to get in touch with a student union and work for them, proudly fighting for justice under their peacock flag. When we were young, there were not many books about politics that covered political ideology and such concepts. They were more about the student movements and student unions. Among them were the famous ones: အရှေ့ကနေဝန်းထွက်သည့်ပမာ (*As the Sun Rises from the East*)[1] and သပိတ်မှောက်ကျောင်းသား (*The Protest Student*).[2] We liked them a lot. We were hugely inspired. They had a powerful impact.

## How did you join the student union?

We students were exposed to literature, books, and stories, of university life and the student unions ever since we were young. I dig those kinds of stories and am addicted to them. To my mind, life as a university student and life as a member of the student union are inseparable and indistinguishable. I have desired to become a student union member ever since I was young, even before I went to university.

[1] သိန်းဖေမြင့်၊ ၂၀၁၄။
[2] သိန်းဖေမြင့်၊ ၂၀၁၂။

But still, I did not go straight into the Dagon University Student Union (DUSU) when I started studying there. I first started working for other organizations, for instance, the Dagon University Reading Club. But during this time, I was interacting and relating with the student union. I had contact with the members and leaders. We would engage in dialogues and cooperate and collaborate. Then in 2018, I ran for the position of executive member in the DUSU elections.

Before that, when I was in high school, I was inquisitive about politics. I kind of stood out from my friends. They nicknamed me "future president" and teased me. I remember talking about politics and our country's situation when we had conversations in high school. When I was about to sit for the matriculation exam in 2015, the police beat protesters and dispersed the pro-democracy student mass demonstration in Letpadan Township. When I heard the news, I told my parents that I no longer believed in the system and that I did not want to sit the exam. But my parents insisted that I did. We argued and quarreled. I had to attend university so that I could do more, they said. So even before going to university, the images of student unions, students' battles, and the peacock flag had already been flashing in my mind.

## You were elected as an executive member of the DUSU in 2018 and then as chair in 2020. For what purposes did you run in these elections?

Before running for election in 2018, I served as a focal person for literature and art in the DUSU. I had already worked with other union members on publishing an internal university journal and many other things related to literature. But honestly, I was not very satisfied with my efforts, we faced some challenges and difficulties. Something separating the DUSU from the student body, and perhaps the highest threat to the union in general, was the constant repercussions we suffered from the authorities. We could not do as much advocating for the students as we thought we needed to. These kinds of things. So, I began

thinking of a way to fix this and get the student union closer to the student body at Dagon University to truly, genuinely represent them.

Then when the opportunity arose, I ran for election, eventually becoming chair of the DUSU. My platform was very clear: to bring the student union closer to the students, as mentioned. I also felt like 2020 was an important, pivotal moment in Myanmar politics, and the time was right to run. There were national general elections planned and other political fluctuations, many other events like the COVID-19 pandemic. The DUSU Central Executive Committee (CEC) considered the national political situation all the time; there had been talk between CEC members about a potential military coup long before I joined.

## What are your thoughts and views on student union elections themselves?

Student union elections expose masses of students to the principles of democracy. Because of entrenched military rule in Myanmar, most students do not grow up in a democracy and lack experience with democratic elections and voting before they reach university. So, union elections are like their first experience of a democratic system where their votes are considered important. That is pretty much what a democratic system is about.

## When you were chair of the DUSU, the students were not really in favor of the union. Why?

That is true. When I was serving as chair, there was tension between the union and the students. The student union and the students were divided by espionage. This is one reason why I intended to bring the DUSU closer to its students. The reputation of the student union had been systematically sullied. There were a lot of such instances.

Then, the so-called 'government' began forming non-political students' associations. While students have the right to

associate, this right has long been curtailed by the condition that "they must not be involved in any political affairs". The authorities planted this ideology in the student body so deeply. It is immensely troublesome. It reached the point where students perceived the student union as not doing its job stepping outside its bounds, meaning, getting involved in politics.

The students needed motivation for political spirit and awareness. With such a vision, we can make our voices heard and stand together with the oppressed. Our voices at the DUSU were loud regarding ethnic affairs. But instead of following our example, the students would say, "We need to just do our jobs as students" and, "Politics will be handled by the political parties" ... like that. These waves crashed over us student union members hard. Difficult times. The separation dividing the DUSU from the student body lasted for quite a long time. We could not fix it easily. But since the military coup of 2021, the DUSU and its students have become more united in the revolution. All the students can unanimously stand under the peacock flag. They can now follow the leadership of the student union. So, while there were some very real rough patches in the relations between the students and the union, in times of urgency, the students and the student union are united.

## What did you do for the Dagon University campus as chair of the DUSU before the coup?

The campus is a very important part of the life of a university student. By campus, I mean a lot of things: educational affairs, freedom of association and expression, for instance. But if we think only of the physical infrastructure at Dagon University, we can say that it is weak. Someone without experience would be mesmerized by the way, for example, an alumnus of Yangon University describes its campus in a book about their student life, because good memories of the campus greatly influence the mind. It has seductive power. Unfortunately, the environment and infrastructure of Dagon University could cast no such spell. Conditions are extremely poor.

